မဟာကရုဏာသခင်၊ မီးအိမ်ရှင်

# ဖလောရင့် နိုက်တင်ဂေးလ်

သစ်ဦးဇင်

(မြန်မာပြန်)



# Florence Nightingale

(THE LADY OF THE LAMP)

Basil Miller

## သစ်ဦးဇင်

ဧရာဝတီတိုင်းဒေသကြီး ရေကြည်မြို့နယ် အသုတ်မြို့၌ အဖ ဦးမြဟန်၊ အမိ ဒေါ်တင်ရီတို့က ၂၇ ဖေဖော်ဝါရီ ၁၉၅၂ တွင် မွေးဖွားခဲ့သည်။ မွေးချင်း ငါးယောက်အနက် အကြီးဆုံးသား ဖြစ်၍ အမည်ရင်းမှာ ဦးဝင်းနိုင် ဖြစ်သည်။

အသုတ်မြို့ အစိုးရအထက်တန်းကျောင်းတွင် သူငယ်တန်းမှသည် ဒသမတန်းအထိ ပညာသင်ယူခဲ့ပြီး ၁၉၆၉ တွင် ဒသမတန်း အောင်မြင်ခဲ့သည်။ ရန်ကုန် ပညာရေးတက္ကသိုလ်၌ ဆက်လက် ပညာသင်ယူခဲ့ရာ ၁၉၇၄ တွင် ဘီ၊ အီး၊ ဒီ ဘွဲ့ ရရှိခဲ့သည်။

၁၉၇၅ တွင် ထိန်းသိမ်းခံရပြီးနောက် အထက်တန်းပြကျောင်းဆရာ ခန့်အပ်လွှာထာဝစဉ် ရုပ်သိမ်းပယ်ဖျက်ခြင်း ခံခဲ့ရသည်။ ၁၉၇၆–၁၉၈၈ အထိ ရေကြည်မြို့နယ် ဇရပ်လှကျေးရွာ တွဲဖက်အထက်တန်းကျောင်းတွင် ရပ်ရွာခန့် ကျောင်းဆရာအဖြစ် တာဝန် ထမ်းဆောင်ခဲ့သည်။ ၁၉၈၈ နောက်ပိုင်းတွင် အင်္ဂလိပ်စာပြ ကျူရှင်ဆရာအဖြစ် ၂၀၁၀ ပြည့်နှစ် အထိ အသက်မွေးဝမ်းကျောင်း ပြုခဲ့သည်။

ငယ်စဉ်ကပင် ကဗျာ၊ ဝတ္ထုများ ရေးသားခဲ့သည်။ နဝမတန်း ကျောင်းသားဘဝက ရေးသား ပေးပို့ခဲ့သော 'လူကြောက်ကလေး' ဝတ္ထုတိုကို ဒသမတန်းနှစ် ၁၉၆၈ ခုနှစ် ဇွန်လ ထုတ် "ရှေ့ဆောင်လူငယ်" ဂျာနယ်တွင် စတင် ဖော်ပြခံရသည်။ ထို့နောက် ငွေတာရီ၊ ဂီတပဒေသာ၊ စန္ဒာ မဂ္ဂဇင်းများတွင် ဝတ္ထုတို၊ ကဗျာ၊ ရသစာတမ်းများ ရေးသားခဲ့သည်။

တစ်မြို့တည်းနေ သူငယ်ချင်း ဝင်းမောင် [ဖူးသစ် (ကွယ်လွန်)] နှင့် တွဲ၍ "မဟူရာညရဲ့ ရှာပနတေးသံ" ကဗျာများ၊ "အနီထဲက ကြယ်ဖြူပွင့်" ကဗျာများ (ကလောင်စုံ) ကို စာကူးစက်ဖြင့် ထုတ်ဝေ ဖြန့်ချိခဲ့သည်။ 'နီးလော့ ထလော့ ဧရာဝတီ' သီချင်းကို ဖူးသစ်နှင့်အတူ ဖန်တီး ရေးဖွဲ့ခဲ့သည်။

မူလ ကလောင်အမည် 'မောင်ငြိမ်းပြေ' မှ ၂၀၀၅ ခုနှစ်မှ စ၍ 'သစ်ဦးဇင်' ကလောင်အမည် ပြောင်းလဲခံယူကာ မဂ္ဂဇင်းများတွင် ဝတ္ထု၊ ကဗျာ၊ ဆောင်းပါး၊ အက်ဆေးနှင့် ဘာသာပြန် ဝတ္ထုတိုများ ရေးသားခဲ့သည်။ ထုတ်ဝေပြီး စာအုပ်အချို့မှာ **အရှေ့တောင်အာရှ ဝတ္ထုတိုများ** (၂၀၁၆)၊ **မဖြူ** [ရခိုင်မြေမှ ချစ်ပုံပြင်] (၂၀၁၇)၊ **အိန္ဒိယ ဝတ္ထုတိုများ** (၂၀၁၇)၊ ကမ္ဘာ့အထင်ကရ ပုဂ္ဂိုလ်များ စာစဉ်အဖြစ် **ဟယ်ရီဟူဒီးနီ** (၂၀၁၇)၊ လူငယ်များအတွက် ကမ္ဘာ့ဂန္ထဝင်မိတ်ဆက် စာစဉ်အဖြစ် **ရတနာကျွန်း** (၂၀၁၈)၊ **ဂါလီဗာ၏ ခရီးစဉ်** (၂၀၁၈)၊ **ကမ္ဘာတစ်ပတ် ရက် ၈၀** (၂၀၁၈)၊ **သွေးသောက် သုံးဖော်** (၂၀၁၈)၊ **အာသာဘုရင်နှင့် သူ၏သူရဲကောင်းများ** (၂၀၁၈)၊ **မိုဟီကန် နောက်ဆုံးမျိုးဆက်** (၂၀၁၈) တို့ ဖြစ်ကြသည်။

**၂၀၁၇–၂၀၁၉ ထုတ်**
**ရာပြည့်စာအုပ်များ**

၄၄၈။ ပါမောက္ခဦးတင်ရွှေ ၏ စာပေနှင့် စာပေသဘောတရား အဖွင့်
၄၄၉။ မောင်ခင်မင် (ဓနုဖြူ) ၏ အမိတက္ကသိုလ်၏ ရင်ခွင်မှာ
၄၅၀။ မာန်မြင့် ဝတ္ထုတိုပေါင်းချုပ်
၄၅၁။ ဟန်ဝင်းအောင် ၏ ၁၄/၁၅/၁၆
၄၅၂။ သခင်ဘသောင်း ၏ ခြေလေးချောင်း တော်လှန်ရေး
၁၇(၃)။ မောင်ထင် ၏ မိုပါဆွန်း ဝတ္ထုတိုများ
၄၅၃။ လယ်တီပဏ္ဍိတ ဦးမောင်ကြီး ၏ စာဏကျနီတိကျမ်း [သုံးတွဲ၊ ပေါင်းချုပ်]
၄၅၄။ ထွန်းသစ် (ပြုစုသည်) တိုက်ပွဲ ၁၀၀၊ အောင်ပွဲ ၁၀၀ [ပထမအုပ်]
၄၅၅။ သိန်းသန်းထွန်း ၏ ဘယ်ပန်းချီ ရေးလို့မှ မမှီ
၄၅၆။ နာဂတောင်တန်း မောင်ကြည်ဇင် ၏ ဖျောက်ဆိပ်ပင်ကို သက်သေတည်သည်
၄၅၇။ ဒေါက်တာလှဘေ ၏ ပညာပါရမီနှင့် အတွေးအမြင်စာစု
၄၅၈။ ငွေလင်း ၏ ပင်းမြို့သူ
၄၅၉။ ဆရာမာဃ ၏ ပုသိမ်ရာဇဝင်
၄၆၀။ လယ်တီပဏ္ဍိတ ဦးမောင်ကြီး ၏ သုတ္တန္တနီတိကျမ်း
၉၉(၃)။ မောင်ထင် ၏ ဝတ္ထုတိုပေါင်းချုပ် [ဖြည့်စွက် ထုတ်ဝေခြင်း]
၄၆၁။ ဦးမောင်မောင်တင် (မဟာဝိဇ္ဇာ) ၏ မြန်မာမင်းလက်ထက်တော် စာတမ်းများ
၄၆၂။ ဦးအောင်မွန် (မြတ်ဆုမွန်) ၏ မြတ်စွာဘုရားရှင်တို့၏ ခရီးဒေသစာ
၄၆၃။ သခ်ါ ၏ သူတော်ကောင်းကြီး
၄၆၄။ တောင်သာမာဒင် ၏ ပန်းခိုးမှုနှင့် ကျေးရွာတရားရုံး စုံထောက်မှုများ
၄၆၅။ ရွှေကိုင်းသား ၏ သမိုင်းထဲက စစ်ကိုင်း
၄၆၆။ မောင်ခင်မင် (ဓနုဖြူ) ၏ ဘာသာစာပေ သုတေသန စာတမ်းများ
၄၆၇။ စိန်စိန် ၏ ချစ်ငြိုးချစ်မာန်
၄၆၈။ ထွန်းသစ် ၏ တိုက်ပွဲ ၁၀၀၊ အောင်ပွဲ ၁၀၀ [ဒုတိယအုပ်]
၄၆၉။ ဆရာမာဃ ၏ နိဗ္ဗာန်ဝါဒသမိုင်း
၄၇၀။ လယ်တီပဏ္ဍိတ ဦးမောင်ကြီး ၏ သူရဿတီနီတိ [ပေါင်းချုပ်]
၄၇၁။ မောင်ပေါ်ထွန်း နှင့် ချစ်ဝင်းညွှန့် (မြန်မာပြန်) ၏ ပါရီ မီးလောင်ပြီလား
၄၇၂။ မော်ဘီဆရာသိန်း ၏ စကားပဒေသာ
၁၀၉(၃)။ ကျော်အောင် (မြန်မာပြန်) ၏ အကောင်းမြင်သမား (Candide by Voltaire)
၄၇၃။ သခင်ဘသောင်း (မြန်မာပြန်) ၏ ဗုဒ္ဓ၏ စကြဝဠာတရား
၄၇၄။ မောင်ရွှေကြည် ၏ ကျားဆိုသော ကျား
၄၇၅။ ဇာတာတော်ပုံ ရာဇဝင်
၄၇၆။ ပြည့်စုံ ၏ ပန်းရုံ
၄၇၇။ ဦးမောင်မောင်တင် (မဟာဝိဇ္ဇာ) ၏ မြန်မာပြဇာတ်စာပေသမိုင်း
၄၇၈။ နေဦးဝေ (မြန်မာပြန်) ၏ သမိုင်းကို ပြောင်းလဲစေသော ကမ္ဘာကျော် အမှား ၁၀၀
[100 Mistakes That Changed History by Bill Fawcett]

**၂၀၁၉ ခုနှစ်တွင် ထုတ်ဝေမည့် စာအုပ်များ**

၄၈၀။ ဒေါက်တာတိုးလှ ၏ ပင်းယ–အင်းဝခေတ်မှ သမိုင်းဝင် စေတီပုထိုးများ [၆၇၂–၁၂၄၇]
၄၈၁။ ငွေလင်း ၏ ဝါးကြီးအိုင်သူပုန်
၄၈၂။ ဟန်ဝင်းအောင် ၏ မတ်လ ၂၇
၄၈၃။ ကျော်အောင်၏ ပင်ကိုရေး ဝတ္ထုတိုများ
၄၈၄။ တင်မောင်မြင့် (မြန်မာပြန်) ၏ သတို့သားနှင့် အခြား ဝတ္ထုတိုများ
[The Bridegroom by Ha Jin]
၄၈၅။ မောင်ခင်မင် (ဓနုဖြူ) ၏ ကလောင်တစ်ချောင်း၏ အတ္ထုပ္ပတ္တိ

ရာပြည့်စာအုပ် ၄၇၉

သစ်ဦးခင် (မြန်မာပြန်)

မဟာကရုဏာသခင်၊ မီးအိမ်ရှင်

# ဖလောရင့် နိုက်တင်ဂေးလ်

# Florence Nightingale

## THE LADY OF THE LAMP

**Basil Miller**

**ရာပြည့်စာအုပ်တိုက်**
**www.yarpyae.com**
**တစ်ပြည်လုံးဖြန့်ချိရေး–ရာပြည့်စာအုပ်ဆိုင်**
ပန်းဆိုးတန်း (ဗိုလ်ချုပ်အောင်ဆန်းလမ်းနှင့် အနော်ရထာလမ်း အကြား)၊
ကျောက်တံတားမြို့နယ်၊ ရန်ကုန်မြို့။
ဖုန်း။ ၀၉၇၃ ၂၄၅ ၂၈၉ (ဆိုင်)၊ ၀၁–၃၇၅၉၅၂ (နယ်/ဖြန့်ချိရေး)

**ပုံနှိပ်ခြင်း**

ပထမအကြိမ် – (၂၀၁၉) ရာပြည့်စာအုပ်တိုက်

(ဩဂုတ် ၂၀၁၉)

အုပ်ရေ [၈၀၀]

❑

**ထုတ်ဝေသူ**

ဒေါ်ခင်အေးမြင့်၊ ရာပြည့်စာပေ [၀၀၆၆၀]

၂၀၆၊ ဗိုလ်တထောင်ဘုရားလမ်း၊ ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့။

❑

**ပုံနှိပ်သူ**

ဒေါ်ကြည်ပြာသွယ်၊ ဝင်းတိုးအောင်အော့ဖ်ဆက် [၀၀၄၂၀]

၁၈၁၊ လမ်း ၅၀၊ ၁၀ ရပ်ကွက်၊ ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့။

❑

**မျက်နှာဖုံးဒီဇိုင်း**

လင်းဝဏ္ဏ

❑

**တန်ဖိုး**

**၃၀၀၀** ကျပ်

# မာတိကာ

## ဘာသာပြန်သူ၏ အမှာ

ဤစာအုပ်သည် "မီးအိမ်ရှင်" ဟု ဖော်ညွှန်းခံရသည့် ဖလောရင့် နိုက်တင်ဂေးလ်၏ အတ္ထုပ္ပတ္တိ မည်ကာမတ္တ မဟုတ်ပါ။

နိုက်တင်ဂေးလ်၏ မေတ္တာစိတ်၊ ကရုဏာစိတ်၊ တစ်နည်းဆိုသော် မိခင်စိတ်၊ နှမစိတ်တို့ကို သူမ၏ ကိုယ်တိုင်ရေး ဒိုင်ယာရီ စာမျက်နှာများ၊ ဆက်စပ်ထိတွေ့ခဲ့သော ပတ်ဝန်းကျင် အသိုင်းအဝိုင်း၏ ရေးသား ပြောဆိုမှုများဖြင့် အကိုးအကားပြု၍ ဖော်ကျူးထားသောစာအုပ် ဖြစ်ပါသည်။

ဤစာအုပ်ကို ရေးသားသူ အမေရိကန် စာရေးဆရာ Basil Miller (၁၈၉၇-၁၉၇၈) က ခရိုင်းမီးယားစစ်ပွဲ စစ်မြေပြင်၌ သူမ၏ သူရဲကောင်း ပီသသော ကြိုးပမ်းမှုများကို စစ်သည်တို့၏ သတ္တိနှင့် ယှဉ်ပြနိုင်သည်ဟု ဆိုခဲ့ပါသည်။

အနိုင်မခံ အရှုံးမပေးသော စိတ်ဓာတ်၊ လူမှုပြုပြင်ရေးသမား တစ်ယောက်၏ ခံယူချက်၊ စစ်ဗိုလ်ချုပ်ကြီးများ၏ အမျက်ဒေါသ (သို့မဟုတ်) ကေရာဇ်မင်းတို့၏ အမိန့်အာဏာကို လုံးဝ ဂရုမစိုက်သူ၊ လွတ်လပ်မှု၊ နှိမ့်ချမှုကို မြတ်နိုးသူအဖြစ် အဘိုးနှင့် ဖခင်ဖြစ်သူထံမှ အမွေရခဲ့ပြီး ကရုဏာစိတ်၊ ပရဟိတစိတ်၊ ဘာသာရေး ကိုင်းရှိုင်းသောစိတ်တို့ကို မိခင်ထံမှ ဆက်ခံရရှိခဲ့သည်။

ဖလောရင့် နိုက်တင်ဂေးလ်သည် ဗြိတိသျှ အစိုးရ၏ ကြိုးနီစနစ်ကို ဖြတ်တောက်သူ၊ ပြဿနာ၏ အရင်းအမြစ်ကို အောင်မြင်စွာ ကျော်လွှားနိုင်သူလည်း ဖြစ်သည်။

အလွန် ချမ်းသာကြွယ်ဝသော လူတန်းစားမှ ရွှေလင်ပန်းနှင့် အချင်းဆေးကာ ရွှေဇွန်းကိုက်၍ မွေးဖွားလာသော်လည်း၊ ထိုခေတ် ထိုအခါက အလွန်အောက်တန်းကျသည်ဟု ယူဆခံရသော သူနာပြု လုပ်ငန်းကိုမှ ဘုရားသခင်

အပ်နှင်းသည့် တာဝန်အဖြစ် ခံယူကာ မြင့်မြတ်သန့်စင်သော လုပ်ငန်းအဖြစ် ပြောင်းလဲသွားအောင် ကြိုးပမ်းပေးခဲ့သည်။

ခရိုင်းမီးယား စစ်ပွဲ၌ လူရော ငွေကြေးပါ အနစ်နာခံကာ ဗြိတိသျှ စစ်တပ်၏ စီမံခန့်ခွဲမှု အလွဲအမှားများကို ပြောင်းလဲတိုးတက်အောင် ဆောင်ရွက်ခဲ့သည်။ စစ်ပွဲအပြီး အိမ်အပြန်မှာ သူ့ကို ကြိုဆိုနေမည့် လူထုပရိသတ်ကို ရှောင်ကွင်းလျက် မိမိအိမ်ကို နောက်ဖေးပေါက်မှ ဝင်လာခဲ့သူ ဖြစ်သည်။

စစ်ပွဲအပြီး ကျန်းမာရေး အလွန်ချူချာနေသည့်ကြားမှ ဆေးရုံနှင့် သူနာပြု လုပ်ငန်း ပြုပြင်ပြောင်းလဲရေးကို မနားမနေ ကြိုးပမ်းခဲ့သည်။ အသက် (၄၀) အရွယ်မှ စ၍ ကျန်းမာရေး မကောင်းသော်လည်း အသက် (၉၀) အထိ ရှင်သန်နေထိုင်ခဲ့ကာ စာအုပ်ပေါင်း (၁၅၀) ခန့် ရေးသားခဲ့သည့် ရောင်းအကောင်းဆုံး စာရင်းဝင် စာရေးဆရာမလည်း ဖြစ်သည်။

သာမန် ယောကျ်ားရင့်မာကြီးများပင် မလုပ်နိုင်သည့် ကိစ္စများကို မရမနေ၊ မဖြစ်မနေ ကျားကုတ်ကျားခဲ ဖွဲနပဲနှင့် ဆောင်ရွက်ခဲ့ပုံမှာ အံ့မခန်းစရာပင်။

"လူ့ဘဝကို ရတုန်းရခိုက် ထိုဘဝမှာ ရှင်သန်နေထိုင်ပါ။ လူ့ဘဝဆိုတာ အကောင်းဆုံး လက်ဆောင်မွန်ပါ။ ဘဝမှာ အသေးအဖွဲ ကိစ္စဆိုတာ ဘာမျှ မရှိပါ။ မိမိဘဝကို မိမိကိုယ်တိုင် ထိန်းသိမ်းကြပ်မတ် နှိမ့်ချပြီး လူ့အကျိုး ဆောင်ရမယ်"

သူမ၏ ဤစကားနှင့်ပင် သူမ ဘာလဲ၊ ဘယ်လဲ ဆိုသည်ကို သိသာ၊ မြင်သာလှပေသည်။ ဘာသာပြန်သူ အနေဖြင့် ထပ်၍ ညွှန်းဖွဲ့စရာ မလိုတော့ပါ။

စာဖတ်သူ အနေဖြင့် အားရကျေနပ်မှု မရှိပါက ဘာသာပြန်သူ၏ ချို့ယွင်းချက်သာ ဖြစ်ပါသည်။ ကျေနပ်နှစ်သက်သည် ဆိုပါလျှင် မူရင်း စာရေးဆရာ၏ စေတနာနှင့် အရေးအသားကြောင့်သာ ဖြစ်ပါသည်။

ဤစာအုပ်ကို ပြန်ဆိုရန် အားပေးတိုက်တွန်းသော သူငယ်ချင်း ဦးစိုးညွန့် (ရာပြည့်) ကို အလွန်ကျေးဇူးတင်ကြောင်း မှတ်တမ်းတင်ပါသည်။

**သစ်ဦးဝင်**

## အခန်း [ ၁ ]
## ရှေ့ပြေးနိမိတ်

"ခရစ်တော်က အချို့ကို သာသနာပြုပုဂ္ဂိုလ်များ (ဝါ) တမန်တော်များ အဖြစ် ပေးအပ်ခဲ့" သလို သူနာပြုများ အဖြစ်လည်း ပေးအပ်ခဲ့သည်။ လုပ်ငန်းတာဝန်တွေက အမျိုးမျိုး ကွဲပြားခြားနားသော်လည်း ဘုရားသခင်၏ မြင့်မြတ်သောနှိုးဆော်သံမှာ အတူတူပင် ဖြစ်သည်။ ရှင်ပေါလု[၁]က ရဟူဒီ (ဂျူး) မဟုတ်သူများ၏ တမန်တော် ဖြစ်သကဲ့သို့ ဖလောရင့် နိုက်တင်ဂေးလ်က သူနာပြုလုပ်ငန်း၏ တမန်တော် ဖြစ်သည်။ သို့ရာတွင် ဘုရားသခင်က သူတို့ အသီးသီးအား သူ၏ မြင့်မြတ်သော လုပ်ငန်းတာဝန်ကို အပ်နှင်းခဲ့သည်။ ဘုရားသခင်၏ မြင့်မြတ်သော ခေါင်းဆောင်မှုအောက်၌ ဖြည့်စွမ်းရသော လုပ်ငန်းတာဝန်ပင်။

ဆူဇန်နာ ဝက်စလေ[၂]က မျိုးဆက်ပြောင်းလဲပေးသည့် သားများ မွေးဖွားပေးခြင်းဖြင့် ဘုရားသခင်၏ အမှုတော်ကို ဆောင်ရွက်ပေးခဲ့သည်။ ဘုရားသခင်၏ သာသနာပြုပုဂ္ဂိုလ် ဒေးဗစ်လစ်ဗင်းစတုန်း[၃]က ခရစ်ဝင်ကျမ်းကို "အမှောင်ခေတ် အာဖရိကတိုက်" သို့ လမ်းဖွင့်ပေးခဲ့သည်။ ဩဂုတ်စတင်း[၄]က ဘုရားသခင်၏ ကြီးမြတ်သော တွေးခေါ်ပညာရှင် ဖြစ်ပြီး၊ အန်းဂျဒ်ဆင်[၅]က မြန်မာနိုင်ငံအတွက် ဘုရားသခင်၏ အမျိုးသမီး အာဇာနည် ဖြစ်သည်။ ဖလော်ရင့် နိုက်တင်ဂေးလ်ကိုလည်း ဘုရားသခင်က မြင့်မြတ်သော တာဝန်များ အပ်နှင်းခဲ့သည်။ သူနာပြုဝတ်စုံကို

၁။ Paul ၂။ Susannah Wesley ၃။ David Livingstone
၄။ Augustine ၅။ Ann Judson

ဆင်မြန်းပေးခဲ့သည်။ မာတင်လူသာ[၁]က ရောမမှ သူ့အပေါ် အာဃာတထားသူများကို ***"သမာသမတ် ရှိသူများက သစ္စာတရားဖြင့်၊ ယုံကြည်သစ္စါ စိတ်ဖြင့် လက်ခံကြလိမ့်မည်"***ဟု ကြွေးကြော်၍ မြင့်မြတ်သော လုပ်ငန်းကို အပြီးတိုင် လုပ်ဆောင်ပြခဲ့သလို ဖလောရင့် နိုက်တင်ဂေးလ်ကလည်း သန့်စင် မွန်မြတ်သော လုပ်ငန်းတစ်ခုကို လုပ်ဆောင်ပြခဲ့သည်။

ဘုရားသခင်က မြင့်မြတ်သောတာဝန် အပ်နှင်းခံရသည့် ဤပုဂ္ဂိုလ်များသည် သူတို့၏ အမှတ်လက္ခဏာများကို ရာစုနှစ်ပေါင်းများစွာ ထင်ချန်ထားခဲ့သည်။ ဝီလျံကဲရေး[၂]သည် အိန္ဒိယတွင် တစ်ဦးတည်း သာသနာပြုခဲ့သူ ဖြစ်သည်။ သို့ရာတွင် သူ၏ စိတ်ဓာတ်အင်အားက ခေတ်သစ် ခရစ်ယာန် သာသနာပြုလုပ်ငန်းကို အထွတ်အထိပ် ရောက်စေခဲ့သည်။ သူ၏ လှုပ်ရှားမှုကြောင့် နိုင်ငံအားလုံးသို့ ခရစ်ဝင်ကျမ်း ပျံ့နှံ့ ရောက်ရှိသွားသည်။

ဖလောရင့်နိုက်တင်ဂေးလ် ကလေးဘဝတုန်းက ***"သူနာပြု တစ်ယောက် ဖြစ်အောင် လုပ်ပါ။ သူနာပြုတစ်ယောက် ဖြစ်အောင် လုပ်ပါ"*** ဆိုသော စိန်ခေါ်နိုးဆော်သံကို ကြားခဲ့ရသည်။ ဤသို့ဖြင့် နောက်ဆုံးတွင် နူးညံ့သိမ်မွေ့သည့် အမျိုးသမီးတို့၏ ကြင်နာယုယသော လက်များဖြင့် အဖျားသည်း လူမမာများ၏ နဖူးကို အေးမြသွားအောင် လုပ်ဆောင်ပေးခြင်း၊ သေအံ့မူးမူး လူနာများကို တီးတိုးညင်သာစွာ နှစ်သိမ့်ပေးခြင်းတို့ဖြင့် သူမ၏ အောင်လံတံခွန်ကို စတင် စိုက်ထူပေးခဲ့သည်။ ဖလော်ရင့် နိုက်တင်ဂေးလ်သည် စစ်မြေပြင်တွင် "မီးအိမ်ရှင်" အဖြစ် ကျော်ကြားလာသည်။ ကြက်ခြေနီလက်ပတ် ပတ်ထားသည့် သူနာပြုဆရာမလေးသည် ဒဏ်ရာ ရရှိသော သားကောင်းစစ်သည်များအတွက် မိခင်တစ်ယောက်၊ နှမ တစ်ယောက်၊ ချစ်သူ တစ်ယောက်၊ စိတ်ဓာတ် မြှင့်တင်ပေးသူ တစ်ယောက် အဖြစ် သင်္ကေတပြု ညွှန်းဖွဲ့တင်စား ခံလာရသည်။

ဘုရားသခင်၏ ရွှန်းလက်သော အလင်းရောင်၊ ကောင်းကင်ဘုံ၏ အမြော်အမြင်တို့ကိုသာ ဖလောရင့်နိုက်တင်ဂေးလ် မလိုက်နာခဲ့လျှင် ကမ္ဘာလောကကြီး၏ နစ်နာဆုံးရှုံးမှုသည် မည်မျှ ကြီးမားလိုက်မည်နည်း။ ကျွန်ုပ်တို့က ဖလောရင့်နိုက်တင်ဂေးလ်ကို သူနာပြုလုပ်ငန်း၏ မိခင်၊ လူနာခုတင်

၁။ Martin Luther ၂။ William Carey

နှင့် စစ်မြေပြင် ဆေးရုံများပေါ်၌ ဖန်မီးအိမ် ထွန်းညှိပေးသူအဖြစ် ဂုဏ်ပြုကြိုဆိုကြသည်။ သူမ၏ဝိညာဉ်က အရေးပေါ် လူနာတင်ယာဉ်တွေထဲမှာ၊ ဆေးရုံသုံး လေယာဉ်ပျံတွေထဲမှာ၊ ဒဏ်ရာရသူနှင့် လူမမာများကို စောင့်ရှောက်ဖို့ ရည်ရွယ်ထားရှိသည့် စစ်သင်္ဘောတွေထဲမှာ အမြဲ တည်ရှိနေသည်။

တရားမျှတ၍ ထိုက်တန်သော ကျော်ကြားမှုကို ဖလော်ရင့် နိုက်တင်ဂေးလ် ရရှိလိုက်သည်။ သူမမှာ ရှိသမျှ၊ ပိုင်ဆိုင်သမျှ အားလုံးကို ဘုရားသခင်၏ ပလ္လင်တော်ပေါ်၌ ဝမ်းမြောက်ဝမ်းသာ တင်လှူ ပူဇော်ခဲ့သဖြင့် ဤစံနမူနာသည် နိုင်ငံအားလုံးသို့ ပျံ့နှံ့သွားနိုင်ပေသည်။ သူငယ်ချင်း အပေါင်းအသင်းတို့၏ ဩဇာအရှိန်အဝါ၊ မိဘနှစ်ပါး၏ တောင်းဆိုမှု၊ စောစောပိုင်းက သူမကို ဝန်းရံထားသည့် ခနအင်အားတွေက သူမ၏ လမ်းခရီးမှာ လမ်းပြပေးနေသည့် လင်းရောင်ခြည်ကို မျက်နှာလွှဲသွားအောင် မစွမ်းဆောင်နိုင်ခဲ့ပေ။ "ကောင်းကင်ဘုံရဲ့ အမြော်အမြင်ကို ကျွန်မ မနာခံလို့ မဖြစ်ဘူး" ဟု ပေါလ်ကို ပြောပြခဲ့သည်။

ဖလောရင့် နိုက်တင်ဂေးလ်သည် နှစ်လိုဖွယ်ကောင်းသော၊ ထူးခြားစရိုက်လက္ခဏာရှိသော၊ စွမ်းဆောင်ရည်ရှိသော မိန်းမပျိုတစ်ယောက်။ စည်းစိမ်ချမ်းသာ အပြည့်နှင့် မွေးဖွားကြီးပြင်းလာသူ။ အထက်တန်းအကျဆုံး လူမှုအသိုင်းအဝိုင်းမှာ နေလာခဲ့ရသူ။ ဤကဲ့သို့သော မိန်းမပျိုက စည်းစိမ် ဥစ္စာခနေ အားလုံးကို ကျောခိုင်းပြီး သူမဘဝ၌ အစေခံ တစ်ယောက်ကဲ့သို့ အနိမ့်ကျဆုံး အလုပ်တွေ လုပ်ဆောင်ခဲ့သည်မှာ သမိုင်းတစ်လျှောက် ကြုံတောင့်ကြုံခဲ ဇာတ်လမ်းတစ်ပုဒ်ပင်။ ရောဂါဝေဒနာ ခံစားရသူ၊ ဒဏ်ရာရသူတွေကို သက်သာရာရစေရန် သန့်စင်မွန်မြတ်သော ဆန္ဒ၊ ဇွဲဖြင့် ဖလောရင့်က တက်တက်ကြွကြွ နှစ်သိမ့်အားပေးသည်။ သို့ဖြစ်၍ သူမ၏ အဖဘုရားသခင်က "မျှော်လင့်ချက်အနည်းဆုံး အဲဒီလူတွေကို ဆောင်ရွက်ပေးနေသမျှ ငါကိုယ်တော်မြတ်အပေါ် ဆောင်ရွက်ပေးနေသလိုပါပဲ" ဟူသော ပြောဆိုသံကို ကြားနိုင်ပေသည်။

ဝေဒနာတွေ ပြည့်သိပ်နေသည့် ကမ္ဘာကြီးကို ကူညီစောင့်ရှောက်ရန်အတွက် ကြီးကျယ်ခမ်းနားမှုတွေ၊ သပ်ရပ်ကြော့ရှင်းမှုတွေကို ဖလော်ရင့် စွန့်ပယ်ခဲ့သည်။ ဥပေက္ခာပြု ခံရသူတွေ၊ ဆင်းရဲနိမ့်ကျသူတွေ၊ ဆေးရုံတက်ရောက်ကုသ ခံနေရသူတွေဘက်က လျှောက်လဲထုချေရသဖြင့် သူမ

၏ စိတ်မှာ အလွန် ပီတိဖြစ်နေသည်။ စစ်ဗိုလ်ချုပ်တွေ၊ အကြီးအကဲတွေနှင့်သာ လိုက်ဖက်သည့် သံခင်းတမန်ခင်း စစ်ပွဲတွေ၊ နိုင်ငံရေး စစ်ပွဲတွေကို သူမ ဆန့်ကျင်တိုက်ခိုက်သည်။ ၁၈၅၄-၅၅ တွင် ဖြစ်ပွားသော ခရိုင်းမီးယား[၁] စစ်ပွဲ အတွင်း၌ စစ်မြေပြင်တွင် သူမ၏ သူရဲကောင်းပီသသော ကြိုးပမ်းမှုကို စစ်သည်တို့၏ သတ္တိနှင့် ယှဉ်တုပြခဲ့သည်။ စစ်မြေပြင်၌ လိုအပ်ချက်တွေ အမြောက်အမြား ရှိသည်ကို မြင်တွေ့ရသောအခါ ကြက်ခြေနီ တပ်ဖွဲ့ ဖွဲ့စည်းခြင်းဖြင့် လိုအပ်ချက်များကို ရင်ဆိုင်ရန် ကြိုးပမ်းခဲ့သည်။ သူမကို ကူညီရန်အတွက် ဘုရားသခင် ရောက်လာလိမ့်မည်ဟု ယုံကြည်သည်။

ဖလောရင့်၏ မိဘများမှာ ချမ်းသာပြီး မျိုးရိုးမြင့်သည်။ ဖခင်ဖြစ်သူ ဝီလျံရှိုး[၂] ကိုးနှစ်သား အရွယ်တွင် သူ၏ ဘိုးလေးတော်စပ်သူ ပီတာ နိုက်တင်ဂေးလ်[၃]ထံမှ အလွန် များပြားသော ပစ္စည်းဥစ္စာတွေ အမွေရလိုက်သည်။ ငွေကြေးဥစ္စာ အမွေအပြင် ခဲသတ္တုတွင်း တစ်ခုကိုပါ စို့စို့ပို့ပို့ အမွေရသည်။ သူ လက်ထပ်ချိန်တွင် ပညာတတ် ဂုဏ်သရေရှိ လူ တစ်ယောက် သာမက ချမ်းသာကြွယ်ဝသူတစ်ယောက် ဖြစ်နေပြီ။ ကိန်းဘရစ်ချ်နှင့် အက်ဒင်ဘရာတို့တွင် ပညာသင်ခဲ့သည်။ ပင်ကိုဉာဏ်ရှိသော (မကြာခဏ သူတစ်ပါးကို လွှမ်းမိုးနိုင်သော) အတွေးအခေါ်သမား တစ်ယောက်၊ အနီးပတ်ဝန်းကျင်ရှိ မြေပိုင်ရှင်တွေထက် ခေတ်ရှေ့ပြေးသူတစ်ယောက် ဖြစ်သည်။

ဒေသတွင်းရှိ ကလေးသူငယ်တွေထံမှ ပြားစွန်းလောက်သာရှိသည့် ငွေကြေးကိုယူ၍ စာရေးစာဖတ် သင်ကြားပေးနေသော ကျောင်းတစ်ကျောင်းကို စေတနာ ရက်ရောစွာဖြင့် ထောက်ပံ့ပေးထားသည်။ သူ့စေတနာကို ကောင်းစွာ အသုံးမချဘဲ ကလေးများအား ကျောင်းမလွှတ်သည့် မိဘတွေကို ကရုဏာဒေါသဖြင့် ဝေဖန်ထိုးနှက်သည်။ ထိုအခါမျိုးမှာ သူ့နှုတ်က နူးညံ့သိမ်မွေ့ မနေတော့ပေ။

သူ၏ သတို့သမီးအဖြစ် မိန်းမချောလေး ဖရန့်စစ်စ္မစ်[၄]ကို ရွေးချယ်လိုက်သည်။ သူမ၏ ဖခင်မှာ "လူတစ်ယောက်သည် အသိတရား

၁။ Crimea ၂။ William Shore ၃။ Peter Nightingale
၄။ Frances Smith

နှင့် အတွေးအခေါ်ဆိုင်ရာ ကိစ္စများ၌ အမြဲတမ်း လွတ်လပ်မှု ရှိရမည်" ဟု ယုံကြည်သော ကိုယ်ပိုင်ဟန်၊ ကိုယ်ပိုင်အတွေးအခေါ်ရှိသူ ဖြစ်သည်။ ဖလောရင့် လေ့လာသိရှိရသလောက် အဘိုးစမစ်မှာ နွမ်းပါးချို့တဲ့သူများကို စိတ်အားထက်သန်စွာ ဖြေလျှော့ပေးပြီး၊ ကံခေမွဲသူများကို ကရုဏာဖြင့် ဆက်ဆံသည်။ အနာဂတ်၏ သူနာပြုဆရာမလေးသည် အနိုင်မခံ အရှုံး မပေးသော စိတ်ဓာတ်၊ လူမှုပြုပြင်ရေးသမား တစ်ယောက်၏ ခံယူချက်၊ စစ်ဗိုလ်ချုပ်ကြီးများ၏ အမျက်ဒေါသ သို့မဟုတ် ကေရာဇ်မင်းတို့၏ အမိန့် အာဏာစက်ကို လုံးဝ ဂရုမပြုသည့် လွတ်လပ်မှုတို့ကို သူ့အဘိုးထံမှရော အဖေ့ထံမှပါ အမွေဆက်ခံ ရရှိလိုက်လေသည်။

ဖလောရင့်၏ မိဘနှစ်ပါးတို့ ထိမ်းမြားခြင်းဆိုင်ရာ ကျမ်းသစ္စာ ကျိန်ဆိုပြီးနောက် ချမ်းသာကြွယ်ဝသူတို့၏ ဂုဏ်အဆင့်အတန်းအလျောက် နိုင်ငံခြားသို့ ဟန်းနီးမွန်း ထွက်သည်မှာ (၂) နှစ် ကြာသည်အထိပင် ဖြစ်သည်။ ထိုအတောအတွင်း နေပယ်လ်[၁]၌ အပန်းဖြေ အနားယူနေစဉ် သမီးဦးလေး မွေးသည်။ ဖခင်ဖြစ်သူ နိုက်တင်ဂေးလ်က မဆိုင်းမတွပင် သမီးဦးလေးကို ဖရန့်စစ်ပါသီနော့[၂]ဟု ကင်ပွန်းတပ်လိုက်သည်။ ပထမ အမည်မှာ မိခင်ကို ဂုဏ်ပြုမှည့်ခေါ်ခြင်းဖြစ်ပြီး၊ ဒုတိယနာမည်မှာ သမီး လေး မွေးဖွားရာ ရှေးဟောင်း ဂရိမြို့တော်၏အမည် ဖြစ်သည်။

ဖလောရင့်၏ မိဘများသည် ဥရောပတစ်ခွင် လှည့်လည်ရင်း ၁၂ မေ ၁၈၂၀ တွင် အီတလီနိုင်ငံ ဖလောရင့်မြို့[၃]သို့ ရောက်ရှိသွားပြီး လှပ သော ကိုမံဘီယာ[၄]ကမ်းခြေ အိမ်ကြီး၌ နေထိုင်ကြသည်။ ဤအိမ်ကြီးတွင် ကလေးမလေးက မျက်ဝန်းတစ်စုံကို ဖွင့်လျက် အလင်းရောင်ကို စတင် တွေ့မြင်ရသည်။ ဖခင်က ကလေးမွေးဖွားရာ မြို့ကို အစွဲပြု၍ ချက်ချင်းပင် နာမည်မှည့်လိုက်သည်။ ထိုအချိန်မှ စ၍ ကမ္ဘာလောကကြီးက သူမကို "ဖလောရင့်" ဟု ထာဝရ အသိအမှတ် ပြုလိုက်လေတော့သည်။

နောက်ပိုင်းနှစ်များမှာတော့ သူမကို မွေးဖွားရာ အီတလီ၊ နေရင်း ဒေသ အင်္ဂလန်တို့သည် သူတို့၏ ဇာတိနွယ်ဖွား ဖြစ်သည်ဟု တောင်းဆို ခွင့် မရတော့ပေ။ အဘယ့်ကြောင့်ဆိုသော် သူမကို ချစ်စရာ သမီးကလေး

---

၁။ **Naples** ၂။ **Frances Parthenope** ၃။ **Florence** ၄။ **Comambia**

တစ်ယောက်အဖြစ် ကမ္ဘာကြီးက သူ့ရင်ခွင်ထဲ ထွေးပွေ့ထားလိုက်သော ကြောင့် ဖြစ်သည်။

သူတို့မိသားစု အင်္ဂလန်သို့ ပြန်ရောက်သောအခါ အဘိုးလေး တော်သူထံမှ အမွေရသည့် လီယာဟောလ် [၁] မှာ အခြေချနေထိုင်သည်။ သို့ရာတွင် သူ့ဖွေးကြီးဝီလျံက သူ့အိမ်ကို သိပ်မကြိုက်လှ။ တည်နေရာ ကလည်း အချို့ရာသီတွေမှာ နှစ်သက်ဖွယ်ရာ မရှိသည်ကို တွေ့ရှိသည်။ ဆောင်းရာသီ၌ အအေးပြင်းထန်ပြီး လူသူကင်းမဲ့ ခြောက်ကပ်နေသဖြင့် နေထိုင်ရန် မသင့်လျော်ပေ။ သူ့ဥစ္စာခနေ၊ ဂုဏ်အရှိန်အဝါနှင့် လိုက်လျော ညီထွေ ဖြစ်မည့် ပို၍ နှစ်သက်ဖွယ်ကောင်းသော အိမ်တစ်လုံးကို ရှာဖွေရာ လီယာဟာ့စ် [၂] ကို တွေ့ရှိသည်။ လီယာဟောလ်နှင့် သိပ်မဝေးပေ။ ထိုနေရာ တွင် အိမ်တစ်လုံး ဆောက်သည်။ သို့ရာတွင် နောင်နှစ်များ၌ ကောင်းကင် ဘုံ၏ အမြော်အမြင်ကို သိမြင်သွားပြီးနောက် ဤအိမ်ကြီးက ဖလောရင့်ကို ဆုပ်ကိုင်မထားနိုင်တော့ပေ။

လီယာဟာ့စ်သည် အဲလီဇဘက် ဘုရင်မကြီးခေတ် ခမ်းနားထည်ဝါ သော ဗိသုကာလက်ရာ ဖြစ်သည်။ ကျောက်နံရံပေါ်၌ အလှစိုက် ပန်းမန် နွယ်ပင်တို့ ဝေဝေဆာဆာ နွယ်တက်နေပုံမှာ တစ်မူထူးခြားသော ရှေး ဟောင်း ရဲတိုက်ကြီး၏ အသွင်ကို ဆောင်နေသည်။ မျက်စိပသာဒ ဖြစ် စေသော မီးခိုးခေါင်းတိုင်၊ မြင်းမိုရ်ပိတ်၊ အလယ်မှာ ဒေါင်လိုက်တိုင် ထပ် ထားသော ပြတင်းပေါက်များ၊ မှန်ကူကွက်ပုံ ပြတင်းမှန်များက တစ်မူ ထူးခြားမှုကို အားဖြည့်ပေးထားသည်။

ဤအိမ်ကြီးကို အလည်ရောက်သည့် မိတ်ဆွေတစ်ဦးက ရေးခဲ့ ဖူးသည်။

> လီယာဟာ့စ်အိမ်ကြီးက အမြင့်ကြီးပဲ။ သူ့ပတ်လည်မှာ တိမ်တွေ ယိမ်းထိုးပြေးနေတဲ့ ကျောက်တောင်ထွတ်ကြီးနဲ့ သိပ်တူတယ်။ အောက် ဘက်မှာ ကျောက်ပြားတွေ အကွက်လိုက် ခင်းထားတဲ့ ဥယျာဉ်တစ်ခု ရှိတယ်။ ကျောက်ခင်းထားတဲ့ မျက်နှာပြင်ပေါ်မှာ ပန်းချဉ်ပေါင်တွေ၊ တောင်ကြာကလေးပင်တွေ၊ ကြွေပန်းပင်တွေ၊ ဒေလီယာပန်းပင်တွေ အုံလိုက်ကျင်းလိုက် စိုက်ထားတာ အလွန်လှပ ခမ်းနားတယ်။ ပြီးတော့

---

၁။ Lea Hall ၂။ Lea Hurst

အောက်ကို နိမ့်လျှောဆင်းသွားတဲ့ မြက်ခင်းပြင်၊ တောဖုံးနေတဲ့ မတ်စောက် ဆင်ခြေလျှော (သစ်တောအုပ်ပေါ်မှာ ဖြူနီဝါပြာ အရောင်စုံ ဖုံးလွှမ်းနေတယ်) က ဒါးဝင့်မြစ်[၁]အထိ တိုးဝင် ပျောက်ကွယ်သွားတယ်။ မြစ်တစ်ဖက်ကမ်း ကျောက်ဆောင်တွေက နေရာဒေသ ကွာခြားချက်ကို ပုံပေါ်စေတယ်။ အနီရောင်ပေါ်မှာ မြူနှင်းတွေ ဝေနေတဲ့ ခရမ်းရောင်က အစင်းလိုက် အစင်းလိုက် ပေါ်နေတယ်။

အဲဒီဟိုဘက်မှာ တောင်ကုန်းတွေ လိမ်ယှက်နေပုံက တောင်တန်းသုံးခု ခပ်ကွာကွာ တည်ရှိနေပုံမျိုးပဲ။ ပထမတော့ ယိုယွင်းပျက်စီးနေတဲ့ ဟက်သာ ပန်းချုံပင်တွေနဲ့ အတူရှိနေတဲ့ အညိုရင့်ရင့်၊ တချို့နေရာမှာ ခရမ်းရောင်အရိပ်၊ နောက်ဆုံးမှာတော့ ဖျော့တော့တော့ နေရောင်ခြည် ကျနေတယ်။

ထိုအိမ်ကြီးမှာ နေထိုင်ရင်း ဖလောရင့် ခရိုင်းမီးယားသို့ သွားခဲ့သည်။ စစ်ပွဲ ပြီးဆုံးသောအခါ အောင်အတိတ်ဆောင် လော်ရယ်ပန်းတွေနှင့်အတူ ခရိုင်းမီးယားမှ ပြန်ရောက်လာသည်။ သူမ၏ နောက်ပိုင်း နှစ်ကာလ အတော်များများကို လီယာဟာ့စ်၌ ကုန်လွန်ခဲ့သည်။ သူမနှင့် တွေ့ရန် ရောက်လာသည့် လူအုပ်ကြီးများကို ဒုတိယထပ်ရှိ သူမ၏အခန်းလေသာဆောင်မှ မကြာခဏ မိန့်ခွန်းပြောသည်။ အိမ်ရှေ့ဥယျာဉ်၏ အလယ်တွင် အဆောက်အအုံငယ် တစ်ခုရှိသည်။ ၎င်းကို "ဝတ်ပြုကျောင်းဆောင်" ဟု ခေါ်သည်။ ဖလောရင့်၏ ဖခင်က စံအိမ်တော်ကြီးကို တည်ဆောက်သည့်အခါ ထိုအဆောက်အအုံကို မဖျက်ဘဲ ထိန်းသိမ်းထားသည်။ ၎င်းသည် ဤစီရင်စု အတွင်းရှိ ကျန်ရစ်နေသော ရှေးဟောင်း နော်မန်[၂]ဝတ်ပြုကျောင်းဆောင် သုံးလေးခုထဲတွင် တစ်ခုအပါအဝင် ဖြစ်သောကြောင့်ပင်။

နောက်ပိုင်းနှစ်များ၌ ဤဝတ်ပြုဆောင်တွင် နီးနားဝန်းကျင်ရှိ အမျိုးသမီးငယ်များအား စုစည်း၍ တနင်္ဂနွေ ညနေပိုင်း သမ္မာကျမ်းစာသင်တန်းပို့ချပေးသည်။

သူမ၏ မိန်းကလေးငယ် ဘဝကို ကုန်လွန်ခဲ့ရာ ဒေသသည် သမိုင်းဝင် ဒေသတစ်ခု ဖြစ်သည်။ ခံ့ညားထည်ဝါသော စံအိမ်တော်ကြီး၏ အနီးတွင် တစ်ခါတုန်းက စကော့ဘုရင်မမေရီ[၃] လွတ်မြောက်အောင် ပူးပေါင်း

---

၁။ River Derwent ၂။ Norman ၃။ Mary, Queen of Scots

ကြဲစည်သူများ နေထိုင်ခဲ့သည်။ ဘုရင်မကြီး အဲလီဇဘက်၏ အမှုတော်ထမ်းများက အိမ်တွေ၊ လမ်းတွေကို ကွေ့ဝိုက်ဖြတ်သန်းပြီး သစ္စာဖောက်တွေကို ရှာဖွေဖမ်းဆီးခဲ့သည်။

ခြံဝင်းကြီးမှာ သစ်တော ဖုံးလွှမ်းနေသည်။ နောက်ပိုင်း နှစ်ကာလများကဲ့သို့ပင် ကလေးဘဝတုန်းကလည်း တောင်ကုန်းတွေကို ကျော်၊ တောအုပ်တွေကို ဖြတ်၍ ဖောက်ထားသည့် လမ်းကြောင်းမှာ လှည့်လည်သွားရသည်ကို ဖလောရင့် နှစ်သက်သည်။ ယနေ့ခေတ်တွင် ဤနေရာကို "မစ္စဖလောရင့်၏ အနှစ်သက်ဆုံး လျှောက်လမ်း" အဖြစ် ဂုဏ်ယူစွာ ထုတ်ဖော်ပြောဆိုကြသည်။ ဒါးဝင့်မြစ်ရေ၏ ဂီတသံကို သစ်တောဖုံးလွှမ်းနေသောလမ်းကြားထဲမှ ကြားရသည်။ အခက်အခဲများ ကြားထဲမှပင် ရေလက်ကြားထဲမှ လှိုင်းသံတွေကို ဖလောရင့် မကြာခဏ သတိရနေမိသည်။

သူမက ပြောပြသည်။

'မရပ်မနား ဟိန်းဟောက်နေတဲ့၊ မုန်တိုင်းထန်တဲ့ ညကို ကျွန်မသိပ်ကြိုက်တယ်။ ချစ်တဲ့ ဒါးဝင့်ကို ကျွန်မစိတ်ထဲမှာ စွဲနေတယ်။ ငယ်ငယ်တုန်းက ပြတင်းပေါက်ကနေ မြစ်ရေစီးသံကို အကြိမ်ပေါင်းများစွာ နားထောင် ခဲ့တာ'

လီယာဟာ့စ်ကို ဝီလျံ နှစ်ခြိုက်သော်လည်း ချမ်းသာ ကြွယ်ဝသူတို့၏ အလေ့အထ အတိုင်းပင် အားနည်းချက်တွေကိုလည်း တွေ့ရှိထားသည်။ ဆောင်းရာသီတွင် လေပြင်းတွေ တဟူးဟူး တိုက်သည်။ သူ့ဒွေးရော ကလေးတွေပါ အလွန်ကြောက်သည့် လေပြင်းတွေပင်။ ဝီလျံက သူ့ကိုယ်သူရော အခြားသူတွေကိုပါ မေးခွန်းထုတ်လေ့ရှိသည်။

'ဆယ့်နှစ်ရာသီလုံး နေထိုင်ဖို့ သင့်လျော်တဲ့နေရာ ဘယ်မှာ ရှိသလဲ။ ကျွန်တော့်ဘက်က ကြည့်ရင်တော့ ဧက နှစ်ထောင်ကျယ်တဲ့ ခြံဝန်းကြီးနဲ့ အိမ်တစ်လုံး၊ အားကစားလုပ်ဖို့နဲ့ ရှုခင်းတွေ အတော်အသင့် ပေါများတဲ့ နေရာတစ်ခုကို ရထားတယ်လို့ ထင်တယ်။ လီယာဟာ့စ်ကို အလည်လာဖို့ကျတော့ နှစ်တိုင်း ကန့်သတ်ထားသလိုပဲ။ ဇူလိုင်၊ ဩဂုတ်၊ စက်တင်ဘာနဲ့ အောက်တိုဘာမှာ လာမှ အားလုံး အဆင်ပြေမှာ'

ဤစကားသည် အလုပ်လုပ်စရာ မရှိသဖြင့် ပျင်းရိငြီးငွေ့နေသော လူချမ်းသာတို့၏ ပြောစကား ဖြစ်သည်ကို နောက်ပိုင်း၌ ဖလောရင့် လေ့လာ

သိရှိလာသည်။ အဘယ့်ကြောင့်ဆိုသော် ကျေနပ်ရောင့်ရဲမှု ဆိုသည်မှာ ပတ်ဝန်းကျင်၌ မတွေ့နိုင်။ စိတ်ပိုင်းဆိုင်ရာ အခြေအနေမှာသာ တွေ့ရှိနိုင်သည်။ ရာသီဥတုထဲမှာ မတွေ့ရှိနိုင်။ နှလုံးသားထဲမှာသာ တွေ့ရှိနိုင်ပေသည်။ ဤကဲ့သို့ နေရာတစ်ခုကို လိုက်လံရှာဖွေရာ နောက်ဆုံးတွင် သူ့မိသားစုအတွက် စံထားလောက်သည့် ခိုလှုံရာကို "နယူးဖော့ရက်[၁]" တောအုပ်ကြီး အနားသတ်ထားသည့် ဟမ့်ရှိုင်းယား[၂]ပြည်နယ် အမ်ဘလီ[၃]၌ ဝီလျံ တွေ့ရှိသည်။ ဤစံအိမ်တော်ကြီးက ပို၍ ခံ့ညားထည်ဝါသည်။ ဝင်ငွေလည်း ပိုရသည်။ သူ့အိမ်က ဝင်ငွေသည် လီယာဟာ့စ်ထက် စာလျှင် သူ့အသုံးစရိတ်ကို မီနိုင်ရမည် ဖြစ်သည်။ ချစ်စရာ ဝက်သစ်ချပင်အိုတွေ၊ ကမ်းစပ်တွေ၊ လော်ရယ်ပန်းပင်နှင့် တောင်ဇလပ်ပင်တွေ ဝန်းရံနေသည်။

တောင်ပိုင်းဒေသနှင့် ဝေးကွာပြီး ဒါဘီရှိုင်းယား[၄] လေညင်းသုန်သုန် တိုက်ခတ်မှုမှ ကင်းလွတ်နေသောကြောင့် ပန်းတွေ အများကြီး ဝေဝေဆာဆာ ပွင့်နေသည်။ အမ်ဘလီ၏ ဖွန်လသည် မေ့မရနိုင်အောင် လှပသည်။ ပန်းရိုင်း နှင်းဆီဝါတွေ မတ်လမှာ အလျှံပယ် ပွင့်သည်။ ဝဲယာနှစ်ဖက်တွင် တောင်ဇလပ်ပင်တွေ စီတန်းပေါက်နေသည့် လမ်းမကြီးက ခြံဝန်းကြီးကို ကွေ့ဝိုက်ဖြတ်သန်းသွားသည်။ ကလေးဘဝက နှစ်သက်ခဲ့သည့် ပန်းတွေကို ဖလောရင့် မမေ့နိုင်ပေ။ နောက်ပိုင်းနှစ်များတွင် ဖလောရင့် လန်ဒန်ရှိ နာမည်ကျော် တောင်ဇလပ် ဥယျာဉ်ခြံကြီးသို့ မကြာခဏ သွားရောက်ပြီး အတိတ်၏ ပျော်မွေ့ဖွယ်ရာတွေကို ပြန်လည် ခံစားလေ့ရှိသည်။

အသက် ၆ နှစ် အရွယ်တွင် ဖလောရင့်သည် သာယာကြည်နူးဖွယ် စံအိမ်တော်ကြီး နှစ်ခု၌ ကံကောင်းထောက်မစွာ စံစားခဲ့ရသည်။ သူမ နွေရာသီကို အသုံးချသည့် လီယာဟာ့စ် အိမ်ကြီးနှင့် ဆောင်းခိုရာ အမ်ဘလီ စံအိမ်ကြီး၊ အိမ်ကြီးနှစ်ခုလုံး ကျေးလက်ဒေသမှာ ရှိသည်။ သစ်ပင်ပန်းပင်တွေ၊ ငှက်တွေ၊ သူ့ကို ချစ်ခင်သည့် ရိုးသားသော လယ်ယာအလုပ်သမားတွေ ကြားမှာ နေရသည်ကို သူမ နှစ်ခြိုက်ပျော်ရွှင်သည်။ အဘယ့်ကြောင့်ဆိုသော် သူမက သူတို့၏ ဘဝကို လေးလေးနက်နက် စိတ်ဝင်စားပြီး

၁။ New Forest ၂။ Hampshire ၃။ Embley ၄။ Derbyshire

နာမကျန်းသူတွေ၊ ဆင်းရဲနွမ်းပါးသူတွေကို ကူညီရန် အမြဲ စိတ်အား ထက်သန်နေသောကြောင့် ဖြစ်သည်။

တစ်နေ့ သူမ မြင်းကလေးပေါ် တက်စီးလိုက်သည်။ (မကြာခဏ တောရွာကိုဖြတ်၍ မြင်းစီးလေ့ရှိသည်။) ဖလောရင့်ရော သူမနှင့်အတူ မြင်းစီးနေသော ဘုန်းတော်ကြီးတို့ပါ လယ်ယာအလုပ်သမားများ၏ တည်ငြိမ် အေးချမ်းမှုကို အနှောင့်အယှက်ပေးသည့် မြင်ကွင်းတစ်ခုကို တွေ့လိုက်ရသည်။ မြင်းကလေးကို ရပ်တန့်ပြီး သိုးတွေကို ကြည့်လိုက်သည်။

'သိုးတွေ ပြန့်ကျဲနေတာပဲ' ဟု သူမက ရုတ်တရက် အော်ပြောလိုက်သည်။ 'အဘိုးအို ရော်ဂျာ[၁]၊ သိုးတွေ ကောင်းကောင်းကျောင်းပုံ မရဘူး။ သူ့ခွေး ကက်ပ်[၂] ဘယ်ရောက်နေလဲ'

သိုးကျောင်းသားကြီး ရော်ဂျာက အနားကပ်လာပြီး စိတ်မကောင်းစွာ ပြောသည်။

'ကောင်လေးတွေ ခဲနဲ့ပစ်လို့ ခွေး ခြေကျိုးသွားတယ်။ ကျွန်တော် သူ့ကို အဆုံး စီရင်လိုက်ရတော့မယ်'

'အို ... မဟုတ်တာ၊ မဟုတ်တာရှင်။ ခွေး ဘယ်မှာလဲ' တိရစ္ဆာန်တွေကို ချစ်သော ဖလောရင့်က မေးလိုက်သည်။

လမ်းအောက်ဘက်ရှိ အဖီဟောင်းဆီသို့ ညွှန်ပြရင်း သိုး ကျောင်းသားကြီးက ပြောသည်။

'ဒါပေမဲ့ ဘာမှ လုပ်လို့ရမှာ မဟုတ်ပါဘူး မစ္စီရယ်။ အနာ ပျောက်သွားအောင် ခုည ကျွန်တော် ရှင်းလိုက်တာ ပိုကောင်းမှာပါ'

ကြင်နာသနားတတ်သော ဘုန်းတော်ကြီးဘက်သို့ လှည့်၍ ဖလောရင့်က ပြောလိုက်သည်။

'ကျွန်မတို့ တစ်ခုခု လုပ်ကြည့်ရမယ်' မြင်းကလေးကို ဖနှောင့်နှင့်တို့ပြီး သိုးကျောင်းခွေး လှလှလေး လဲလျောင်းနေသည့် အဖီသို့ ဦးတည်သွားသည်။ စိတ်ရှုပ်နေသော ဘုန်းတော်ကြီးက နောက်မှ လိုက်လာသည်။

သိုးကျောင်းခွေးက ကြမ်းပြင်ပေါ် လှဲနေသည်ကို တွေ့လိုက်ရသည်။ ခြေထောက်ကို စစ်ဆေးပြီးနောက် ဘုန်းတော်ကြီးက အခိုင်အမာ ပြောသည်။ 'ခွေး ခြေကျိုးတာ မဟုတ်ဘူး။ သူနာပြုနည်းနဲ့ ကုလို့ရတယ်'

---

၁။ Roger ၂။ Cap

ဘုန်းတော်ကြီးနှင့် ဖလောရင့်တို့ ရေနွေးကြိုပြီး သိုးကျောင်းသားကြီး စွန့်ပစ်ထားသည့် အကျီအဟောင်းကို ရေနွေးစိမ်လိုက်သည်။ ပူနွေးနေသော အဝတ်စကို ဒဏ်ရာရထားသည့် ခွေး၏ ခြေထောက်ပေါ် တင်ပေးလိုက်သည်။ သိုးကျောင်းသားကြီး ခွေးကို ကြိုးတုပ်သတ်ရန် ကြိုး တစ်ချောင်း ယူပြီး ပြန်လာသောအခါ ခွေးက တအီအီညည်းညူလျက် သူ့ကို နှုတ်သီးဖြင့် ပွတ်သပ်ပေးနေသည်။

'ရှင့်ကြိုးကို လွှတ်ပစ်လိုက်ပါ' သူနာပြုဆရာမလေးက ပျော်ရွှင်စွာ ပြောလိုက်သည်။

'ကက်ပ် ပြန်ကောင်းသွားလိမ့်မယ်'

ကက်ပ် ခြေထောက် ပြန်ကောင်းသွားပြီ ဖြစ်သဖြင့် ဖလောရင့်၏ ပထမဆုံး သူနာပြုကုသမှု အောင်မြင်သွားပေပြီ။ နှစ်ပေါင်းများစွာ ကြာပြီးနောက် ဘုန်းတော်ကြီးက ထိုအချိန်မှာ အောင်မြင်ကျော်ကြား နေပြီဖြစ်သည့် သူနာပြုဆရာမထံ စာရေးလိုက်သည်။

မင်း မှတ်မိသေးလား။ လွန်ခဲ့တဲ့ နှစ်ဆယ့်နှစ်နှစ်တုန်းက သိုးကျောင်းသား အဘိုးအို စမစ်သာ[၁]ရဲ့ သနားစရာခွေးကြီး ကက်ပ်ကို ကြိုးချည်သတ်မဲ့ ရည်ရွယ်ချက်ကို မင်းနဲ့ငါ တားဆီးနိုင်ခဲ့တာလေ။ သနားစရာ ခွေးရဲ့အသက်ကို ကယ်လိုက်ရတဲ့ ပျော်ရွှင်မှု၊ ပြီးတော့ မင်းရဲ့နုနယ်တဲ့ ဦးနှောက်ထဲကို ထည့်ပေးခဲ့တဲ့ ပျော်ရွှင်မှုကို ငါ ပြန်သတိရနေတယ်။ အဲဒါကို ကိုယ်တိုင် မြင်တွေ့လိုက်ရတာ ငါ သိပ်ပီတိဖြစ်မိတယ်။ ငါ့အတွက်တော့ အဲဒီကိစ္စဟာ မင်းလုပ်ဆောင်တော့မယ့်၊ ဖြစ်လာတော့မယ့် အတိတ်နိမိတ် မဟုတ်ပေဘူး။ (ဘာ့ကြောင့်ဆို ငါ တစ်ခါမှ အိပ်မက်တောင် မမက်ခဲ့ဘူး) ဒါပေမဲ့ အဲဒီအဖြစ်အပျက်ဟာ ကရုဏာနဲ့ စေတနာရှိတဲ့ ပင်ကိုစရိုက်ကို ဖော်ညွှန်းနေတယ်။ ဓမ္မသစ်ကျမ်း၊ ကောရိန္သု[၂]ဩဝါဒစာ ပထမစာစောင် အခန်း (၁၃) မှာ ဖော်ပြထားတဲ့ မေတ္တာတရားရဲ့ အခြေခံပဲ။

ငယ်စဉ်က ဖလောရင့်သည် ဆေးပညာကို စိတ်ဝင်စားကြောင်း သက်သေပြနေသည်။ စာပို့တံဆိပ်ခေါင်းအရွယ် စာအုပ်သေးသေးလေး ချုပ်ပြီးနောက် ဤဆေးညွှန်းကို စာအုပ်ကလေးထဲမှာ မှတ်တမ်းတင်ထား

---

၁။ Roger Smither ၂။ Corinthians

သည်။ "အဘွားအို တစ်ယောက်အတွက် ဂျုံစေ့ ၁၆ စေ့၊ မိန်းမပျို တစ်ယောက်အတွက် ၁၁ စေ့၊ ကလေးတစ်ယောက်အတွက် ၇ စေ့"

"ဒဏ်ရာရသည့်" သူမ၏ အရုပ်ကလေးများကို ပတ်တီးစည်းပေးပြီး ကြင်နာသနားတတ်သော မိခင်တစ်ယောက်၏ မေတ္တာစိတ်မျိုးဖြင့် ပြုစုစောင့်ရှောက်ပေးသည်။ အနီးဝန်းကျင်ရှိ တိရစ္ဆာန်များ အနာတရဖြစ်လျှင်၊ နေမကောင်းလျှင် ဖလောရင့်က သူတို့၏ သူနာပြုသမားတော်ဖြစ်လာသည်။ ဤ "ရှေ့ပြေးနိမိတ်များ" သည် သူမ၏ စိတ်ဝင်စားမှုမည်သည့်အရပ်သို့ ဦးတည်နေသည်ကို ညွှန်ပြနေသည်။

ထိုအတောအတွင်းမှာ ဖလောရင့်၏ ဖခင်က သူမ၏ ပညာရေးကို ကြိုးကြိုးစားစား ကြီးကြပ်ပေးနေသည်။ သူမနှင့် အစ်မဖြစ်သူ ပါသီ[၁]တို့မှာ အသက်သိပ်မကွာသဖြင့် အတူ ကျောင်းတက်ရသည်။ သူတို့ဖခင်က မိန်းကလေးများ၏ ပညာရေးနှင့် ပတ်သက်၍ တိုးတက်သော အမြင်ရှိသူ ဖြစ်သည်။ သူက အပေါ်ယံကြော ကိစ္စတွေကို ဖယ်ရှားပြီး ပုန်းကွယ်နေသော ပကတိ အခြေအနေကို ရှာဖွေသည်။ သူ့သမီး ဖလောရင့်မှာ ရှိနေသည့် နုနယ်သော်လည်း ထူးချွန်ပြောင်မြောက်သည့် စိတ်ဓာတ်ကို ဖျက်လို ဖျက်ဆီးလုပ်မည့် အတွေးအခေါ် အယူအဆမျိုး သူ့မှာ တစ်ခုမျှ မရှိပေ။

ဖလောရင့်နှင့် သူ့အစ်မတို့သည် ချမ်းသာကြွယ်ဝသည့် အိမ်ထောင်စုမှ အင်္ဂလိပ် မိန်းကလေးများ သင်ယူလေ့ရှိသည့် သင်ရိုးညွှန်းတမ်း ဘာသာရပ်များကို လေ့လာရသည်။ ဖလောရင့်၏ သင်ရိုးတွင် ဂီတ၊ ပုံဆွဲ၊ ဓာထိုးပန်းထိုးနှင့် ခေတ်သစ် ဘာသာစကားတို့ ပါဝင်သည်။ သို့ရာတွင် နောက်ဆုံး၌ သူမ၏ ဖခင်က ဖွဲ့စည်းပုံ အခြေခံဥပဒေသမိုင်းကို သင်ယူသင့်သည်ဟု ဆုံးဖြတ်လိုက်သည်။ ထိုဘာသာရပ်မှာ မိန်းကလေးတို့၏ဉာဏ်ရည်မမီနိုင်လောက်အောင် လေးနက်ခက်ခဲသော ဘာသာရပ်ဖြစ်သည်ဟု ထိုခေတ်ကာလ အမျိုးသားများက ယူဆကြသည်။ ဖခင်က သူမကို ဂရိနှင့်လက်တင် ဘာသာရပ်များ သင်ယူစေရန်လည်း ဆုံးဖြတ်လိုက်သည်။ အီတာလျံ ကဗျာဆရာ တာ့ဆို[၂]၊ ဂရိတွေးခေါ်ရှင် အရစ္စတိုတယ်[၃]၊ အီတာလျံ ပြဇာတ်ဆရာ အယ်လ်ဖီယာရီ[၄] တို့၏ စာများကို ထူးချွန်ပြောင်မြောက်

၁။ Parthe ၂။ Tasso ၃။ Aristotle ၄။ Alfieri

ဗွာ ဖတ်သည်။ ဖီဒို [၁]၊ ခရစ်တို [၂]၊ အပိုလိုဂျီ [၃] စသော ပလေတို [၄]၏ ကျမ်းများကိုလည်း ဘာသာပြန်သည်။

ဖလောရင့်က စတီးဝပ် [၅]၏ "လူသားစိတ်ဓာတ်ဆိုင်ရာ ဒဿန [၆]" ကို သရုပ်ခွဲသည်။ ထို့နောက် ရောမ၊ အီတလီ၊ ဂျာမန်၊ တူရကီ သမိုင်းတို့ကို စိတ်ဝင်စားသည်။ ဖခင်က သူ့စိတ်ကူးအိပ်မက်ကို အကောင်အထည်ဖော်ပေးသည်။ ဖလောရင့်နှင့် အစ်မဖြစ်သူတို့ကို ဆယ့်ကိုးရာစု ပထမပိုင်းကာလရှိ မိန်းကလေး အများစုထက် အများကြီး ပိုမိုလေ့ကျင့် သင်ကြားပေးထားသည်။ အလွန်ထူးချွန်သော ကျောင်းသူ ဖလောရင့်က ဘာသာရပ်အသစ်တွေကို စူးစမ်းလေ့လာဖို့ ရှာဖွေသည်။ ထိုအထဲက ဘာသာရပ်တစ်ခုမှာ သင်္ချာ ဖြစ်သည်။ ဤကိစ္စနှင့် ပတ်သက်၍ သူ့အစ်မက ဤသို့ ရေးခဲ့သည်။

> ဖလောရင့်က အခု သင်္ချာယူထားတယ်။ သူယူတဲ့ ဘာသာတိုင်းကိုလည်း နှစ်သက်တယ်။ သင်္ချာကို စူးစူးစိုက်စိုက် လေ့လာတယ်။ တအားကြီးလည်း ကြိုးစားတယ်။

နှစ်အနည်းငယ် ကြာပြီးနောက် ဉာဏ်ရည်ထက်သော ကျောင်းသူလေးက နာမည်ကျော် ကျွမ်းကျင်ပညာရှင် တစ်ယောက်နှင့် ဘူမိဗေဒဘာသာရပ်ကို ဆွေးနွေးသည်။ ကမ္ဘာမြေကြီး၏ ဖွဲ့စည်းပုံ ပြဿနာနှင့် ပတ်သက်၍ သူမ၏ ထက်သန်သော ထိုးထွင်းဉာဏ်ကို အသုံးပြုလျက် ကျွမ်းကျင်ပညာရှင်အား စိန်ခေါ်ဆွေးနွေးသည်။ ထိုညစာ စားပွဲဝိုင်း၌ပင် သူမ၏ ဘယ်ဘက်၌ အီဂျစ်ဗေဒ ပညာရှင်က ထိုင်နေသည်။ ထိုပညာရှင်နှင့် ရှေးဟောင်းကျောက်စာအကြောင်း ဆွေးနွေးသည်။ သူမ လေ့လာထားသည့် မူရင်းကျောက်စာကို ကိုးကား၍ ဆွေးနွေးသောအခါ သူမနှင့် ညစာအတူစားသူ မိတ်ဆွေကျွမ်းကျင်သူ ခများမှာလည်း လက်လျှော့ပေးလိုက်ရသည်အထိ ဖြစ်သွားသည်။

'တကယ်တော်တဲ့ မိန်းမပျိုလေးပဲ' ဟု ပညာရှင် နှစ်ယောက်လုံးက ဝန်ခံကြသည်။ 'ကျွန်တော့်ကို လက်တင်၊ ဂရိဘာသာတွေနဲ့ အလဲထိုးလိုက်တာ'

---

၁။ *Phaedo* ၂။ *Crito* ၃။ *Apology* ၄။ Plato
၅။ Stewart ၆။ *Philosophy of the Human Mind*

ဖလောရင့်က ရှေးခေတ်စာဆိုများကို ပို၍နှစ်သက်သည်။ သူ့ဖခင် အမွေရသည့် စည်းစိမ်ချမ်းသာ အသီးအပွင့်များကို ခံစားရသည်။ အမှန်အားဖြင့် စာပေလေ့လာမှုက လွဲလျှင် လူမှုအပေါင်းအသင်းများနှင့် လိုက်လျော ညီထွေ ဆက်ဆံ၍ ရရှိသော ပျော်ရွှင်မှုထက် အခြား လေ့လာလိုက်စားစရာများကို ပို၍ ထက်ထက်သန်သန် စိတ်ဝင်စားသည်။ ချမ်းသာကြွယ်ဝသော ဇနီးများ၏ ထုံးစံအတိုင်း သူမ၏ မိခင်က ချို့တဲ့နွမ်းပါးသူများ၊ နာမကျန်းသူများအတွက် လိုအပ်ချက်ကို ဖြည့်ဆည်းပေးခြင်းဖြင့် မအားလပ်နိုင်အောင် ဖြစ်သည်။ ဤကဲ့သို့ ကရုဏာလုပ်ငန်း ခရီးစဉ်များတွင် ဖလောရင့်က အမေနှင့်အတူ လိုက်ပါရသည်။ ယင်းအတွေ့အကြုံများက ရောဂါဝေဒနာ ခံစားရသူများ၊ စားရမဲ့ သောက်ရမဲ့ ခိုကိုးရာမဲ့နေသူများအတွက် သူမ၏ သနားကြင်နာစိတ်၊ စာနာစိတ်ကို လှုံ့ဆော်ပေးနေသည်။ ဆင်းရဲချို့တဲ့သူတို့၏ ပြဿနာများကို နားလည် သဘောပေါက်မှုကြောင့်ပင် ခရိုင်းမီးယား စစ်သည်တို့၏ အခက်အခဲများ အတွင်းသို့ အလွယ်တကူ ဝင်ရောက်သွားနိုင်ခြင်း ဖြစ်သည်။

အိမ်မွေးတိရစ္ဆာန်လေး တစ်ကောင်က လူမမာ ကလေးငယ် တစ်ယောက်ကို အားတက်ရွှင်လန်းသွားစေနိုင်ကြောင်း၊ ပန်းစည်းလေး တစ်စည်းက လူကြီးတစ်ယောက်ကို မျှော်လင့်ချက်တွေ ဆောင်ယူပေးနိုင်ကြောင်း ဖလောရင့် သေသေချာချာ သိမြင်လာသည်။ နောက်ပိုင်းနှစ်များတွင် သူမ၏ အတွေ့အကြုံများကို ပြန်လည်တွေးမိပြီး ကြင်နာသော အပြုအမူဖြင့် ကုစားနိုင်သည့် စွမ်းအင်ကို လက်တွေ့ပြသသည်။ အမှန်အားဖြင့် ခရိုင်းမီးယား စစ်ပွဲပြီးနောက် နှစ်ပေါင်းများစွာ အကြာမှာ အပြင်းအထန် နာမကျန်း ဖြစ်ရာ၊ တစ်စုံတစ်ယောက်က ပန်းစည်းလက်ဆောင် ပေးသောအခါ သူမ အလျှင်အမြန် ပြန်လည်ကျန်းမာလာသည်။

နှစ်ကာလများ လျင်မြန်စွာ ကုန်လွန်သွားသည်။ မမေ့နိုင်စရာ ပျော်ရွှင် ချမ်းမြေ့ဖွယ် အချိန်များကို လမ်းလျှောက်ခြင်း၊ လူမမာများထံ သွားရောက်ခြင်း၊ သူမ၏ဖခင် များစွာ ကူညီပေးသည့် ဂရိ၊ လက်တင်၊ အင်္ဂလိပ်စာနှင့် ခေတ်သစ်ဘာသာစကား သင်ရိုးများကို ကိုယ်ပိုင်ကျောင်းများ၌ လေ့လာခြင်းဖြင့် အသုံးချခဲ့သည်။ အသက် (၁၇) နှစ်မှာ ဤသင်ခန်းစာများ ပြီးဆုံးသွားပြီ ဖြစ်သည်။ သို့ရာတွင် ချမ်းသာကြွယ်ဝသော အင်္ဂလိပ်

အမျိုးသမီးတစ်ယောက် အနေနှင့် နိုင်ငံခြား ခရီးထွက်၍ နောက်ဆုံးမွမ်းမံမှု လုပ်ငန်း မပြီးမချင်း သူမ၏ လေ့လာမှုများ ကျကျနန အပြီးသတ်သွားသည် မဟုတ်ပေ။ သို့ဖြစ်၍ နိုက်တင်ဂေးလ် မိသားစုတို့ ၈ စက်တင်ဘာ ၁၉၃၇ တွင် ဥရောပတိုက်သို့ ခရီးထွက်ရန် ဆောက်သမ်တန်[၁]မှ ဟားဗဲ[၂]သို့ ဖြတ်ကျော်လာကြသည်။

နိုင်ငံခြား ခရီးထွက်ရသော နေ့ရက်များသည် ပျော်ရွှင်စရာတွေ ပြည့်နေသည်။ အောင်မြင်ကျော်ကြားသော ပုဂ္ဂိုလ်များနှင့် များစွာ ဆုံတွေ့ ရသည်။ ဤသို့ ဖြစ်ရခြင်းမှာ လိုက်လျောညီထွေ ဆက်ဆံတတ်သော ဝီလျံ၏ ချမ်းသာကြွယ်ဝမှုနှင့် စေတနာ ရက်ရောမှုကြောင့် ဖြစ်သည်။ သူတို့၏ ငွေကြေးအခြေအနေက လန်ဒန် လွိုက်[၃] အာမခံဈေးကွက်နှင့် မည်သို့မျှ နှိုင်းယှဉ်စရာ မရှိပေ။ သူတို့၏ လူမှုရေး အခြေအနေက လူများ ကို ယဉ်ကျေးမှု အခွင့်အလမ်း ဖွင့်ပေးသည်။ သူတို့ထက် ပို၍ ငွေရေး ကြေးရေး တောင့်တင်းခိုင်မာသော်လည်း အသိဉာဏ်ပညာ နည်းပါးသည့် မိသားစုတွေကို လမ်းဖွင့်ပေးသည်။ နိုက်တင်ဂေးလ် မိသားစု ပြင်သစ် တစ်ခွင်အနှံ့ အေးအေးဆေးဆေး ခရီးလှည့်လည်သည်။ ရှားထက်[၄]ဘုရား ကျောင်းကြီး၊ ဘလူဝါမြို့[၅]၊ တိုးရ်မြို့[၆]၊ နန့်တ်မြို့[၇]၊ အက်ဗီနွန်မြို့[၈]၊ တူလွန်မြို့[၉]များသို့ ရောက်ခဲ့ပြီး အန္တရာယ်ရှိသော်လည်း လှပသည့် ပြင်သစ် ရီဗီယား[၁၀] မြေထဲပင်လယ် ကမ်းခြေ၌ ၁၈၃၇ ခုနှစ် ဒီဇင်ဘာနှင့် ၁၈၃၈ ခုနှစ် ဇန်နဝါရီလအတွင်း နေထိုင်ခဲ့သည်။

ရေပြာပြာ မြေထဲပင်လယ် ဒေသမှ ဝီလျံ မထွက်ခွာချင်ဘဲ ထွက်ခွာ ခဲ့ရသည်။ ပိုမိုဆန်းသစ်သော ရှုခင်းတွေကို မြင်တွေ့ချင်သည့် ဖလောရင့် ၏ စိတ်အားထက်သန်မှုကြောင့်ပင်။ သူမ ပျော်ရွှင်ချမ်းမြေ့ဖို့အတွက် အလျှော့ပေးပြီး သူတို့မိသားစု ဂျီနိုအာ[၁၁]သို့ သွားကြသည်။ သမီးငယ် လေးကို မွေးဖွားရာ၊ သူမနှင့် နာမည်တူ ဖလောရင့်မြို့မှာ တစ်လကြာ နေထိုင်သည်။ နွေးထွေးသော ရာသီဥတု၏ ဆွဲဆောင်မှုကြောင့် မြောက် ပိုင်းသို့ ခရီးဆက်ကြရာ အီတလီ၏ သာယာလှပသော ရေကန်များ၊ ဆွစ်

၁။ Southampton ၂။ Havre ၃။ Lloyds of London ၄။ Chartres
၅။ Blois ၆။ Tours ၇။ Nantes ၈။ Avignon
၉။ Toulon ၁၀။ Riviera ၁၁။ Genoa

ဓာလန်၏ နှင်းသရဖူဆောင်း တောင်ထွတ်များ ရှိရာသို့ ရောက်သွားကြသည်။ ပါရီသို့ ၈ အောက်တိုဘာ ၁၉၃၈ တွင် ပြန်ရောက်သည်။

ဖလောရင့် ဝီရိယရှိရှိ ရေးမှတ်ထားသည့် ဒိုင်ယာရီထဲတွင် ရှုခင်းတွေ၊ လူမှုရေး အခြေအနေတွေ၊ အနုပညာ လက်ရာတွေ၊ လယ်ယာစနစ်တွေသာ မက သူမ လေ့လာစူးစမ်းခဲ့သည့် လူမှုကူညီရေး အသင်းအဖွဲ့တွေ အကြောင်းကိုပါ ဖော်ပြထားသည်။ ခရီးစဉ်အကြောင်းကို အသေးစိတ်ရေးမှတ်ထားသည်။ မြို့တစ်မြို့နှင့်တစ်မြို့ အကွာအဝေး၊ ရောက်ရှိ–ထွက်ခွာသည့် နေ့ရက်နှင့် အချိန်နာရီတို့ကို စနစ်တကျ ကော်လံများခွဲ၍ မှတ်တမ်းတင်ထားသဖြင့် ကိန်းဂဏန်းတွေ၊ စာရင်းအင်းတွေကို သူမ စိတ်ဝင်စားကြောင်း ပြသနေသည်။

၁၂ စက်တင်ဘာ ၁၈၃၈ ကို "အလွန် စိတ်လှုပ်ရှားရသော နေ့တစ်နေ့"ဟု မှတ်တမ်းတင်ထားသည်။ ထိုနေ့က သူတို့ တည်းခိုနေထိုင်ရာ ဂျီနီဗာသို့ သတင်းများ ရောက်လာသည်။ ဩစတြီးယား ဧကရာဇ်က အီတလီနိုင်ငံအတွင်း လွတ်ငြိမ်းချမ်းသာခွင့်ကို ကြေညာလိုက်သည်။ ထိုနေ့သည် တကယ့်ကို ထူးခြားသော နေ့တစ်နေ့ဖြစ်ရာ "ကျွန်မတို့ ဘဝတာတွင် စိတ်လှုပ်ရှားစရာ အကောင်းဆုံးနေ့" အဖြစ် မှတ်တမ်းပြုခဲ့သည်။ အင်ပါယာ နိုင်ငံတော်၏ အမိန့်ကို ဖတ်ကြားကြေညာသည့် ညမှာ သူတို့ တက်ရောက်နေခဲ့သည့် ပါတီပွဲ အကြောင်းကိုလည်း ရေးမှတ်ထားသည်။ တွေးခေါ် စဉ်းစားနေသည့် အချိန်မှာ သူမ၏ ရွှန်းလက်တောက်ပသော စိတ်က အသေးအဖွဲ လူမှုရေးကိစ္စများဖြင့် ကျေနပ်နှစ်သက် မနေနိုင်ပေ။

မိတ်ဆွေတစ်ယောက်၏ လောကွတ်ပြုမှုကြောင့် တွေ့ဆုံခဲ့သည့် ထင်ရှားသော သမိုင်းပညာရှင်တစ်ယောက် အကြောင်းကိုလည်း မှတ်တမ်းတင်ထားသည်။

> ဆစ္စမန်းဒီ[၁]၏ နိုင်ငံရေး အခြေခံသော စီးပွားရေးအားလုံးသည် နှလုံးသားမှ ပြည့်လျှံကျလာသည့်အပေါ် အခြေခံထားပုံ ရသည်။ သူက သက်ကြီးရွယ်အို တောင်းရမ်းစားသူများကို သူ့ယုံကြည်ချက်ကြောင့် အလေးထားသည်။ လူငယ်များကို သူတို့ အမူအကျင့်အလိုက် အလေးထားသည်။ ပက်စီယာ[၂]ရှိ သူ့အိမ်တံခါးဝတွင် တစ်မနက်လျှင် တောင်း

၁။ Sismondi ၂။ Pescia

ရမ်းစားသူ သုံးရာ ရှိသည်။ သမိုင်းပညာရှင်များနှင့် အချေအတင် ဆွေးနွေးနေစဉ် သူ့အခန်းထဲက ကြွက်တွေကို အစာကျွေးသည်။

သူမ၏ ဇာတိချက်မြှုပ် ဖလောရင့်မြို့၏ မြင်ကွင်းများကို လောဘတကြီး လေ့လာကြည့်ရှုသည်။ သို့ရာတွင် ဤမြို့သည် သူမ၏ နှလုံးသားကို မြှုပ်နှံရမည့်မြို့ မဟုတ်ပေ။ သို့သော် သူမက ဤမြို့ကို "တစ်စုံတစ်ရာအတွက် မလွတ်တမ်း သွားရောက်ရမည့် နေရာတစ်ခု" ဟု ပြောထားသည်။ ဤမြို့သည် သူမ၏ သူနာပြုစွမ်းရည်ကို ထုတ်ဖော် ပြသခဲ့ရာနေရာ ဖြစ်သည်။ နိုင်ငံခြားတိုင်းပြည်၏ မင်းသမီး ဖြစ်သွားသော အင်္ဂလိပ် အမျိုးသမီး တစ်ယောက် နာမကျန်းဖြစ်ရာ၊ ဖလောရင့်က သူမကို ကျန်းမာသည်အထိ သူနာပြုစုပေးခြင်းဖြင့် ပျော်ရွှင်မှု ရရှိခဲ့သည်။

သူမ၏ နှလုံးသားကို လွှမ်းမိုးနိုင်တာက ဂျီနိုအာ ....။ သာယာလှပသော၊ ကြည်နူးဖွယ်ကောင်းသော ဂျီနိုအာပင်။ ဤမြို့တွင် စည်းစိမ်ချမ်းသာပြည့်စုံပြီး အလုပ်အကိုင်မရှိ အချိန်ဖြုန်းနေသော ဆွေကြီးမျိုးကြီးတွေ၊ နွမ်းပါးနိမ့်ကျနေသော ဆင်းရဲသားတွေကို တွေ့ဆုံခဲ့သည်။ ဤမြို့တွင် ခမ်းနားထည်ဝါသော အီတာလျံ နန်းတော်ကြီးတွေရှိကြောင်း ဖော်ပြထားသည်။ နန်းတော်တွင်းက ပွဲတော်အခမ်းအနားတွေ၊ မဟာဆန်သော ဖျော်ဖြေတင်ဆက်မှုတွေ၊ လှပသော တေးဂီတကို နှစ်ခြိုက်ခံစားရတာ၊ အီတာလျံ ပါရဂူတွေ ဖြစ်လာမည့် ပုဂ္ဂိုလ်များနှင့်အတူ နိုင်ငံရေး အခြေခံသော စီးပွားရေး အကြောင်း ဆွေးနွေးရတာတွေကို အလွန် ကျေနပ်ပျော်ရွှင်သည်။ အီတာလျံ အော်ပရာက သူမကို ဆွဲဆောင်နိုင်သည်။ အနုပညာ ဖျော်ဖြေတင်ဆက်မှု အားလုံးကို တက်ရောက်အားပေးခဲ့ပြီး သီးသန့် အချိန်ပေးတက်ရောက်သည့် အစီအစဉ်များကို ဒိုင်ယာရီမှာ မှတ်တမ်းတင်ထားသည်။

"ကျွန်မ ညတိုင်း သွားချင်လိုက်တာ" ဟု သူ့မှတ်တမ်းထဲမှာ ဝန်ခံထားသည်။ "ဂီတရူးသွပ်သူ" ဖြစ်လာကြောင်းကိုလည်း ဖော်ပြထားသည်။ သူမ မွေးဖွားရာ မြို့မှာ သင်ခန်းစာယူဖို့ ဖလောရင့် အချိန်ရခဲ့သည်။ အမြဲ သီဆိုတီးမှုတ်ခြင်းဖြင့် သူနာပြုလုပ်ငန်း၌ ဆန္ဒပြင်းပြသော သူမ၏ စိတ်ဝင်စားမှုကို ခေတ္တခဏ လျှော့ချထားလိုက်ပုံ ရသည်။

နိုက်တင်ဂေးလ် မိသားစု ပါရီသို့ ရောက်သောအခါ သူမ၏ လူမှုရေးပျော်ရွှင်ကျေနပ်မှု၊ ပညာဗဟုသုတ ကြွယ်ဝပြီး ယဉ်ကျေးသိမ်မွေ့သူများနှင့်

ဆက်ဆံပေါင်းသင်းမှုတို့ အထွတ်အထိပ်သို့ ရောက်သွားသည်။ သူတို့မိသားစု ဆောင်းရာသီတစ်ခုလုံး ပါရီ၌ နေထိုင်ကြသည်။ ပါရီတွင် မေရီကလပ်[၁] (နောက်ပိုင်းတွင် မဒမ် မိုးလ်[၂]) နှင့် တွေ့ဆုံခဲ့သည်။ မေရီကလပ်သည် သူတို့မိသားစုနှင့် တစ်သက်တာ မိတ်ဆွေများ ဖြစ်လာပြီး သူတို့ထံ မကြာခဏ လာရောက်လည်ပတ်သည်။ မေရီသည် ပါရီမြို့တော်၏ ပညာတတ် အသိုင်းအဝိုင်းတွင် ထင်ပေါ်ကျော်ကြားသူ ဖြစ်သည်။ ဤရာသီတွင် အလည်လာရောက်သည့် ဂုဏ်သရေရှိ ပုဂ္ဂိုလ်များနှင့် ဖလောရင့် ဆုံတွေ့ရသည်။ သူမ၏ အိမ်ရှင်မက ထူးချွန်ထက်မြက်သူ၊ လှပချော‌မောသူ၊ အနုပညာရသ ခံစားတတ်သူ၊ ပျော်ပျော်နေတတ်သူ၊ သွက်လက်ချက်ချာသူ ဖြစ်သည်။

ပါသီက ဤသို့ ရေးသားခဲ့သည်။

မစ္စကလပ်သည် ဖလောရင့်နှင့် ကျွန်မကို အလွန့်အလွန် ကြင်နာသည်။ မိန်းကလေးနှစ်ယောက်မှာ စိတ်ဝင်စားစရာတွေနှင့် ပြည့်နှက်နေသည်။ သူမက ဂရုတစိုက် အကူအညီပေးတတ်သည်။ သူတို့ အသိုင်းအဝိုင်းက အထွတ်အမြတ် ထားသည့်အရာကို နိုးနိုးကြားကြား ကာကွယ်စောင့်ရှောက်သူ၊ သီးသီးသန့်သန့် မဟာဆန်ဆန် နေထိုင်တတ်သူ၊ ပါရီတွင် ကြေးရတတ်များ ဆုံ၍ စာပေစကားဝိုင်းများ ကျင်းပပေးတတ်သူများ ဖြစ်သည်။ ဤကဲ့သို့သော အသိုင်းအဝိုင်းက အင်္ဂလိပ် မိသားစုနှင့် မိတ်ဆက်ဖြစ်အောင် မည်သည့်အရှိန်အဝါ လွှမ်းမိုးနေသည်ကို ယခုတော့ ကျွန်မ ကောင်းကောင်း သိသွားပါပြီ။ (နှစ်ယောက်စလုံးက မိန်းကလေးငယ်တွေ။ ပြင်သစ် လူမျိုးချင်းသာဆိုလျှင် အပေါင်းအသင်း ဖြစ်လာကြမည် မဟုတ်ပေ။)

ထူးချွန်ထက်မြက်သော ဤလူများနှင့် ပေါင်းသင်းဆက်ဆံရခြင်း၊ မျက်မှောက်ခေတ် ပြဿနာများအပေါ်မှာ နိုးနိုးကြားကြား ရှိခြင်းတို့က ဖလောရင့်ကို တက်ကြွဖျတ်လတ်အောင် နှိုးဆော်ပေးသည်။ အသက် (၁၉) နှစ်အထိ သူမက ရှက်ရွံ့တတ်သော တောသူမလေး တစ်ယောက် ဖြစ်ခဲ့သည်။ သို့ရာတွင် ထွန်းပေါက်အောင်မြင်သော လူများနှင့် စုစုဝေးဝေး တွေ့ဆုံရခြင်းက အောင်မြင်သော အပြောအပြောကောင်းသူ တစ်ယောက်

---

၁။ Mary Clark ၂။ Madame Mohl

ဖြစ်အောင် တွန်းအားပေးသည်။ တည်ငြိမ်ရင့်ကျက်၍ ယုံကြည်မှုရှိသူ ဖြစ်လာသည်။ သက်ရှိ၊ ကွယ်လွန် စာရေးဆရာများထံမှ ကောက်သင်းကောက်သလို ကျယ်ကျယ်ပြန့်ပြန့် ရရှိထားသော ဗဟုသုတ အဖြာဖြာကြောင့် ပညာအတတ်ဆုံး ဆိုသော ပုဂ္ဂိုလ်များကိုပင် ဆွဲဆောင်နိုင်သည်။

နွေဦးရာသီ ရောက်သောအခါ နိုက်တင်ဂေးလ် မိသားစုက သူတို့သမီးတွေ "ဥရောပ၏ လှပခံ့ညားမှု" ကို လုံလုံလောက်လောက် ရရှိပြီဟု ဆုံးဖြတ်ပြီးနောက် ဖခင်ဖြစ်သူက အိမ်အပြန် ခရီးစဉ်ကို စီစဉ်လိုက်သည်။

လူမှုသောက ကင်းဝေးပြီး စည်းစိမ်ချမ်းသာနှင့် ပျော်ရွှင်မှုရှိသည့် ဘဝတစ်ခုသည် ဖလောရင့်ရှေ့မှာ သီသာထင်ရှားစွာ ရှိနေပြီ ဖြစ်သည်။ သူမအပေါ် အမြဲမပြတ် ဝေဖန်ထိုးနှက်သံတွေ ကျရောက်သည့် အချိန်ကာလတွေ မကြုံခဲ့ရဘူးလား။ သူ့မိသားစုက ဤကိစ္စ အမှန်ပင်ဖြစ်သည်ဟု ယုံကြည်သည်။ အဘယ့်ကြောင့်ဆိုသော် ယခုအခါ သူမ၏သိမှု အမြင်နယ်ပယ်အပေါ်မှာ တိမ်စိုင်ငယ်လေးတစ်ခု ဖုံးအုပ်နေသည်ကို သူမ၏မိသားစု မရိပ်စားမိကြပေ။ ပြင်းထန်သော မိုးသက်မုန်တိုင်း ကျရောက်သည် အထိ ကြီးထွားလာစေသော တိမ်စိုင်တစ်ခုပင်။

## အခန်း [ ၂ ]
## အမြင်တစ်ခု မွေးဖွားပြီ

အသက် (၁၉) နှစ်တွင် ဖလောရင့်သည် လှသည် ဆိုတာထက် တင့်တယ်ပြေပြစ်သော မိန်းကလေး။ အရပ်ရှည်ရှည်၊ ကျက်သရေရှိရှိနှင့် အသက်ပါသော၊ အမျိုးမျိုး ပြောင်းလဲနိုင်သော မျက်နှာထားပိုင်ရှင် ဖြစ်လာသည်။ သူမ စကားပြောသည့်အခါ တက်ကြွသည့် သူမ၏ စိတ်ခံစားချက်က မျက်နှာမှာ လင်းလက်နေသည်။ အသားအရေက နူးညံ့ပြီး နက်နဲတည်ကြည်စွာ စဉ်းစားတတ်သော မျက်လုံးတွေက ပြာလဲ့လဲ့ရောင် သမ်းနေသည်။ သူမ အပြုံးက နှုတ်ခမ်းနှစ်လွှာမှာ နှစ်လိုဖွယ်ကောင်းစွာ ဂယက် ထ နေသည်။

နိုင်ငံခြား ခရီးထွက်ပြီး အရေးပါ အရာရောက်သူတွေနှင့် တွေ့ဆုံပြီးနောက် ရှက်ကိုးရှက်ကန်း အမူအရာတွေ ပျောက်သွားသည်။ နိုင်ငံရေးသမားတွေ၊ နိုင်ငံ့ခေါင်းဆောင်တွေ၊ စစ်ဗိုလ်ချုပ်ကြီးတွေနှင့် တပ်သားတွေက သူမ ဆန္ဒအတိုင်း လုပ်ဆောင်လာအောင် ဘုရားသခင်က သိမ်းသွင်းပေးခြင်းဖြင့် သူမ အပြီးသတ် လုပ်ဆောင်ရန်ရှိသည့် လုပ်ငန်းတွေအတွက် သူမ၏ စိတ်ဝိညာဉ်ကို ကြိုတင် ပြင်ဆင်ပေးခဲ့သည်။

"ကျွန်မရဲ့ အကြီးမားဆုံး ရည်မှန်းချက်က အသိအမှတ်ပြု ခံရဖို့ (ကောက်ချက်ချ ခံရဖို့) မဟုတ်ဘူး" ဟု သူမ၏ နပျိုစဉ် ကာလများနှင့် ပတ်သက်၍ ရေးသားထားသည်။ "ကျွန်မက တခြားသူတွေနဲ့ တစ်မူထူးပြီး လုပ်ဆောင်ရမှာကို အမြဲတမ်း သေမလောက် ကြောက်တယ်။ ပြီးတော့ ကျွန်မက 'ဘယ်သူကမှ ကျွန်မကို အသိအမှတ် မပြုတာ သေချာရင် ပိုပြီး ဝမ်းသာတယ်' လို့ ပြောခဲ့တယ်။ ကျွန်မ အပြင်ထွက်သင့်တဲ့ အချိန်မှာ

တခြားလူတွေလို ဓားတွေ၊ ခက်ရင်းတွေ မသုံးရမှာကို ကြောက်တာ ဥပါဒါန် ဖြစ်နေတယ်။ ကျွန်မ ကလေးတွေနဲ့ စကားပြောရမှာ စိုးရိမ်တယ်။ သူတို့ နှစ်သက်အောင် မလုပ်နိုင်တာ သေချာနေလို့ပါ"

ဤကြောက်စိတ်နှင့် အခြားသူ၏ ခံစားချက်ကို နားလည်သိမြင်မှုများက ထိပ်ဆုံးရောက်အောင် သယ်ဆောင်သွားရမည့်၊ တက်ကြွသော ဝန်ဆောင်မှု လမ်းကြောင်းအတွင်းသို့ ဦးတည်ပေးမည့် ရှက်ပုန်းသီး စိတ်ခွန်အားကို ညွှန်ပြပေးသည်။ ဘုရားသခင်၏ အလိုဆန္ဒရှိချိန် ရောက်သည့်အခါ ဖြေလျှော့ပေးရမည့် ခံစားချက် မီးတောင်တွေ၊ စိတ်ခံစားချက် ရေအလျဉ်တွေ၊ ဆန္ဒပြင်းသည့် မိုးသက်မုန်တိုင်းတွေ ရှိသည်။ ဘုရားသခင်၏ အသံတော်က ပညာတတ်၍ ယဉ်ကျေးသိမ်မွေ့သော ဖလောရင့်ကို သူ၏ အမှုတော်ဆောင်လုပ်ငန်း၌ နှစ်မြှုပ်ထားရန် တိုက်တွန်းနေသည်။ ကလေးဘဝကပင် ဘုရားသခင်၏ အသံတော်ကို ကြားခဲ့ရပြီး ကျောင်းနေစဉ် ကာလ၌ သူနာပြုတစ်ယောက်ဖြစ်လိုသည့် ဆန္ဒကို မောင်းထုတ်ပစ်ရန် မတတ်နိုင်ခဲ့ပေ။ သို့ရာတွင် သူမ၏ အာသီသကို ထုတ်ဖော်ပြောရန် တုံ့ဆိုင်းနေသည်။

ဖလောရင့်နိုက်တင်ဂေးလ်ကို သူမ မျိုးဆက်၏ ထူးချွန်ထက်မြက်သည့် အမျိုးသမီးတစ်ယောက် ဖြစ်အောင်၊ အနိုင်မခံ အရှုံးမပေးသော စိတ်ဓာတ်ဖြင့် လူတကာ ချီးကျူးခံရသူ ဖြစ်အောင်၊ လမ်းချော်မသွားသည့် စိတ်ဆန္ဒရှိသူ ဖြစ်အောင် ဘုရားသခင်က လက်နက်တွေ တပ်ဆင်ပေးထားသည်။ သူမ၏ စိတ်ရောကိုယ်ပါ ခိုင်မာရင့်ကျက်မှု မရှိမချင်း ဤအားကျစရာ ကောင်းသော အနေအထားကို မရရှိနိုင်သေးပေ။

ခြောက်နှစ်သမီး အရွယ်ကတည်းက သူနာပြုလုပ်ငန်းကို ချစ်မြတ်နိုးသည့် တငွေ့ငွေ့တောက်နေသော မီးတောက်သည် မီးခဲပြာဖုံးသလို ငြိမ်ဝပ်နေခဲ့သည်။ သို့ရာတွင် (၁၇) နှစ်အရွယ် နိုင်ငံခြား ခရီးမထွက်ခင်မှာပင် ထွန်းပစွာ တောက်ပလာခဲ့သည်။ "ဘုရားသခင်က သူ့ရဲ့ အမှုတော်ဆောင်လုပ်ငန်း ဖြစ်တဲ့ သူနာပြုလုပ်ငန်းဆီ ကျွန်မကို ခေါ်ဆောင်နေပြီ" ဟု သူမ ရေးထားသည်။ ကလေးဘဝ ကတည်းက သူမကို ဘုရားသခင်က ပိုင်ဆိုင်သည်ဟု သူမ ယုံကြည်ခဲ့သည်။ ယောနသန် အက်ဒွပ်[၁]လိုပင်

၁။ **Jonathan Edwards**

ဖလောရင့်သည် ကလေးဘ၀မှာပင် ဘုရားသခင်ကို ချစ်မြတ်နိုးပြီး၊ ဘုရားသခင် ထံ၌ တာ၀န်ထမ်းရန် ဆန္ဒရှိခဲ့သည်။

ဖလောရင့် ဖခင်၏ ဘာသာရေးဆိုင်ရာ အယူအဆကတော့ အစဉ်အလာနှင့် များစွာ ကွာလှမ်းနေသည်။ သို့သော် မိခင်ဖြစ်သူကမူ ဘာသာရေး ကိုင်းရှိုင်းသည်။ မိခင်ဖြစ်သူ၏ အရှိန်အ၀ါဖြင့် ဖလောရင့်သည် ဘာသာရေး ပတ်၀န်းကျင်မှာ ကြီးပြင်းလာရသည်။ သူနာပြု လုပ်ငန်းဆီသို့ ဘုရားသခင်၏ ဆင့်ခေါ်သံကို ကြားသိရန် အခက်အခဲ မရှိပေ။

ဆယ်နှစ်သမီး အရွယ်တွင် သူမက အစ်မဖြစ်သူထံ စာရေးသည်။ "ချစ်တဲ့ ပေါ့ပ်ရေ၊ ကျွန်မ အစ်မအကြောင်းကို စဉ်းစားမိတယ်။ ကျွန်မတို့ တစ်ဦးကိုတစ်ဦး အခုချစ်တာထက် ပိုချစ်ဖို့ ဆုတောင်းကြရအောင်။ ... ဒါဟာ ဘုရားသခင်ရဲ့ အလိုတော်ပဲ။ အဲဒီအလိုတော်က တို့ရဲ့ ဘ၀ လမ်းကြောင်း တစ်လျှောက်မှာ တို့ကို နှစ်သိမ့်ပေးလိမ့်မယ်။"

သူမ၏ နေ့စဉ်မှတ်တမ်းတွင် စတင်ရေးသည့် စောစောပိုင်း နှစ်တစ်နှစ်၌ သူမ၏ အသက်မွေးမှုလုပ်ငန်းနှင့် ပတ်သက်၍ အဓိကစာကြောင်း တစ်ကြောင်းကို စတင်ခဲ့သည်။ "သင် ဘယ်နေရာရောက်ရောက် ဘုရားသခင်က သင်နှင့်အတူ ရှိနေသည်။" ဘုရားသခင် အခိုင်အမာ တည်ရှိနေသည် ဆိုသော သူမ၏ သိစိတ်က လုံး၀ မပျောက်ပေ။ ထိုစိတ်ပေါ်မှာ သူမ အကြိမ်ပေါင်းများစွာ တည်မှီနေသည်။

ကလေးဘ၀တွင် ပြင်းပြသော စိတ်ဆန္ဒက တွန်းအားပေး လှုံ့ဆော်ခဲ့သည်မှာ အထူးအဆန်း မဟုတ်ပေ။ ဤဆန္ဒကို သူမက သူနာပြု တစ်ယောက် ဖြစ်စေလိုသော ဘုရားသခင်၏ လုပ်ငန်းအဖြစ် အဓိပ္ပာယ်ကောက်သည်။ ဖလောရင့်အနေဖြင့် ဘ၀ဆိုသည်မှာ ဘုရားသခင်၏ အပေါင်းအဖော်ပင် ဖြစ်သည်။ ဘုရားသခင်၏ ဆန္ဒက သူမ၏ ရွေးချယ်မှုတွေကို လွှမ်းမိုးထားသည်။ ဘုရားသခင်က သူမကို သူနာပြုလုပ်ငန်းဖြင့် အသက်မွေးရန် အလိုတော်ရှိသည်ဟု ဆုံးဖြတ်ပြီးနောက် မည်သည့်အရာကမျှ သူမအား ကြောက်ရွံ့ နောက်တွန့်သွားအောင် မလုပ်နိုင်ပေ။ ဘုရားသခင်၏ အလိုတော်ကို လိုက်နာမည်ဆိုလျှင် လိုအပ်သော စိတ်ဓာတ်အင်အား၊ စိတ်ပိုင်း ဆိုင်ရာ စွမ်းရည်၊ ရုပ်ပိုင်းဆိုင်ရာ ခံနိုင်ရည်ရှိမှုနှင့်

တာဝန်ကျေပွန်အောင် ဆောင်ရွက်ရန် လိုအပ်သော စိတ်အင်အားတွေကို ဘုရားသခင်က ဖြည့်ဆည်းထောက်ပံ့ပေးလိမ့်မည်ဟု သူမ ယုံကြည်သည်။

သူငယ်ချင်းတစ်ယောက်က 'အသက် ၁၆ နှစ် ကျော်ပြီးနောက် သူ့ကို တွေ့တဲ့အချိန်တိုင်း ပြန်စဉ်းစားကြည့်တဲ့အခါ သူဟာ သူ့လုပ်ငန်းအတွက် မလွဲမသွေ ရင့်ကျက်နေပြီဆိုတာ တွေ့ရတယ်' ဟု ပြောခဲ့သည်။

ဥရောပတိုက်မှ ပြန်ရောက်လာသောအခါ ယခင်ကလိုပင် မိသားစု လူမှုဘဝ အတွင်းသို့ ဖလောရင့် ပြန်လည်ဝင်ရောက်သွားသည်။ နိုက်တင်ဂေးလ်၏ မိသားစုမှာ အကြီးအကျယ် ချမ်းသာသဖြင့် မည်သည့် လူမှုအသိုင်းအဝိုင်းကို မဆို အလွယ်တကူ ဝင်ရောက်နိုင်ပေသည်။ လန်ဒန် "ပွဲတော်ရာသီ" အတောအတွင်း သူတို့မိသားစု ဆိုရှယ်ပွဲလမ်းသဘင်အတွက် လန်ဒန်မြို့မှာ ရှိနေသည်။ နိုင်ငံခြားရှိ သူမ၏ မိတ်ဆွေများထံ စာရေးရာ၌ ဗြိတိသျှ အင်ပါယာ၏ ဦးဆောင်ပုဂ္ဂိုလ်များ၊ ငယ်ရွယ်သော ဝိတိုရိယ ဘုရင်မနှင့် သူမ၏ ဝန်ကြီးများအကြောင်း အတွင်းကျကျ ပြောပြသည်။ နိုင်ငံရေး သဘောတရားနှင့် မျက်မှောက်ခေတ် နိုင်ငံရေး အခြေအနေကို ဝေဖန်ဆန်းစစ် သရုပ်ခွဲပြသည်။ ကပွဲတွေ၊ အဝတ်အစားတွေ၊ ချစ်သူတွေအကြောင်း မရေးပေ။ သူမ၏ စာတွေက ထက်မြက်သော အတွေးအခေါ်သမား တစ်ယောက်၏ ပုံရိပ်ကို အတော်အတန် ထင်ဟပ်ပြနေသည်။

လန်ဒန် "ပွဲတော်ရာသီ" ပြီးဆုံးသောအခါ နိုက်တင်ဂေးလ် မိသားစုတို့ လီယာဟာ့စ် သို့မဟုတ် အမ်ဘာလီသို့ ပြန်လာသည်။ လီယာဟာ့စ်သည် အိပ်ခန်း (၁၅) ခန်းရှိသော အလွန်ကျယ်ဝန်းသည့် အိမ်ကြီးရခိုင်ဖြစ်သည်။ သို့ရာတွင် အမ်ဘာလီက ပို၍ပင် အထင်ကြီးစရာ ကောင်းလောက်အောင် ဝင့်ထည်သည်။ နိုက်တင်ဂေးလ်တို့က မိတ်ဆွေသူငယ်ချင်းများကို ဤနှစ်အိမ်စလုံး၌ မြိုင်မြိုင်ဆိုင်ဆိုင် ဧည့်ခံဖျော်ဖြေပေး၍ ဧည့်သည်များ အမြဲမပြတ် ဝင်ထွက်သွားလာကြသည်။ ဒုက္ခရောက်နေသူတွေ၊ နာမကျန်းသူတွေ၊ အကူအညီ လိုအပ်သူတွေက ဖလောရင့်ဘက် အလိုအလျောက် ဦးလှည့်လာကြသည်။

သူမကို ခေတ်ဆန်သော အသိုင်းအဝိုင်း၌ ရေပန်းစားသူတစ်ယောက် ဖြစ်လာရန်၊ သက်သောင့်သက်သာ နေထိုင်ရသည့် ဂုဏ်သရေရှိ အမျိုး

သမီး ဘဝ ရရှိရန်အတွက် လေ့ကျင့်ပျိုးထောင်ပေးခဲ့သည်။ သို့ရာတွင် သူမက အစေအပါးကဲ့သို့ ဆောင်ရွက်ရမည့် တာဝန်များ၌ မြှုပ်နှံရန် သူမ ကိုယ်တိုင် ရွေးချယ်ခဲ့သည်။ ဖလောရင့်ကို "ကရုဏာရှင် နှမငယ်" သို့ မဟုတ် "မိသားစု၏ အရေးပေါ် ယောကျ်ားသား" အဖြစ် မကြာခဏ ဖော်ပြခံရသည်။ သူမ၏ အဘွားဖြစ်သူ လေဖြတ်ရောဂါ ခံစားရသော အခါတုန်းက ရေးသည့် စာတစ်စောင်တွင် သူမ၏ အတွင်းကင်းမဲ့သော ဝန်ဆောင်မှုကို ညွှန်းပြနေသည်။ အဘွားဖြစ်သူ၏ ရောဂါ တစ်စိတ် တစ် ပိုင်း သက်သာလာအောင် သူမ ပြုစုပေးခဲ့သည်။

သူမက ဝမ်းကွဲ ဆွေမျိုးတစ်ယောက်ထံ စာရေးခဲ့သည်မှာ ဤသို့ ဖြစ်သည်။

> အခု ဒီမှာ လုပ်ရသလို သေမင်းအရိပ်ရဲ့ တောင်ကြားထဲမှာ လမ်းလျှောက်ရတာ ကျွန်မ တစ်ခါတလေ သိပ်ဝမ်းသာတယ်။ လောကီ ဒုက္ခ အားလုံးကို ချိန်ညှိပေးတဲ့ သေခြင်းတရားရဲ့ ငြိမ်သက် တိတ် ဆိတ်မှု အတွင်းမှာ တစ်စုံတစ်ရာ ရှိနေတယ်။ ဘုရားသခင်က တို့ရဲ့ တောင်ပံတွေကို အဲဒီ တောင်ကြားထဲက ရေထဲမှာ သန်မာတောင့်တင်း အောင် လုပ်ဆောင်ပေးတယ်။ ကျွန်မ ပျော်ရွှင်တာ၊ ကျေနပ်ဝမ်းမြောက်မှု မရှိတာ အတော်ကြာပြီ။ ဒါပေမဲ့ ဘဝရဲ့ လွန်ခဲ့တဲ့နှစ်တွေမှာ တောင် ကုန်းရဲ့ အခြားတစ်ဖက်ကို တက်ဖို့အတွက် ဒီဘက်တောင်ကုန်းက ဆင်းသွားသင့်သလား ဆိုတာ သိပ်သိချင်တယ်။ စကြဝဠာရဲ့ ရုပ်ပိုင်း ဆိုင်ရာနဲ့ နာမ်ပိုင်းဆိုင်ရာတို့ အပြင်းအထန် ယှဉ်ပြိုင်မှုမှာ ရုပ်ဝတ္ထုက ပိုကောင်းတာ ရသင့်တယ်။ စိတ်ပိုင်းဆိုင်ရာ အဆင့်မြင့်တက်လာတဲ့ အချိန်မှာ အဓ္ဈတ္တစိတ်ရင်းက အမြဲတမ်း အမှန်တကယ်ဖြစ်အောင် လုပ် ဆောင်သင့်တယ်။

သူမ၏ ပါရီကမိတ်ဆွေ မစ္စကလပ်၏ သူငယ်ချင်းတစ်ယောက် ကွယ်လွန်သွားသောအခါ ဖလောရင့်၏ ထပ်တူကြေကွဲမှုက စာတစ်စောင် ထဲမှာ ယိုဖိတ်ကျလာသည်။ ထိုစာထဲမှာ သူမက သောက၏ ဝန်ထုပ် ဝန်ပိုးကို အလင်းရောင်ပြထားသည်။

> ငယ်ရွယ်နုပျိုသူတွေဟာ ဝမ်းနည်းကြေကွဲမှုကို သိပ်ကြောက် တယ်လို့ မင်း ထင်သလား။ ဒါမှမဟုတ် သူတို့မှာ ဖျတ်လတ်တက်ကြွ

တဲ့ စိတ်ရှိရင်၊ သောကကို ဖြေဖျောက်စေဖို့ မဟုတ်ဘဲ စာနာထောက်ထား ကြောင်း ပြဖို့ ကူပြီး ဝမ်းနည်းပေးရုံလောက်နဲ့ ထိုက်တန်တယ်လို့ သူတို့ တွေးကြတယ်လို့ မင်း ထင်သလား။

အဲဒါဟာ အသက်ရှင် နေထိုင်မှုအတွက် ထိုက်တန်တဲ့ အရာ ဆိုတာ သေချာတယ်။ ပြီးတော့ တစ်ယောက်က ခြွေချလိုက်တဲ့ မျက်ရည် ပေါက်တိုင်းဟာ ဘဝထဲက ကောင်းမွန်တဲ့အရာ အချို့ကို ရေပက်ဖျန်း ပေးလိုက်တာပဲ။

လွန်ခဲ့တဲ့ ဒီလမှာ ဘယ်လိုညမျိုးတွေ ကိုယ်တို့ ကြုံတွေ့ရပါ လိမ့်။ ဒါပေမဲ့ အဲဒီလိုပဲ ထပ်တူထပ်မျှ ခံစားနေရတဲ့သူတွေ ရာပေါင်း၊ ထောင်ပေါင်းများစွာ ရှိတယ်လို့ တစ်စုံတစ်ယောက်က တွေးထင်တဲ့ အခါ၊ စာနာသနားမှုကို ဖီဆန်တဲ့ ပြဿနာတချို့ အိမ်တိုင်းမှာ ရှိနေ တာကို မြင်တွေ့တဲ့အခါ၊ ကမ္ဘာကြီး တစ်ခုလုံးက သူ့အကြောင်းနဲ့သူ ရှိနေတဲ့အခါ မနက်ခင်းတိုင်းဟာ ထူးမခြားနားပါပဲ။ လည်ပတ်နေတဲ့ ကမ္ဘာကြီးက နှလုံးသားမာကျောတဲ့ ကြယ်တွေကို ဖြတ်သန်းပြီး ထာဝရ ဆိတ်ငြိမ်စွာနဲ့ ရှောင်လွှဲမရနိုင်ဘဲ ပင်ပန်းငြီးငွေ့စရာ နိစ္စဓူဝ ပုံသေ လည်ပတ်နေရသလိုပေါ့။ ဘယ်အရာမှ အရေးပါ အရာမရောက်ဘူး ထင်သလိုပဲပေါ့။ ဘာပဲဖြစ်ဖြစ် သေခြင်းတရားက အသက်ရှင် နေထိုင် ခြင်းလောက် ငြီးငွေ့စရာ မကောင်းဘူး ထင်သလိုပေါ့။

မျှော်လင့်ချက်တိုင်းရဲ့ ခေါင်းတလား (နိဂုံး) ဟာ အတွေ့အကြုံ ကောင်း တစ်ခုရဲ့ ပုခက် (နိဒါန်း) ပဲ။ ဘယ်သူမှ အချည်းနှီး မခံစား ဘူး။

ဤသည်ပင် (၁၉) နှစ်အရွယ် မိန်းကလေးက သူမ၏ ဘဝကို ခံစစ် ပြင်ပေးသော ဝေဒနာ ခံစားချက်နှင့် ပတ်သက်သည့် ကျိုးကြောင်းခိုင်လုံ သော ဒဿန ဖြစ်သည်။ သူမအတွက် ဘုရားသခင်သည် တရားမျှတ သော၊ ဘုန်းတန်ခိုး ကြီးမြတ်သော ဖခင်ဖြစ်သည်။ သူမက ဘာသာရေး လမ်းညွှန်ချက်အတွက် ဘုရားသခင်ကို အားကိုးသည်။ ဖလောရင့်သည် စိုးရိမ်ကြောင့်ကြမှု မရှိသော မိန်းကလေးတစ်ယောက် အဖြစ်နှင့် အနာဂတ် ဘဝ တိုးတက်ရေး ဆောင်ရွက်နေသော အမျိုးသမီးကြီး၏ အဖြစ်ကို လိုက် ဖက်စွာ ပေါင်းစပ်ထားခြင်း ဖြစ်ပေသည်။

သူမက စာကို အလွန်ကျယ်ကျယ်ပြန့်ပြန့် ဖတ်သည်။ စကော့လူမျိုး တွေးခေါ်ပညာရှင် ကားလိုင်ယယ်[၁]၏ "အတိတ်နှင့် ပစ္စုပ္ပန်[၂]" စာအုပ်ကို "အကောင်းဆုံးစာအုပ်" ဟု ဖော်ပြသည်။ ဖလောရင့်က ဤလုပ်ငန်းနှင့် ပတ်သက်၍ ဝေဖန်သုံးသပ်ထားသည်။ "လုပ်ငန်းနှင့် ပတ်သက်၍ သေးငယ်သော ပမာဏများ ရှိသည်။ သူလုပ်ရမည့်လုပ်ငန်း တွေ့ရှိထားသူကို ဘုရားသခင် ကောင်းချီးပေးသည်။ သူ့ကို အခြားသော တောင်းဆုများ မတောင်းဆိုနိုင်းတော့ပေ။ သူ့မှာ အလုပ်ရှိသည် ဆိုလျှင် ရည်မှန်းချက်ရှိသော ဘဝတစ်ခု ဖြစ်ပြီ။ သူက ထိုရည်မှန်းချက်ကို တွေ့ရှိပြီး ရည်မှန်းချက် အတိုင်း လိုက်လိမ့်မည်။" ဤတုံ့ပြန်ချက်က သူမ၏ သဘောထားကို ထုတ်ဖော်ပြထားပေသည်။

နောက်ပိုင်း အဖြစ်အပျက်များအရ သူမ၏ ရည်ရွယ်ချက်ကို နားလည်နိုင်သည်။ နိုင်ငံရေး အခြေအနေနှင့် ပတ်သက်၍ သူငယ်ချင်း တစ်ယောက်နှင့် ဆွေးနွေးထားသည့် စာတစ်စောင်ထဲမှာ ဖလောရင့်က "ငါ ပါးစပ်ပိတ်နေရတော့မယ်။ နိုင်ငံရေးနဲ့ ပတ်သက်လို့ ဝင်မစွက်တော့ဘူး။ ဒါမှမဟုတ် ငါ နားမလည်တဲ့ ကိစ္စတွေကို မပြောတော့ဘူး" ဟု နိဂုံးမှာ ရေးသားထားသည်။ နိုင်ငံ့ခေါင်းဆောင် အမျိုးသမီး တစ်ယောက်ဖြစ်ရန် ရည်ရွယ်ချက်ကို သူမ ခဏတော့ စိတ်ကူးယဉ် ကြည့်ခဲ့ဖူးသည်။ သို့ရာတွင် သိစိတ်၏ အပေါ်လွှာ အထက်သို့ အခြားသော ရည်မှန်းချက်များ၏ ခေါင်းစဉ်တွေ တိုးဝင်လာသော အခါတိုင်း ထိုရည်မှန်းချက်တွေကို အလျင်အမြန် ပြန်၍ နှစ်မြှုပ်ပစ်လိုက်သည်။ အဘယ့်ကြောင့်ဆိုသော် သူမ ဘဝကို သူနာပြုလုပ်ငန်းမှာ မြှုပ်နှံထားမည်ဟု အခိုင်အမာ ယုံကြည်ထားသော ကြောင့်ပင်။

ထင်ရှားသော ပုဂ္ဂိုလ်များစွာတို့က သူမ၏ စီမံကိန်းကို အားပေးကူညီသည်။ ပါးလ်မားစတုန်း[၃] မိသားစု၊ အက်ရှ်ဘာတန်[၄] မိသားစုနှင့် ဒေါက်တာဖောင်းလား[၅] တို့မှာ နာမကျန်းသူများကို ပြင်ပ၍ ကုသရေးတွင် ပါဝင်သူများ ဖြစ်ပြီး သူမကိုလည်း အားပေးကူညီသူများ ဖြစ်သည်။ ဤမိတ်ဆွေများနှင့် ပတ်သက်၍ သူမ ရေးသားထားသည့် စာတစ်စောင်မှာ

---

၁။ Carlyle ၂။ *Past and Present* ၃။ Palmerstone
၄။ Ashburton ၅။ Dr. Fowler

ဆယ်ကျော်သက်ရွယ်နှောင်းပိုင်း သာမန် မိန်းကလေးတစ်ယောက်က ရေးသည့် ပုံစံမျိုး မဟုတ်ပေ။

"မစ္စစ် ကိသ်[၁]၊ မစ္စ ဒတ်တန်[၂]နှင့် လူစီယာ မက္ကင်ဇီ[၃] တို့ကို ဝိညာဉ်လိပ်ပြာ၊ စိတ်ထားနှင့် နှလုံးသားတို့ရဲ့ လေးစားအပ်သော ကိုယ်စားလှယ်တော်များအဖြစ် အတိုချုပ် ဖော်ပြနိုင်တယ်။ မစ္စစ် ကိသ်မှာ လူတစ်ယောက်ရဲ့ ဆည်းကပ်ကိုးကွယ်စရာ အပြည့်ရှိတယ်။ မစ္စ ဒတ်တန်က လူ တစ်ယောက်ရဲ့ အကြီးမားဆုံး ကြည်ညိုလေးစားစရာ ရှိတယ်။ လူစီယာ မက္ကင်ဇီမှာ လူတစ်ယောက်ရဲ့ အတက်ကြွဆုံး စိတ်ဝင်စားစရာ ရှိတယ်။ မစ္စစ်ဘရေ့စ်ဘရစ်ချ်[၄]မှာ အဲဒီသုံးခုစလုံး ရှိတယ်လို့ ပြောရမယ်။ တစ်ယောက်တည်းမှာ လူသားရဲ့ ဂုဏ်ရည်သုံးခု တစ်ပေါင်းတည်း ရှိနေတယ်။ သူမဟာ မျက်မမြင်တွေအတွက် မျက်လုံး၊ မသန်စွမ်းသူတွေအတွက် ခြေထောက်ဖြစ်တယ်။ အဲဒီလူတွေနဲ့ ပတ်သက်လို့ သူမမှာ ခံစားချက်ကင်းမဲ့တာ ကျွန်မ လုံးဝ မတွေ့ဖူးဘူး။ အစ်သူရီယယ်[၅] နတ်သားရဲ့ လှံသွားလို ထက်မြက်တဲ့ သူမရဲ့ အရည်အသွေးနဲ့ ထိတွေ့လိုက်တဲ့အခါ စိတ်ပျက်စရာတွေကို ကျွန်မ စိတ်တစ္ဆေထဲမှာ မှုန်ဝါး ပျောက်ကွယ်သွားစေတဲ့ စီမံကိန်း များစွာဟာ ပုံပေါ်လာတယ်၊ တကယ်လက်တွေ့ဖြစ်လာတယ်။"

ဗြိတိသျှအင်ပါယာ ဦးဆောင်ပုဂ္ဂိုလ်များ၊ တစ်ခါတစ်ရံ ဘုရင်မကြီးကိုယ်တိုင် တက်ရောက်သည့် အိမ်ဂေဟာများသို့ ဖလောရင့် ဖိတ်ကြားခံရသည်။ သူတို့နှင့် ဆက်ဆံရသောအခါ ကမ္ဘာ့နိုင်ငံ အသီးသီးမှာ ကြုံတွေ့နေရသည့် ပိုမိုကြီးမားသော ပြဿနာများကို ဖလောရင့် အလျင်အမြန် သိမြင်လာသည်။ ဤတွေ့ဆုံပွဲများထဲက တစ်ခုကို ဖော်ပြရာတွင် သူမ တွေ့ဆုံခဲ့သည့် ထင်ရှား ကျော်ကြားသူများအကြောင်း ဝမ်းကွဲအစ်မထံ ရှည်ရှည်လျားလျား ရေးသားထားသည်။

ညစာ စားပြီးတဲ့အခါ အားလုံး ဧည့်ခန်းဝန်းကျင်မှာ သက်သက်သာသာ မတ်တတ်ရပ်ကြပြီး စစ်သားတွေ အများကြီး စစ်ရေးပြသလို ပြုမူကြတယ်။ ဘုရင်မကြီးက စိတ်ဓာတ်ကျနေသူတွေ၊ ဝမ်းနည်း ပူဆွေးနေသူတွေကို စိတ်ဓာတ်တက်ကြွလာအောင် အကောင်းဆုံး လုပ်ဆောင်

၁။ Kieth ၂။ Dutton ၃။ Louisa Mackenzie
၄။ Bracebridge ၅။ Ithuriel

ပေးတယ်။ ဒါပေမဲ့ နောက်ဆုံးမှာတော့ တက်ရောက်သူတွေရဲ့ လွှမ်းမိုးခံရပြီး ရေငုံနှုတ်ပိတ်သွားကာ ဘုရင်မရဲ့လက်တွေ မလှုပ်နိုင်အောင် ဖြစ်သွားတော့တယ်။

သို့ရာတွင် ဇီဇာကြောင်ခြင်း၊ အထင်အမြင်သေးခြင်းသည် ဖလောရင့်၏ ပင်ကိုစရိုက် မဟုတ်ပေ။ ထင်ရှားကျော်ကြားသော ပုဂ္ဂိုလ်တွေ၊ လူမှုရေးနှင့် နိုင်ငံရေး နယ်ပယ်မှာ ရာထူးအမြင့်ဆုံး၊ အင်အားအကြီးဆုံး ပုဂ္ဂိုလ်တွေနှင့် တွေ့ဆုံခဲ့ရသော်လည်း ကျေးလက်က မိတ်ဆွေတွေ၊ ရေလက်ကြား တစ်ဖက်က မိတ်ဆွေတွေကို သူမ မမေ့နိုင်ပေ။ နိုက်တင်ဂေးလ်မိသားစု စီစဉ်သည့် လူမှုရေး အခမ်းအနားတစ်ခု၏ အစီအစဉ်မှာ သူမက မြို့မျက်နှာဖုံး ဧည့်သည်အချို့၏ အမည်ကို ဖော်ပြပြီးနောက် ပါရီက မစ္စကလပ် အမည်ကိုလည်း နောက်ဆက်တွဲအဖြစ် ဖော်ပြသည်။

မင်းသာ လာမယ်ဆိုရင် ငါ ဘယ်သူ့ကိုမှ မခင်တော့ဘူး။ မဟုတ်ဘူး၊ ငါ့ကိုယ်ငါလည်း မချစ်တော့ဘူး။ လုံးဝ ကျေနပ် အားရသွားမှာပဲ။

လန်ဒန်က လူမှုရေး ပွဲလမ်းတွေမှာ ချာချာလည်အောင် ပါဝင်ရတာ၊ ဝမ်းနည်းညှိုးငယ်နေသော (မကြာခဏ သုန်မှုန်နေသော) နိုင်ငံရေးသမားများ၊ အထက်တန်းလွှာ အမျိုးသမီးများ၊ ဘုရင်မကြီးတို့နှင့် စကားလက်ဆုံ ကျရတာကို ဖလောရင့် သာယာနှစ်သက်သော်လည်း နာမကျန်းသူတွေ၊ ဆင်းရဲချို့တဲ့သူတွေကို ပြုစုစောင့်ရှောက်မည် ဆိုသော သူမ၏ရည်မှန်းချက်ကိုတော့ မမေ့ပေ။ သူမ မိခင်က ရောဂါဝေဒနာ ခံစားရသူတွေ၊ ဆင်းရဲမွဲတေသူတွေထံ သွားရောက် တွေ့ဆုံသောအခါ ဤကုသိုလ်ဖြစ် ပရဟိတ ခရီးစဉ်တွေမှာ ဖလောရင့်က မိခင်နှင့်အတူ လိုက်ပါလာသည်။ မစ္စစ်နိုက်တင်ဂေးလ်သည် လီယာဟာ့စ်နှင့် အမ်ဘလီ အိမ်ဂေဟာဝန်းကျင်ရှိ ဆင်းရဲချို့တဲ့သူများ အပေါ်မှာ ဂျော့ဖာကွှဟာ၏ ပြဇာတ်ထဲက လေဒီ ဘောင်တီဖူးလ်[၁]လို စေတနာ ရက်ရောသူဖြစ်ပြီး စွမ်းဆောင်ရည်ရှိသော စည်းရုံးရေးသမားတစ်ယောက် ဖြစ်သည်။

ဖလောရင့်က မိခင်နှင့် ပတ်သက်၍ "သူမသည် လူ့အဖွဲ့အစည်း၏ ပါရမီထူးပုဂ္ဂိုလ်၊ ဒေသန္တရ နယ်မြေတစ်ခုကို စည်းရုံးရန် ပါရမီထူးသူဖြစ်သည်" ဟု ရေးခဲ့သည်။ မိခင်နှင့်အတူ ခရီးသွားရသဖြင့် ကြီးကြပ်

၁။ **Lady Bountiful**

ကွပ်ကဲမှု၊ စီမံအုပ်ချုပ်မှုတို့နှင့် ပတ်သက်၍ များစွာ အထောက်အကူရသည့် အချက်အလက်များ သိနားလည်လာသည်။ ဤအတွေ့အကြုံသည် သူမ၏ အနာဂတ်လုပ်ငန်းနှင့် ခရိုင်းမီးယားစစ်၌ ဆောင်ရွက်မှုများအတွက် အသုံးဝင်လာသည်။

သူမ၏ နှလုံးသားက ဝေဒနာ ခံစားရသူများ အကြား၌ ဆောင်ရွက်နေသည့် လုပ်ငန်းထဲမှာသာ ရှိသည်။ ဆိုရှယ်ပွဲများနှင့် ပျော်ရွှင်မှုများမှာ မရှိပေ။ အထင်ကရ တွေ့ဆုံပွဲတစ်ခုမှ ထွက်ခွာလာပြီး အိမ်နီးဝန်းကျင်က နာမကျန်းသူတစ်ယောက်၏ အိမ်သို့ သွားခဲ့သည်ကို လူအတော်များများ သိမြင်ကြသည်။ ထိုအိမ်မှာ အစေအပါးတွေလုပ်သည့် အလုပ်မျိုး သူမ လုပ်ဆောင်ပေးခဲ့သည်။ မကြာခင် ကျေးလက်လူထုက သူမကို ချစ်ခင်လာသည်။ သူမ လာရောက်ခြင်းကို အပေါင်းအသင်း မိတ်ဆွေတစ်ယောက်၊ ပုဂ္ဂိုလ်စွဲကင်းသော အကျိုးဆောင်တစ်ယောက်၏ လာရောက်တွေ့ဆုံခြင်း အဖြစ် အားတက်သရော စောင့်မျှော်ကြသည်။ အိမ်တစ်အိမ်မှာ နာမကျန်း ဖြစ်သည် ဆိုလျှင် သူမကို အထူးလိုက်လုံစွာ ကြိုဆိုကြသည်။ ဆင်းရဲချို့တဲ့သူတွေက 'သူမမှာ လူမမာအတွက် နည်းလမ်းတစ်ခု ရှိတယ်' ဟု ဆိုကြသည်။ ခရိုင်းမီးယားမှ ဒဏ်ရာရ စစ်သားများ၏ တောင်းဆိုသံကို ဖလောရင့် ကြားလိုက်သောအခါ ဤ "နည်းလမ်း" သည် နိုင်ငံတော်က အသိအမှတ်ပြုသောနည်းလမ်း ဖြစ်သွားတော့သည်။

ခရစ်ယာန် ဘုန်းတော်ကြီးက ဖလောရင့်ကို မိမိဘာသာ သီးခြား တစ်ယောက်တည်း ကူညီ ထောက်ပံ့ပေးသူအဖြစ် မှတ်ယူထားသည်။ အဘယ့်ကြောင့်ဆိုသော် ဆင်းရဲသားများအတွက် ဘုရားကျောင်း၏ လှုပ်ရှားမှုများကို ကူညီစည်းရုံးပေးသည်။ ခရစ္စမတ် စားပွဲသောက်ပွဲ၊ ညှိခံပွဲများကို ကူညီစီစဉ်ပေးသည်။ သူမ အသက်အရွယ် ကြီးရင့်လာသောအခါ လီယာဟာ့စ်အိမ်ကြီး၏ ဘုရားဝတ်ပြုဆောင်ဟောင်း၌ တနင်္ဂနွေ ညနေခင်းများတွင် ပို့ချသည့် သမ္မာကျမ်းစာ သင်တန်းကို ဦးဆောင်သည်။ ထိုဝတ်ပြုဆောင်မှာ နောင်အခါ ခရစ်ယာန် ဘုရားကျောင်းအဖြစ် လူသိများလာသည်။

သူမ၏ ဆောင်ရွက်မှုအတွက် အမ်ဘလီမှာ ပို၍ အခွင့်အရေး

ရသည်။ အမ်ဘာလီမှာ အာ့ကရိုက် [၁] နှင့် စမက်ဒလီ [၂] စက်ရုံများရှိပြီး အလုပ်သမား ရာပေါင်းများစွာ၊ အထူးသဖြင့် မိန်းကလေးငယ်များနှင့် အမျိုးသမီးများကို အလုပ်ခန့်ထားသည့် စက်ရုံနယ်မြေ ဖြစ်သည်။ ကျန်အလုပ်သမ များစွာတို့မှာ နိုက်တင်ဂေးလ် မိသားစုပိုင် မြေယာ၊ အဆောက်အအုံ၌ နေထိုင်ကြသဖြင့် ဖလောရင့်က သူတို့၏ လူမှုဘဝ ဖူလုံရေးကို အလေးအနက် စိတ်ဝင်စားသည်။ ဘုရားကျောင်း သုံးလေးခုက အလုပ်သမားတို့၏ စိတ်ဓာတ်ရေးရာ လိုအပ်ချက်များကို ပြုစုပေးသည်။ အိမ်ဂေဟာကြီးမှ မိန်းကလေးကလည်း စိတ်အားထက်သန်စွာ ကူညီပေးသည်။

သူနာပြုအဖြစ် ဘုရားသခင် ဆင့်ခေါ်ခဲ့သည့် ဖလောရင့်က နာမကျန်းသူများထံ လောကဝတ်အရ သွားရောက်တွေ့ဆုံခြင်း လုပ်ငန်းနှင့် ဘုရားကျောင်းလှုပ်ရှားမှု တွဲ၍ပါလာသည့် စိတ်ပိုင်းဆိုင်ရာ တာဝန်များအကြားက ကွဲပြားခြားနားချက် အနည်းငယ်ကို သိမြင်လာသည်။ ထိုနေရာအသီးသီးသို့ သူမက ခရစ်တော်၏ စိတ်ဓာတ်ကို သယ်ဆောင်ပို့ပေးသည်။ စိတ်ဓာတ်ရေးရာ လိုအပ်ချက် ဖြစ်စေ၊ ရုပ်ပိုင်းဆိုင်ရာ လိုအပ်ချက် ဖြစ်စေ သူမသည် ထိုသူများအတွက် အစေအပါးတစ်ယောက် ဖြစ်သည်။ သူနာပြုစုခြင်းကို သူမက ဘုရားသခင်၏ လုပ်ငန်းဟု ယူဆသည်။ ဘုရားသခင် ကိုယ်တိုင် ကြည့်ရှု ညွှန်ကြားချက်အောက်မှာ အောင်မြင်ပြီးမြောက်သွားသည့် မြင့်မြတ်သော လုပ်ငန်းတစ်ခု ဖြစ်သည်ဟု ယူဆသည်။

ခရစ္စမတ် ဆိုသည်မှာ ကျေးလက်နှင့် နိုင်ငံအတွင်းရှိ ဆင်းရဲချို့တဲ့သူများ ကြားမှာ အားတက်ရွှင်လန်းစေရန် ဆောင်ရွက်ပေးသည့် အခြားသော အချိန်ကာလတစ်ခု ဖြစ်သည်။ ဖလောရင့်က လက်ဆောင်တွေ ဝေငှပေးသည်။ ကလေးများအတွက် ဖျော်ဖြေပွဲများ စီစဉ်ပေးသည်။ အလုပ်သမား အိမ်တွေထဲက ဆင်းရဲသားများအတွက် ပျော်ရွှင်စရာတွေ စီစဉ်ပေးသည်။ ဂီတချစ်သူ သူမက လူငယ်များကို သီချင်းဆို လေ့ကျင့်ပေးသည်။ ဤကြိုးပမ်းမှုများ၏ အကျိုးဆက်ကြောင့် ခရစ္စမတ်တေး သီဆိုသူများက သူတို့၏ နာတာလူး တေးသံများဖြင့် မိမိရပ်ကွက် ဒေသကို ဝမ်းသာပျော်ရွှင်အောင် လုပ်ဆောင်ပေးသည်။

ဖလောရင့်၏ ဘဝက ဂျင်ခြေလည်အောင် လှုပ်ရှားနေရသော ဘဝ

---

၁။ Arkwright ၂။ Smedley

ပင်။ တစ်စုံတစ်ယောက်က သူမ ပျော်ရွှင်နေသည်ဟု ထင်မည်ပင်။ သိရသရွေ့ သူမမှာ မိန်းမပျိုတစ်ယောက်၏ နှလုံးသား၌ လိုလားတောင့်တသော အရာအားလုံး ရှိသည်။ လူမှုရေး အခမ်းအနားများ တက်ရောက်ခြင်း၊ ဆင်းရဲချို့တဲ့သူများအား ပြုစုပေးခြင်းဖြင့် နှစ်ကာလတွေ ကုန်လွန်ရတာကိုလည်း ကျေနပ်သည်။ သို့ရာတွင် အချိန်ကြာသည်နှင့်အမျှ ဖလောရင့် အနားမရတော့ပေ။ ဘုရားသခင်၏ အသံတော်ကို သူမ အလေးထားရမည်ပင်။

ခေါ်သံက ဆုံးဖြတ်ချက်တစ်ခုကို ပွက်ပွက်ညံအောင် တောင်းဆိုနေသည်။ ဖလောရင့်၏ အစ်မက ပျော်ပွဲရွှင်ပွဲကို နှစ်သက်သည်။ သို့ရာတွင် ဖလောရင့်က မိတ်ဆုံပါတီပွဲတွေ ဘယ်လောက် ခမ်းနားပါစေ၊ လူမှုရေးကိစ္စက ဘယ်လောက် အဆောတလျင် ဖြစ်ပါစေ သူမက မကျေနပ်နိုင်ပေ။ သူမက သူမ၏အလုပ် သူနာပြုလုပ်ငန်းကို လုပ်ဆောင်ရမည်ပင်။

ထိုကာလအတွင်းမှာ သူမက ဤသို့ ရေးထားသည်။ "ဒီလောကမှာ ငါ့အလုပ်က ဘာလဲ၊ လွန်ခဲ့တဲ့နှစ်ပတ်က ငါ ဘာလုပ်ခဲ့သလဲ။ 'အိမ်ကသမီး' ဝတ္ထုကို အဖေ့ကို ဖတ်ပြပြီးပြီ။ မက္ကင်တို့ရှ်[၁]ရဲ့ 'နိုင်ငံနှစ်ခု' ဝတ္ထုအတွဲ (၁) ထဲက အခန်း (၂) ခန်းကို အမေ့ကို ဖတ်ပြပြီးပြီ။ မကျန်းမာသူတွေဆီ (၈) ကြိမ်သွား။ အတူ ပူးပေါင်းဆောင်ရွက်ပေးခဲ့။ ဒီလောက်ပဲ။ ဒီလို ဘဝလမ်းကြောင်းက ငါ့အတွက် ဘယ်လောက် ပင်ပန်းတယ်ဆိုတာသူတို့ မသိဘူး။ လူအများနဲ့ ပတ်သက်တဲ့ ဇယားတွေပေါ့။"

တစ်ခါမှာတော့ သူမ၏ ဘဝလုပ်ငန်း စတင်ရန် ပြင်းပြသော အာသီသကို သူမ၏ စာထဲမှာ သိသာထင်ရှားစွာ တွေ့ရသည်။ "ဘုရားသခင်၊ ကျွန်မ ဘာဖြစ်လာမှာလဲ။ အို ... ပင်ပန်းလွန်းလှတဲ့ နေ့ရက်တွေ၊ အို ... အဆုံးမရှိတဲ့ ညနေခင်းတွေ၊ ညှော်ခန်းထဲက နာရီကို စောင့်ကြည့်ရင်း ဘယ်တော့မှ ဆယ်နာရီထိုးမှာ မဟုတ်ဘူးလို့ တွေးထင်နေတဲ့ စိတ်တွေ၊ နှစ်ပေါင်း ဘယ်လောက် ကြာရှည်နေဦးမှာလဲ။" သို့ရာတွင် ဘုရားသခင်က ပေးသော အလုပ်ကို လုပ်ကိုင်ရသောအခါ အထီးကျန် ခရိုင်းမီးယား ဒေသအတွင်း မိခင်၏ အေးမြသောလက်ကို နဖူးပေါ် တင်ပေးရန် တောင်းဆို

---

၁။ **Mackintosh**

နေသည့် စစ်သားအချို့၏ အိပ်ရာဘေးမှာ သူမ တစ်ညလုံး မအိပ်ဘဲ လိုလိုလားလား နေခဲ့သည်။

ဝီလျံနိုက်တင်ဂေးလ် အနေဖြင့် သူ အမွေရရှိထားသော စည်းစိမ်ဥစ္စာတွေကို အသုံးချရုံမှတစ်ပါး အခြား ဘာကိုမျှ စူးစူးစိုက်စိုက် မရှိပေ။ သို့ဖြစ်၍ အသေးအဖွဲ ကိစ္စလေးတွေကို အရေးတကြီး လုပ်ဆောင်ခြင်းဖြင့်သာ အချိန်ကုန်လွန်နေသည်။ ဥပမာအားဖြင့် မနက်ခင်းတိုင်း လန်ဒန်တိုင်းမ် သတင်းစာကို သမီးတွေကို ဖတ်ပြ။ သတင်းစာထဲက အကြောင်းအရာတွေကို ရှည်ရှည်လျားလျား ရှင်းပြသမျှ မဖြစ်မနေ နားထောင်ခိုင်း။ ငြီးငွေ့ဖွယ် ငွေရေးကြေးရေး ကိစ္စနှင့် အင်ပါယာနိုင်ငံ၏ အခွင့်အရေးနည်းပါးသော လူထုကို ရည်ညွှန်းသည့် သရော်စာတွေကို ရှင်းပြခြင်းဖြင့်သာ အချိန်ကုန်သည်။ သို့ရာတွင် သူက ဤကဲ့သို့ ပြုလုပ်ခြင်းသည် ယဉ်ကျေးသိမ်မွေ့စွာဖြင့် စိတ်ကို လန်းဆန်းလာအောင် နှိုးဆွပေးသည်ဟု အခိုင်အမာ ပြောသည်။ ဖလောရင့်အနေဖြင့် စာပိုဒ်ကို ဖျတ်ခနဲ တစ်ချက်ကြည့်ရုံမျှဖြင့် နားလည်သဘောပေါက်နိုင်သဖြင့် ဤကဲ့သို့ နေ့စဉ် နားထောင်ရသည်ကို ငြီးငွေ့သည်။ သို့ရာတွင် သူမက ထိုငြီးငွေ့ဖွယ် တစ်ချိန်လုံး အေးဆေးငြိမ်သက်စွာ ထိုင်နေသည်။

သို့ရာတွင် နောက်ပိုင်း၌ သူမ၏ တုံ့ပြန်မှုကို စာရေး၍ ရင်ဖွင့်ထားသည်။

> အခုတော့ ပါသီအနေနဲ့ မနက်ခင်း သတင်းစာဖတ်ခြင်းက ကိစ္စမရှိတော့ဘူး။ သူက ပုံတွေပဲ ဆက်တိုက်ဆွဲနေတာ။ ဒါပေမဲ့ အဲဒီလို အကွယ်အကာ မရှိတဲ့ ကျွန်မအဖို့တော့ ကြဲရာမရဖြစ်ပြီး ငြီးငွေ့စရာကောင်းလှတယ်။ အသံကျယ်ကျယ်ထွက်ပြီး ဖတ်ပြတာကို နားထောင်ရတာက လူ့ဉာဏ်ရည်ဉာဏ်သွေးနဲ့ ပတ်သက်ပြီး စိတ်ပျက်စရာ အကောင်းဆုံး အလေ့အကျင့် တစ်ခုပဲ။ ဒါမှမဟုတ် တကယ်တမ်းဆိုရင် ဒါဟာ လေ့ကျင့်ပေးနေတာ အစစ်အမှန် ဟုတ်ပါရဲ့လား။ အဲဒါက တစ်ယောက်ရဲ့ ကျောပေါ်မှာ လှဲ။ လက်တစ်ဖက်ကို ကြိုးချည်ပြီး သူ့ပါးစပ်ထဲ အရည်တွေ လောင်းထည့်ပုံမျိုးပဲ။ အဲဒါထက်တောင် ဆိုးသေး။ ဘာ့ကြောင့်လဲဆိုတော့ မွန်းကျပ်ခြင်းဆိုတဲ့ အကျိုးဆက်ကိုသာ ချက်ချင်း

ရရှိပြီး ခံစားချက်မဲ့ လုပ်ဆောင်မှုတစ်ခုကို ရပ်တန့်ပစ်လိုက်တယ်။ ဒါပေမဲ့ မွန်းကျပ်မှုက အခြားသူကိုတော့ မရပ်တန့်စေနိုင်ဘူး။

သူမက အိမ်မှုကိစ္စများကို မကြာခဏ ကူညီလုပ်ကိုင်ပေးသည်။ တစ်ခါက ဂျယ်လီလုပ်ရန် သူမကို တာဝန်လွှဲပေးလိုက်သည်။ သို့ရာတွင် ဤကိစ္စသည်လည်း သူ့အဖေ တိုင်းမ်သတင်းစာ ဖတ်ပြသကဲ့သို့ပင် ငြီးငွေ့ဖွယ် ကောင်းသော အလုပ်တစ်ခုအဖြစ် ဖလောရင့် တွေ့ရှိရသည်။

ဤအိမ်မှုလုပ်ငန်း စွန့်စားခန်း ပြီးသည့်နောက် သူမ သူငယ်ချင်း ပန်းချီဆရာမ တစ်ယောက်ထံ စာရေးသည်။

ငါ ဦးဆောင်ရတဲ့ကာလ အခုတော့ ပြီးသွားပါပြီ။ ဒါပေမဲ့ ပန်းချီဆရာ တစ်ယောက် သူ့ဆေးဘူးတွေကို ဂုဏ်ယူကျေနပ်စရာ ရှုမြင်သလိုပဲ၊ ငါလည်း အိုး (၅၆) လုံးကို မြင်နေတာကလွဲလို့ တခြား ဘာကိုမှ မမြင်ဘူး။ ဒါပေမဲ့ ပါသီရဲ့ သူ့လုပ်ဆောင်ချက်အတွက် ခံစားခဲ့တာထက် အခြားတစ်ဖက်မှာ ငါ့ဦးနောက်က ငါ့အလုပ်ရဲ့ ပျော်ရွှင်စရာ အကျိုးသက်ရောက်မှုကို ပိုပြီး လှပတဲ့ ခံစားချက်နဲ့ လေ့လာဆန်းစစ်နေမိတယ်။

နောင်အခါ သူမက ဤသို့ ဝေဖန်မှတ်ချက် ချခဲ့သည်။

ပိတ်စတွေနဲ့ ဖန်ခွက်သံတွေ ငါ့နားထဲ ကြားနေရတဲ့အထိ အလုပ်ရှုပ်နေတယ်။ အိမ်မှုကိစ္စ လုပ်ရတာ ငါ သိပ်နှစ်သက်ပါတယ်။ ခုလိုပညာတွေ အများကြီးတတ်ပြီး တက်ကြွမှု နည်းနည်းပဲရှိတဲ့ အသက်အရွယ်မှာ ဒီလို လုပ်ရတာဟာ ငါတို့ရဲ့ သဘောတရားတွေကို အနည်းဆုံးတော့ လက်တွေ့ အသုံးချလိုက်တာပဲ။ အချက်အပြုတ် ထူးချွန်မှုဆိုင်ရာ ငါ့ရဲ့ အလှတန်ဆာ ပစ္စည်းနဲ့ ပတ်သက်တဲ့ ငါ့ဇယားထဲမှာ၊ အစိမ်းရောင်၊ အညိုရောင်၊ အနီရောင် ဇယားထဲမှာ အချက်အပြုတ် ကျွမ်းကျင်တတ်မြောက်ခြင်းရဲ့ အသုံးဝင်မှုကို စိတ်ထဲက ခံစားကြည့်လို့တောင် မရဘူး။ 'ကျိုးကြောင်းဆင်ခြင်တတ်တဲ့ လူတွေဟာ အဲဒါတွေကို အလိုရှိသလား၊ ကြွေထည်၊ ချည်ထည်၊ ဖန်ထည် အားလုံးဟာ လူတစ်ယောက်ကို တိုးတက်တဲ့သတ္တဝါ ဖြစ်စေဖို့ လိုအပ်သလား' ဆိုတာကို ငါ့စိတ်ထဲမှာ မမေးဘဲ မနေနိုင်ဘူး။

ဤတုံ့ပြန်မှုများသည် လုပ်ရိုးလုပ်စဉ် ပုံမှန်တာဝန်များနှင့် ပတ်

သက်၍ ဖလောရင့်၏ သဘောထားကို ဖော်ပြနေသည်။ ထိုတာဝန် ဝတ္တရားများသည် သူမတို့ခေတ်က အမျိုးသမီးများ၏ ဘဝတစ်စိတ်တစ်ပိုင်းမှာ မရှိမဖြစ် လိုအပ်သော၊ ရှောင်လွှဲ၍ မရနိုင်သော တာဝန်များအဖြစ် လက်ခံထားကြသည်။ သို့ရာတွင် ဖလောရင့်က စေ့စေ့စပ်စပ် ခွဲခြမ်းစိတ်ဖြာလေ့လာသည်။ ဆွစ်ဇာလန် သမားတော် "ပါရာဆဲလ်ဆပ်စ်[၁]" အကြောင်း ဘရောင်နင်[၂] ရေးဖွဲ့သည့် ကဗျာ၏ ပထမကဏ္ဍကို ဖတ်ပြီးသောအခါ သူမက ဤသို့ ဝေဖန်ကောက်ချက်ချသည်။

ဘဝမှာ ရည်ရွယ်ချက်တစ်ခုကို တွေ့ရှိဖို့ လေ့လာလိုက်စားခြင်းသည် ၎င်း၏ စစ်မှန်သော ဝေဒနာတစ်ရပ်ပင်။

သူမက မှတ်စုစာအုပ်များ ရေးမှတ် သိမ်းဆည်းထားပြီး "ကျိုးကြောင်း ဆင်ခြင်မှုခေတ်"၊ "တစ်ယူသန် သဘောထား"၊ "ခရစ်ယာန်ဓမ္မသြဝါဒများ"၊ "သေခြင်းတရား"၊ "ပညာရေး" စသည်ဖြင့် ခေါင်းစဉ် အမျိုးမျိုး တပ်ထားသည်။ သူမက ဖတ်ပြီးသမျှကို ဝေဖန်မှတ်ချက် ပေးထားသည်။ မွေနှောက်ထားသော သူမ၏ အတွေးများကို မှတ်တမ်းတင်ထားသည်။

သူမက ရေးထားသည်။

အမှောင်ဖုံးပြီး ကြမ်းတမ်းပင်ပန်းတဲ့ ဘဝတစ်ခုကို ဦးဆောင်ဖို့ ငါ အချိန်တွေ အများကြီး လိုလားတောင့်တတယ်။ ဘုရားသခင်ထံက အချိန်တန်ပြီလို့ ခွင့်ပြုတဲ့စကားကို လက်ခံရရှိဖို့ဆိုတဲ့ ရည်ရွယ်ချက်ကြောင့်ပဲ။ ပြီးတော့ တစ်နေ့နေ့မှာ ဘုရားသခင်ရဲ့ နာမတော်ကို ချီးမွမ်းဂုဏ်ပြုလိုက်မယ်။ အခုခေတ်မှာ လူတွေဟာ ထုတ်လုပ်ဖို့နဲ့ စားသုံးဖို့ သူတို့ကိုယ်တိုင် အလျင်စလို လုပ်ကိုင်နေကြရတယ်။ လူ့အဖွဲ့အစည်းအပေါ် အရှိန်အဝါ သက်ရောက်အောင် ဘုရားသခင် လေ့ကျင့်ပေးဖို့ ဆင့်ခေါ်ထားတဲ့ လူသားတွေကို ပုံဖော်ပေးနေတာက အငြိမ်းစားယူခြင်း၊ တိတ်ဆိတ်ငြိမ်သက်ခြင်းနဲ့ တရားဘာဝနာ ပွားများခြင်းတွေထဲမှာသာ ဖြစ်နေတယ်။

ဖလောရင့်က သူနာပြုလုပ်ငန်းကို သူမ၏ သက်မွေးမှု လုပ်ငန်းအဖြစ် လုပ်ကိုင်ရန် ဆုံးဖြတ်ထားသည်။ ဤကဲ့သို့ လုပ်ငန်းထဲမှာဆိုလျှင်

---

၁။ *Paracelsus* ၂။ Browning

မထင်မရှား ဝတ်ရုံအတွင်း သူမကိုယ်သူမ ပုန်းအောင်းနေနိုင်မည် ဖြစ်သည်။ သို့ရာတွင် ဘုရားသခင် အပ်နှင်းထားသည့် သူမ၏ ပင်ကိုစွမ်းရည်ကိုမူ အသုံးချနိုင်မည် ဖြစ်သည်။ ညစာစားပွဲ တည်ခင်းဧည့်ခံသောအခါ ဖလောရင့်က သိသိသာသာပင် မကြာခဏ ပျက်ကွက်လေ့ရှိသည်။ သူမကို လိုက်ရှာလျှင် ဆင်းရဲနိမ့်ကျသော ကျေးလက်အိမ်အတွင်းက လူမမာ အိပ်ရာဘေးမှာ စောင့်ကြည့်နေသည်ကို တွေ့ရမည် ဖြစ်သည်။ ဟိတ်ကြီး ဟန်ကြီး နိုင်သော ဖခင်က အပြစ်တင်သောအခါ မိတ်ဆွေတစ်ယောက်၏ ဝေဒနာကို သက်သာအောင် ကူညီစောင့်ရှောက်နေရသဖြင့် ခမ်းနား ထည်ဝါသော ညစာစားပွဲ မတက်ဖြစ်ကြောင်း အေးအေးဆေးဆေး ရှင်းပြသည်။

> ကောင်းကင်ဘုံနဲ့ ပတ်သက်တဲ့ ငါ့ရဲ့အတွေးက တို့နောက်မှာ ရှင်သန်ကျန်ရစ်မယ့် လူမမာတွေကို ပြုစုရင်း၊ တစ်ဦးကိုတစ်ဦး စာနာထောက်ထားမှုတွေ ပေးရင်း၊ တို့တွေရဲ့ အလယ်မှာ ရှိနေတဲ့ ကယ်တင်ရှင် ယေရှုက တို့ကို ခွန်အားတွေ ပေးရင်းနဲ့ ငါချစ်တဲ့ အဒေါ်ဟန်နာ[၁] ရယ်၊ ငါရယ်၊ ငါ့ရဲ့ကောင်လေး ရှိုး[၂]ရယ် (သူမ ချစ်ခင်သော မိသားစုဝင်တစ်ဦး)၊ ကျွန်မတို့အားလုံး အတူတူ ကောင်းကင်ဘုံမှာ နေကြရဖို့ပဲ။

ဟု ရေးသားထားသည်။

သူနာပြုတစ်ယောက် ဖြစ်ချင်သည့် သူမ၏ဆန္ဒက ပြင်းပြသော ဆန္ဒဓော ဖြစ်လာသည်။ ၎င်းသည် သူမ ဘဝအတွက် ဘုရားသခင်၏ အလိုတော် ဖြစ်သည်ဟု ပို၍ ပို၍ ယုံကြည်လာသည်။ ဂျူလီယာ ဝါ့ဒ် ဟောင်းဝဲ[၃]နှင့် ဒေါက်တာ ဟောင်းဝဲ[၄]တို့ အမ်ဘလီသို့ အလည်လာသောအခါ ဖလောရင့်က သူမ လိုလားတောင့်တသော ဆန္ဒကို ဖွင့်ပြောပြသည်။

'ကျွန်မက သူနာပြုအတတ်ကို လေ့လာသင်ယူဖို့ ဆုံးဖြတ်ထားတယ် ဆိုရင်၊ ကျွန်မဘဝကို အဲဒီ အသက်မွေးဝမ်းကျောင်းလုပ်ငန်းမှာ မြှုပ်နှံမယ် ဆိုရင် ဒါဟာ ဆိုးဝါးတဲ့ မကောင်းတဲ့လုပ်ရပ်လို့ ထင်သလား'

သူမ၏ မိသားစုနှင့် အပေါင်းအဖော်တွေကတော့ "ဟုတ်တယ်" ဟု အဆုံးအဖြတ်ပေးမှာ အမှန်ပင်။ သို့ရာတွင် ကြင်နာတတ်သော ဆရာဝန်က အားတက်ဖွယ်ရာ ပြောသည်။ 'မကောင်းတဲ့ ဆိုးဝါးတဲ့လုပ်ငန်း လုံးဝ မဟုတ်ပါဘူး။ အင်မတန်ကောင်းတဲ့ လုပ်ရပ်လို့ ထင်ပါတယ်'

---

၁။ Hannah ၂။ Shore ၃။ Julia Ward Howe ၄။ Dr. Howe

ဖလောရင့်က အခြား စုံစမ်းမေးမြန်းစရာ ရှိတာတွေကို အေးအေးဆေးဆေး မေးမြန်းပြီးနောက် အသေအချာ အစီအစဉ်တွေ ချနေသည်။ ဤစိတ်ကူးကို သူမ၏ မိသားစုတွေ ကန့်ကွက်မည်ကို သိသဖြင့် သူမ၏ ရည်ရွယ်ချက်ကို မိသားစုအား ဖွင့်မပြောပေ။ အလွန် တော်၍ ထက်မြက်ပြီး အဆင့်အတန်းမြင့်မြင့် မွေးဖွားလာသည့် ဖလောရင့် အနေဖြင့် ဤလုပ်ငန်းသည် သူမ၏ ပါရမီ အရည်အသွေးတွေထက် အလွန် နိမ့်ကျလွန်းသည်ဟု မိသားစုတွေက ယုံကြည်နေကြသည်။

တစ်နေ့မှာ ဖလောရင့်က သူမ သူနာပြု အတတ်ပညာ သင်ယူမည်ဟု စီစဉ်ထားကြောင်း ဖွင့်ပြောလိုက်သဖြင့် မိဘတွေ အထိတ်တလန့်ဖြစ်သွားတော့သည်။ ၁၁ ဒီဇင်ဘာ ၁၈၄၅ မှာ သူမ၏ ရင်တွင်း လျှို့ဝှက်ချက်များကို ဖွင့်ဟလေ့ရှိသည့် အချစ်ဆုံး အစ်မဝမ်းကွဲထံ စာရေးလိုက်သည်။

> ဟုတ်တယ် ... အချစ်ဆုံး မမရေ၊ ကျွန်မ ပြောချင်တဲ့ အရေးအကြီးဆုံး အကြောင်းအရာ မပြောရသေးဘူး။ မြှုပ်ကွယ်ထားတဲ့ ရတနာကို တိတ်တိတ်ဆိတ်ဆိတ် တူးဖော်ရမယ့် မမရဲ့ အကြံပေး စကားထဲမှာ အမှန်တရားတွေ အများကြီးရှိတယ် ဆိုတာ ကျွန်မ တွေ့ထားတယ်။ ဒါမှမဟုတ် မမကတော့ ဒါကို တွေ့မှာ မဟုတ်ဘူး။ ဒါကြောင့် မမထံက တစ်ဆင့် ကျွန်မရဲ့ ခပ်ညံ့ညံ့ အကြံအစည်လေးကို တိတ်တဆိတ် ဖော်ထုတ်လိုက်ရပါတယ်။
>
> အဲဒါကတော့ သူနာပြုတစ်ယောက် ဖြစ်ဖို့ ဆလစ်ဘရီ[၁] ဆေးရုံမှာ အတတ်ပညာ လက်တွေ့သင်ကြားမယ်။ ပြီးရင် အိမ်ပြန်လာပြီး ဝက်စ်ဝယ်လို[၂]မှာ၊ ဆေးပေါင်ဒါမှုန့်နဲ့ ပတ်တီးစည်းထားတဲ့ ခြေထောက်တွေ ရှိတဲ့ အမိုးအောက်မှာ အုံ့ဩဖွယ် အနီးကပ် လေ့ကျင့်မှုတွေ လုပ်မယ်။
>
> ဒီနွေမှာ ကျွန်မ မျက်စိအောက်မှာ အမျိုးသမီးတစ်ယောက် ဆင်းဆင်းရဲရဲ သေသွားတာကို တွေ့လိုက်ရတယ်။ သူ့ဘေးမှာ အတူထိုင်ပေးမယ့်သူ ဆိုလို့ အရူးတွေကလွဲပြီး ဘယ်သူမှ မရှိဘူး။ အရူးတွေက စိန်ကျွေးပြီး အဆိပ်ခတ် သတ်နေသလိုပဲလေ။

---

၁။ Salisbury ၂။ West Wellow

အဲဒီနောက်တော့ နောင်လာမယ့် ထိတ်လန့်ဖွယ် နေ့တွေအတွက် အခုလို အစီအစဉ်ကောင်းတစ်ခု ချမှတ်ခဲ့တယ်။ ကျွန်မရဲ့ လောလော ဆယ် နှောင်ကြိုးတွေကို ပိုရှည်ကြာနေမယ် ဆိုရင် ဝက်စ်ဝယ်လိုမှာ အိမ်ကလေးတစ်လုံး ငှားနေမယ်ပေါ့။ ကောင်းပါပြီ၊ အဲဒီအကြောင်း ကျွန်မ သိပ်မပြောချင်ပါဘူး။ ဒါပေမဲ့ ပရိုတက်စတင့် သီလရှင် တစ် ယောက်လို ကျွန်မ တွေးမိတယ်။ ကတိစကားတွေ မဆိုဘဲနဲ့ ပညာတတ် မိန်းမသားတစ်ယောက်ရဲ့ ခံစားချက်တွေကို သက်သေပြနိုင်တယ်ပေါ့။

ဒါပေမဲ့ ကျွန်မရဲ့ ပထမဆုံး ခြေလှမ်းတွေနဲ့ ပတ်သက်လို့ မေမေ့ကို ထိတ်လန့်သွားစေတဲ့ အခက်အခဲတွေ ရှိတယ်။ ဆေးရုံနဲ့ ပတ်သက်လို့ လက်တွေ့မှာ စက်ဆုပ်စရာ အခြေအနေတွေကို ပြောတာ မဟုတ်ဘူး နော်။ ခွဲစိတ်ဆရာဝန်နဲ့ သူနာပြုတွေနဲ့ ပတ်သက်တဲ့ ကိစ္စတွေပေါ့။ မမ မှန်းဆ နိုင်မှာပါ။

သူမ၏ သူငယ်ချင်း တစ်ယောက်ဖြစ်သော မစ္စစ်ဖောင်လာက သူမ၏ ဆန္ဒတွေကို စိတ်ပျက်လက်ပျက်ဖြစ်အောင် လုပ်လိုက်ပုံကို ပြန် ပြောပြသည်။ 'ဘယ်လိုပဲဖြစ်ဖြစ် ဒီနှစ်မှာတော့ ဘာမှ အပြီးသတ်မှာ မဟုတ်ဘူး' သူမ၏ အစီအစဉ်နှင့် ပတ်သက်၍ လှောင်ပြောင် ရယ်မော နိုင်ခြေ ရှိသည့် သူ့အစ်မ ဝမ်းကွဲကိုလည်း ပြစ်တင်ဝေဖန်သည်။ 'ဒါပေမဲ့ ရှေးဦးဖွံ့ဖြိုးစ အတွေးတစ်ခု ဘယ်လောက် တန်ဖိုးရှိတယ် ဆိုတာ အဲဒီ အတွေးကို မွေးဖွားခဲ့တဲ့ မိခင်ကလွဲလို့ ဘယ်သူမှ မသိဘူး။ ဒါမှမဟုတ် တစ်ခုရဲ့ ပျက်စီးခြင်းနဲ့ တစ်ခုရဲ့ ဖြစ်ထွန်းခြင်း အကြားမှာ စိတ်ဝိညာဉ် ဘယ်လို သေဆုံးသွားတယ် ဆိုတာ ဘယ်သူမှ မသိဘူး'

လူသားများအတွက် အသက်စွန့်သွားသည့် ကယ်တင်ရှင် ယေရှုထံ အလုပ်အကျွေးပြုရန် သူမ၏ အရည်အသွေးနှင့် ပတ်သက်၍ သူမ စိတ် ထဲမှာ မေးခွန်းတွေ၊ သံသယတွေ အပြည့်ရှိနေသည်။ ဤမသေချာ မရေရာ မှုက သူမ၏ တုံ့ပြန်ရေးသားချက်ထဲမှာ ထင်ဟပ်နေသည်။

ငါ ဘာဆို ဘာမှ မလုပ်တော့ဘူး။ ပြာမှုန်နဲ့ အချည်းနှီး အရာ တွေထက်တောင် ငါက ပိုဆိုးနေတယ်။ ငါတို့ရဲ့ ကယ်တင်ရှင်ဟာ ဤ ကမ္ဘာမြေပေါ် ပြန်ကြွလာဦးမှာလား ငါ သိချင်တယ်။ ပြီးတော့ ငါ သူ့ဆီသွားပြီး ငါ့ကို ဒီဘဝထဲ ပြန်ပို့ဦးမှာလားလို့ မေးချင်တယ်။

ဒီဘဝက ငါ့ကို အနှစ်သာရမဲ့အောင်၊ လိမ်ညာလှည့်ဖြားအောင် ချေဖျက်ပစ်လိုက်လို့။ အို ... ဒီစက်ဆုပ်စရာ ဘဝကြီးကို အတိတ်ဆီ ရောက်သွားအောင် လှည်းထုတ်ပစ်မယ့် ခိုင်မြဲတဲ့ အရာတစ်ခု တောင်းဆိုဖို့ပေါ့။

သို့ရာတွင် ဖလောရင့် နိုက်တင်ဂေးလ်အတွက် ဆောင်ရွက်စရာ နေ့ရက်တွေ ရှေ့မှာ ရှိနေသည်။ သူမကို ကမ္ဘာကျော် ဖြစ်လာစေမည့် ပင်ကို စိတ်ကူးဉာဏ်၊ တီထွင်ဉာဏ် ရှိသူအဖြစ် မွေးဖွားပေးလိုက်သည်။ နောက်ပိုင်းမှာတော့ သူမ အခိုင်အမာ ပြောဆိုနိုင်ခဲ့သည်။

'ခရစ်တော်မှ တစ်ဆင့် ကျွန်မ အရာအားလုံးကို လုပ်ဆောင်နိုင်ပါတယ်'

## အခန်း [ ၃ ]
## ဘုရားသခင်၏ အချိန်ကို စောင့်ခြင်း

သူမ၏ ဘဝလုပ်ငန်း ဘယ်မှာ ရှာဖွေရမည်ကို ဖလောရင့် သိသည်။ သို့ ရာတွင် လူမှုရေး အတားအဆီးတွေ၊ မိသားစု အဟန့်အတားတွေနှင့် မေးခွန်း ထုတ်စရာ ဖြစ်နေသော ထိုခေတ် သူနာပြု အများစုတို့၏ ဂုဏ်သတင်းက သူနာပြုလုပ်ငန်းသည် သူမ၏ မွေးရာပါ တာဝန်ဖြစ်သည် ဟူသော သူမ ၏ ခံယူချက် တံခါးပေါက်ကို ပိတ်ဆို့ထားသည်။ ဆေးရုံတစ်ရုံမှာ ဝင် ရောက်၍ သူနာပြုဆရာမ လုပ်လိုသော သူမ၏ ဆန္ဒကို မိသားစုအား ပြောပြသောအခါ မိသားစုတွေ ထိတ်လန့်တကြားဖြစ်ပြီး ခါးခါးသီးသီး ကန့်ကွက်ကြသည်။ သူနာပြုလုပ်ငန်း လုပ်ဆောင်သည်ထက် ကိုယ်ကျင့် သိက္ခာ ပိုင်းမှ ကြည့်လျှင် သူတို့ ဖြစ်ပျက်နေသည့် အခြေအနေတွေက ပို၍ နိမ့်ကျနေသည်ဟု ဆိုသော အချက်အလက် အနည်းငယ်ကို သူတို့က ထောက်ပြကြသည်။

ဆရာဝန်တစ်ယောက်က ပြောသည်။ 'ရဲစခန်းမှာ ထောင်ထဲ သွားမလား၊ ဆေးရုံ သွားမလားလို့ ရွေးချယ်ခွင့် ပေးခံရတဲ့ အမူးသမား၊ ပြည့်တန်ဆာတွေသာ သူနာပြုလုပ်ငန်း တချို့ကို လုပ်တာ'

ဖလောရင့်၏ ရွေးချယ်မှုနှင့် ပတ်သက်သည့် သဘောထားကို ဝီလျံ နိုက်တင်ဂေးလ် ကြားသိသောအခါ ခြေကို ပြင်းပြင်းဆောင့်ပြီး ခြိမ်းခြောက် ပြောဆိုသည်။ ပြည့်တန်ဆာလုပ်ငန်းကို လုပ်ကိုင်နေသူတွေပင်လျှင် ဤ ကိစ္စကို အကြီးအကျယ် ဝေဖန်နေကြသည်။ မိတ်ဆွေ ဆရာဝန်တစ်ယောက် က ဝီလျံကို ယုံကြည်စွာ ဖွင့်ပြောပြသည်။ 'ဆေးရုံတစ်ခုက သူနာပြုတွေ

အားလုံး အရက်သမားတွေချည်းပဲ။ ဆရာဝန်က စိတ်ချလက်ချနဲ့ လူနာတွေကို ဆေးပေးခိုင်းတဲ့ နှစ်ယောက်က လွဲလို့'

လန်ဒန်ဆေးရုံတစ်ခုမှ သူနာပြုခေါင်းဆောင် ဆရာမကြီးက ဖလောရင့်ကို ပြောသည်များကို ဤသို့ ရေးမှတ်ထားသည်။ "သူမရဲ့ ကြီးမားတဲ့ အတွေ့အကြုံတစ်လျှောက်မှာ အရက်မမူးတဲ့သူနာပြု တစ်ယောက်မှ မရှိဘူး။ သူမ ကျွန်မကို ပြတဲ့ အင်မတန်ဆိုးဝါးတဲ့ နမူနာက လူနာဆောင်တိုင်းမှာ အကျင့်ပျက်တဲ့ လုပ်ရပ်ကို ကျင့်သုံးနေကြတယ်"

နိုက်တင်ဂေးလ် မိသားစုက အောက်ပါ သတင်းအချက်အလက်ကို အခြား လန်ဒန်ဆေးရုံတစ်ခုမှ ရရှိသည်။ "အဓိကအားဖြင့် သန့်ရှင်းရေး အလုပ်သမား နေရာမှာ လုပ်နေတဲ့ သူနာပြု ဝန်ထမ်းတွေ၊ မကြာခဏ အကျင့်စရိုက်ဆိုးကို ပြနေတဲ့ သူနာပြု ဝန်ထမ်းတွေကြားမှာ အရက်မူးတာက ရိုးနေပြီ။ ဝေဒနာ ဆိုးဆိုးရွားရွား ခံစားနေရတဲ့ သူတွေကို ပြုစုမယ်ဆိုပြီး ဝင်လာတတ်တဲ့ သူနာပြုတွေက အဆိုးဆုံးပဲ။ ကြောက်စရာ အကောင်းဆုံး သူတွေပဲ"

အမူးသမားတွေ၊ ပြည့်တန်ဆာတွေကြောင့် သိက္ခာကျနေသော သူနာပြုလုပ်ငန်းကို ဝင်ရောက်လုပ်ကိုင်ရန် စီစဉ်ထားကြောင်း ဖလောရင့်က မိခင်ကို ဖွင့်ပြောသောအခါ မစ္စစ်နိုက်တင်ဂေးလ်ခမျာ အကြီးအကျယ် ထိတ်လန့်သွားသည်။ ထူးချွန်ထက်မြက်သော၊ လူမှုရေးနယ်ပယ်မှာ အောင်မြင်မှု ရနေသော သမီးဖြစ်သူက ဤလုပ်ငန်းနှင့် နီးနွယ်မှာကို မိသားစုက လုံးဝ လက်မခံနိုင်ပေ။ ဤလူတန်းစား အလွှာထဲသို့ ဖလောရင့် တိုးဝင်သွားပါက နိုင်ငံအတွင်းရှိ အထက်တန်းလွှာ အတွင်းမှ သူ့အနေအထား ပျက်ယွင်းသွားလိမ့်မည် ဖြစ်ကြောင်း ဝီလျံနိုက်တင်ဂေးလ် သိသည်။ သူ ကြားဖူးထားသည့် မကောင်းသော စံနမူနာတွေကို လေ့လာသတိပြုရင်းဖြင့် သမီးလေး အကျင့်ပျက်သွားလိမ့်မည် ဆိုသော အတွေးကြောင့် သူ မခံမရပ်နိုင်ဖြစ်နေသည်။ သူနာပြုလုပ်ငန်း အတွင်းက အခြေအနေကို လေ့လာကြည့်ရန် သူမက ဖခင်ကို ဖျောင်းဖျသောအခါ အနိမ့်ကျဆုံး လူတန်းစားမှ အမျိုးသမီးတွေသာ ဤလုပ်ငန်းခွင်သို့ ဝင်ရောက်ကြကြောင်း သူ ခြွင်းချက်မရှိ တွေ့မြင်သွားသည်။

နိုက်တင်ဂေးလ် မိသားစု၏ မိတ်ဆွေအချို့က 'ဆိုးသွမ်းပြီး အောက်

တန်း ကျတဲ့ လူနာတွေ၊ ဆိုးသွမ်းပြီး အောက်တန်းကျတဲ့ သင်တန်းသူနဲ့ သူနာပြုတွေ' ဟု တီးတိုးပြောကြသည်။ သို့ရာတွင် ဘရိုက်တန်[၁] မှ သမားတော် တစ်ယောက်က ပို၍ကောင်းသော မျှော်လင့်ချက်အမြင် ရှိပြီး ဝီလျံကို ပြောပြသည်။ 'သင့်လျော်တဲ့ အသက်အရွယ်နဲ့ အကျင့်စာရိတ္တရှိတဲ့ အမျိုးသမီးတွေဟာ ဒီကိစ္စတွေနဲ့ မသင့်လျော်ဘူး။ အသက်အရွယ်၊ အလေ့အထနဲ့ ရာထူး ဌာနန္တရတွေက စိတ်ကို မတူခြားနားတဲ့ အချိုးအကွေ့ဆီ ပြောင်းလဲစေနိုင်တယ်'

နိုက်တင်ဂေးလ် မိသားစုတို့ အခိုင်အမာ ယုံကြည်နေသည့် ခေတ်စားနေသော အယူအဆမှာ ဂုဏ်သိက္ခာရှိသော မိန်းကလေးတစ်ယောက် အနေနှင့် သူနာပြုလုပ်ငန်းသည် သင့်လျော်သောအလုပ် မဟုတ်။ အထူးသဖြင့် ဖလောရင့်လို အခွင့်ထူးတွေနှင့် ကြီးပြင်းလာသူ၊ လူမှုရေးနှင့် ဥစ္စာဓန အခြေအနေမှာ ဘာမျှ ပြောစရာမရှိသူ တစ်ယောက်အနေနှင့် မသင့်လျော်ပေ။

ဖလောရင့်သည် သမားရိုးကျ အစဉ်အလာကို လိုက်သော၊ ခြေမွေးမီးမလောင် လက်မွေးမီးမလောင် နေရသော၊ ကောင်းစွာ မွေးဖွားကြီးပြင်းလာသော အင်္ဂလိပ် မိန်းကလေးတစ်ယောက် ဖြစ်သော်လည်း အခြားသူတစ်ယောက်၏ မီးဖိုချောင်ထဲသို့ ထမင်းချက်တစ်ယောက်အဖြစ်၊ အိမ်ဖော်တစ်ယောက်အဖြစ် ဝင်ရောက်နိုင်ပါ၏။ သို့သော် သူမ အနေနှင့် သူနာပြုတစ်ယောက် ဖြစ်ဖို့ကိုတော့ ခွင့်ပြုစရာ မရှိပေ။

"ဒီသူနာပြုလုပ်ငန်းက ကျွန်မ မီးဖိုချောင် ထမင်းချက်ဖြစ်ချင်တဲ့ ဆန္ဒမျိုးပါပဲ" ဟု သူမ စိတ်လှိုင်းလေထန်ပုံကို ဖွင့်လှစ်ညည်းညူခဲ့သည်။ သူမက ဆွတ်ပျံ့ဖွယ် ဆက်ရေးထားသည်။ "တစ်ကိုယ်တော် ကိုယ်ကျိုးစွန့်သူတွေ ရှိတယ်။ မီးလောင် သေသွားတဲ့သူတွေ၊ ရေနစ် သေသွားတဲ့သူတွေလည်း ရှိတယ်။ လူ့အဖွဲ့အစည်းက သူတို့ကို တကယ်မသိဘူး။ မိသားစုတွေလည်း မသိနိုင်ဘူး။ ဘာ့ကြောင့်ဆိုတော့ ကျွန်မတို့ မိသားစုထဲမှာ တစ်ဦးအပေါ် တစ်ဦးထားတဲ့ ကျွန်မတို့ရဲ့ အခြေအနေက ... လနဲ့ ကမ္ဘာတို့ရဲ့ အခြေအနေနဲ့ အတူတူပဲ။ လက ကမ္ဘာမြေကြီးကို လှည့်ပတ်တယ်။ ကမ္ဘာနဲ့အတူ လည်ပတ်တယ်။ ဒါပေမဲ့ ကမ္ဘာက လရဲ့ တစ်ဖက်ခြမ်းကိုသာ မြင်ရတယ်။ အခြားတစ်ဖက်ကို ဘယ်တော့မှ မမြင်ရဘူး"

---

၁။ Brighton

ဖလောရင့်က သူမ၏ ဆန္ဒကို ဆန့်ကျင်လှည့်စားပြီး မိမိအယူအဆကို သိုဝှက်ထားသည်။ သို့ရာတွင် ယခု လောလောဆယ်မှာ သူနာပြုဖြစ်ချင်သော သူမ၏ ရည်ရွယ်ချက်ကို အကန့်အသတ်မရှိ ရွေ့ဆိုင်းထားလိုက်သည်။ စိတ်ကူးနှင့် ခေါ်သံမှာ ဘုရားသခင်က ပေးသော အရာမှန်း သူမ သိသည်။ သို့ရာတွင် ဓလေ့ထုံးစံကို ချိုးဖောက်ရန် သူမ ဆန္ဒမရှိသေးပေ။ စိန်ခေါ်မှုကို တုံ့ပြန်ရန် သူမ၏ခွန်အား နည်းနေသေးသည်။

ပြည့်တန်ဆာနှင့် သန့်ရှင်းရေး အလုပ်သမအဖြစ် ပြောဆိုနေသည့် ကရုဏာတော်ခံ နှမများဖြစ်လာမည့် အမျိုးသမီးများ အကြားတွင် ပျံ့နှံ့နေသော အရက်မူးခြင်း ကိစ္စနှင့် ပတ်သက်သည့် အကျိုးအကြောင်းကို ခွဲခြမ်းစိတ်ဖြာ ကြည့်သောအခါ အလုပ်ပင်ပန်းခြင်းနှင့် အစားအစာ မလုံလောက်မှုကြောင့် ဖြစ်သည်ဟု သူမ ဆုံးဖြတ်လိုက်သည်။ ဖလောရင့်က အလေးအနက် ပြောသည်။ 'သာမန် အမျိုးသမီး၊ အမျိုးသား အားလုံးဟာ တစ်နေ့တာ အလုပ်ပြီးတဲ့အခါ အေးချမ်းသာယာတဲ့ည လိုအပ်တယ်။ ညတာဝန်ကျ သူနာပြုတစ်ယောက်ဟာ ညမှာ စားစရာ ရသင့်တယ်၊ ဆေးရုံတစ်ရုံမှာ စည်းမျဉ်းတစ်ခု ချထားတာက ညတာဝန်ကျ သူနာပြု တစ်ယောက်ဟာ သူ့တာဝန်ကို နိုးနိုးကြားကြား ဆောင်ရွက်နိုင်ဖို့အတွက် တာဝန်ကျချိန် အတွင်းမှာ အစားအသောက် မစားရဘူး တဲ့'

ဖလောရင့်၏ မိသားစုနှင့် အစဉ်အလာတွေက ကောင်းကင်ဘုံ၏ အသံတော်ကို ငြိမ်သက်သွားစေရန် ကြိုးပမ်းသော်လည်း စိန်ခေါ်မှုက ဆက်လက်ရှိနေဆဲပင်။ အစဉ်အလာတွေကို လေထဲ လွှင့်ပစ်နိုင်မည့် သူနာပြုတွေသည် မိခင်တွေကဲ့သို့ ချစ်ခင်မြတ်နိုးအပ်သူအဖြစ်နှင့် သူတို့၏ မြင့်မြတ်သော လုပ်ငန်းကို ကရုဏာတော်၏ နှမများအဖြစ် သက်သေပြနိုင်မည့် ဘုရားသခင်၏ အချိန်ကာလကို ဖလောရင့် စောင့်မျှော်နေသည်။

သူမ၏ ဒိုင်ယာရီတွင် မှတ်တမ်းတင်ထားသည်။

ကျွန်မ အသက်ရှည်ရှည် နေရလေလေ၊ ကျွန်မရဲ့ ဖြစ်တည်မှုအားလုံးဟာ အမှတ်တစ်နေရာကို တဖြည်းဖြည်း ပိုနီးကပ်လာလေလို့ ခံစားရတယ်။ လူ့ဘဝကို ပြန်လာပြီး အခြားသော ဖြစ်တည်မှုမှာ အပြီးသတ် ဆောင်ရွက်ခွင့်ပြု ခံရရင်၊ လက်ရှိဖြစ်တည်မှုမှာ မလုပ်ဆောင်နိုင်ခဲ့ရင် ကျွန်မအတွက် တခြား ဘယ်ကောင်းကင်ဘုံမှ မလိုအပ်ဘူး။ ဘုရား

သခင် အနီးကပ် စောင့်ရှောက်နေတယ်ဆိုတဲ့ စိတ်နဲ့ တကယ့်လက်တွေ့ ဘဝမှာ ဒီသူနာပြုလုပ်ငန်းကို ဆောင်ရွက်ဖို့ ကျွန်မကို ကျေကျေနပ်နပ် တာဝန်ပေးမယ်ဆိုရင် ကျွန်မ ချစ်သူတွေနဲ့အတူ နေထိုင်ရဖို့၊ တွေ့ဆုံရဖို့ ဆိုတဲ့ မျှော်လင့်ချက်ကို ကျွန်မ စွန့်လွှတ်နိုင်တယ်။

ရန်းကန်လှုပ်ရှားနေရသော ဤကာလအတွင်းမှာ အမျိုးသမီး အကျဉ်းသားများ၏ အခြေအနေ ပိုမိုကောင်းမွန် တိုးတက်ရေးအတွက် ဘဝကို မြှုပ်နှံဆောင်ရွက်နေသော အကြမ်းဖက်မှုနှင့် စစ်ဆန့်ကျင်ရေး ခရစ်ယာန်ဂိုဏ်းဝင် အဲလိဇဘက်ဖရိုင်း[၁]၏ စိတ်ဓာတ်ကို ဖလောရင့် တွေ့မြင်လိုက်ရသည်။ သူတို့မှာ ကိုယ့်နည်းကိုယ့်ဟန်နှင့် လုပ်ကိုင်နေကြသော်လည်း အဲလိဇဘက်၏ ရည်မှန်းချက်နှင့် သူမ၏ ရည်မှန်းချက် အတူတူ ဖြစ်ကြောင်း ဖလောရင့် တွေ့ရှိသည်။ လူ့လောက တာဝန်ကို ထမ်းဆောင်ရန် သူတို့၏ တူညီသောဆန္ဒကို ဖြည့်ဆည်းဖို့အတွက် အစဉ်အလာတွေ၊ ရိုးရာဓလေ့ ထုံးစံတွေကို နှစ်ယောက်စလုံးက ဖီဆန်ချင်ကြသည်။

အဲလိဇဘက်ထက် အတော်ငယ်သော ဖလောရင့်က သူမ၏ စစ်နှင့် အကြမ်းဖက်မှုဆန့်ကျင်ရေး ခရစ်ယာန်ဂိုဏ်းဝင် မိတ်ဆွေသည် စိတ်အား တက်ကြွ ထက်သန်သူ၊ စိတ်ဓာတ်ရေးရာ ကြံ့ခိုင်သူဖြစ်ကြောင်း တွေ့ရှိသည်။ အဲလိဇဘက်က အင်္ဂလန်နှင့် ဥရောပတိုက်ရှိ အကျဉ်းထောင်များစွာကို သွားရောက်သည်။ ကုသိုလ်ဖြစ် အဖွဲ့အစည်းများကို အနီးကပ် ကြည့်ရှု စစ်ဆေးသည်။ အင်္ဂလန်သို့ ပြန်လာပြီးနောက် သူနာပြုများအတွက် သင်တန်း ကျောင်းငယ်လေးတစ်ခု တည်ထောင်ထားသည်။ ဖလောရင့်က ကျောင်း၏ လက်ရှိအခြေအနေနှင့် ပတ်သက်၍ အဲလိဇဘက်ကို မေးခွန်းများ မေးသည်။ မစ္စဖရိုင်းက သင်းအုပ်ဆရာ ကလီနာ[၂] တည်ထောင်ထားသော ကိုင်ဇာဝါ့သ်[၃] အဖွဲ့အစည်းအကြောင်း ဖလောရင့်ကို ပြောပြသည်။ ဤအဖွဲ့အစည်းမှာ နာမကျန်းသူနှင့် ဆင်းရဲချို့တဲ့သူများကို ကူညီရန် ရည်ရွယ်ချက်ဖြင့် ဖွဲ့စည်းတည်ထောင်ထားသည့် ပရိုတက်စတင့် ဝေယျာဝစ္စ အမျိုးသမီးများ အဖွဲ့ ဖြစ်သည်။

ထိုသတင်းသည် ဖလောရင့်၏ စိတ်အားထက်သန်မှုအတွက် ရေစင်

---

၁။ Elizabeth Fry ၂။ Pastor Kliedner ၃။ Kaiserwerth

တစ်ခွက် ဖြစ်သည်။ သူမက ထိုရေစင်ကို ဝမ်းသာပျော်ရွှင်စွာ သောက်သုံးလိုက်သည်။

သူမ ကြိုးပမ်းနေစဉ် ကာလအတွင်းမှာ ဘုရားသခင် ရှိနေသည်ဆိုသော သိစိတ်က သူမကို အားဖြည့်ပေးသည်။ ဖလောရင့်က ဟန်းနနီကိုဆင် [၁] နှင့် တွေ့ဆုံသည်။ နောက်ပိုင်းမှာ သူမကို "အန်တီဟန်းန" ဟု ခေါ်သည်။ အန်တီဟန်းနက သူမ၏ ရည်မှန်းချက်ပန်းတိုင် ရောက်ရှိအောင် စိတ်ဓာတ်ရေးရာ အကူအညီပေးသူ ဖြစ်သည်။ ၁၈၄၃ ခုနှစ်၌ ရေးထားသည့် မှတ်တမ်းတွင် ဖလောရင့်က သူမ၏ မိတ်ဆွေအကြောင်းပြောထားသည်။ "မမြင်နိုင်တဲ့ အရာတွေ အမှန်တကယ် ဖြစ်လာပြီး ထာဝရတည်မြဲမယ့်အရာတွေ အနားရောက်လာစေတဲ့ အမျိုးသမီး တစ်ယောက်နဲ့ ရင်းနှီးကျွမ်းဝင်မှုက ကျွန်မကို နိုးထစေခဲ့တယ်။" အန်တီဟန်းနက သူမကို အဆက်ဖြတ်ခြင်း၊ အပြစ်တင်ခြင်း မလုပ်ပေ။ သို့ရာတွင် သူမ၏ ရည်ရွယ်ချက်ကို ချီးမွမ်းပြီး လူ့လောကကို ဝန်ဆောင်ချင်သည့် သူမ၏ ပြင်းပြသောဆန္ဒကို စာနာထောက်ထားသည်။ သူမ မစ္စနိုက်တင်ဂေးလ်ကို ပေးခဲ့သည့် စိတ်ဓာတ်ရေးရာ သတင်းအချက်အလက်များမှာ ဇေ့ဆော်တိုက်တွန်းမှုပင် ဖြစ်သည်။ သူမက ရှင်ပေါလု၏ စကားလုံးများကို မကြာခဏ ကိုးကားပြောဆိုသည်။

"ကျွန်ုပ်တို့ မြင်တွေ့နေရသည့် အရာတွေက လောကီနှင့် ဆိုင်သည့်အတွက် မြင်တွေ့ရသည့် အရာတွေကို မကြည့်သောအခါ၊ သို့ရာတွင် မမြင်တွေ့ရသည့် အရာတွေက ထာဝရ တည်မြဲသောအခါ ခဏတာမျှသာကြာသော ကျွန်ုပ်တို့၏ ဒုက္ခဝေဒနာက ကျွန်ုပ်တို့အတွက် ပိုမို သာလွန်သော၊ ထာဝရတည်မြဲသော ဂုဏ်သရေ၏ အလေးအပေါ့ကို လုပ်ဆောင်ပေးသည်။"

ဖလောရင့်က အန်တီဟန်းနထံ စာရေးသည်။

> သင့်ရဲ့ ဘဝတစ်ခုလုံးက မေတ္တာတရားပဲ ဖြစ်ပုံရတယ်။ ဟိတ်ဟန် ကင်းမဲ့တဲ့၊ အသိဉာဏ်အလင်း ရစေတဲ့ သင့်ရဲ့ စကားလုံးတွေကို သင့်နှလုံးသားထဲမှာ အမြဲတွေ့ရှိနေရတယ်။ အဲဒီ စကားလုံးတွေက ကျွန်မကို အမြင်ကြည်လင်သွားအောင် လုပ်ပေးလိုက်သလိုပါပဲ။

၁။ Hannah Nicholson

ကောင်းကင်ဘုံက ဘုရားသခင်ရဲ့ နှလုံးသားအပေါ်မှာ သင် အမြဲ နားခိုနေပုံ ရတယ်။ ဘုရားသခင်ရဲ့ လျှို့ဝှက်ဆန်းကြယ် နက်နဲတဲ့ အရာတွေကို သင် ပါဝင်ဆင်နွှဲဖို့ပေါ့။ .... မမြင်တွေ့ရတဲ့ တကယ့်ဖြစ်တည်မှုတွေ၊ တိမ်ကွယ် ပိတ်ဖုံးနေတဲ့ ဘဝအိပ်မက်တွေ တစ်ခုပြီးတစ်ခု ရောက်လာတဲ့အချိန်မှာ သင့်ရဲ့စာတွေက ကျွန်မနဲ့အတူ တည်ရှိနေတယ်။

ဖလောရင့်၏ ပါရီကသူငယ်ချင်း မစ္စကလပ်နှင့် စာအပြန်အလှန် ရေးသားရာမှာ သူမ၏ စိတ်ဓာတ်ရေးရာ တက်ကြွနက်ရှိုင်းပုံကို ဖွင့်ဟထားသည်။

ကျွန်မ အဲဒီစာအုပ်တွေကို သဘောကျတယ်။ မမြင်နိုင်တဲ့ အရာတွေက မြင်တွေ့နေရတဲ့ နိုင်ငံတော်နဲ့ လွတ်လွတ်လပ်လပ် ဆက်သွယ်နေတယ်ဆိုတဲ့ နေရာမှာပေါ့။ အကောင်အထည်ဖော်မှု (ဒီစကားလုံးက အတွေးအခေါ် အလင်းရောင်က ကျလာတဲ့အရိပ်) ထက် ပိုမိုရှန်းလက်တဲ့ တစ်စုံတစ်ယောက်ရဲ့ စိတ်ကူးက ပေါ်ထွက်လာတာ ဖြစ်ရုံသာမက တစေ့တစောင်းလည်း သတိပေးနေတယ်။

မနက်ဖြန်တိုင်းမှာ ရင်ဆိုင်ရမည့် ကြိုးစားရန်းကန်မှုများအတွက် ဘုရားသခင်က ဖလောရင့်ကို ကြိုတင်ပြင်ဆင် ပေးနေသည်။ သူနာပြုတစ်ယောက် ဖြစ်ရန် သူမ ရည်မှန်းချက်၏ အဖျက်အန္တရာယ်က သူမကို မခြွင်းမချန် ပြင်ဆင်ပေးရမည် ဖြစ်သည်။ နောက်ပိုင်းမှာ အတားအဆီး ခလုတ်ကန်သင်းတွေကို သည်းခံ ကြိုးပမ်းနိုင်စေရန်အတွက် စိတ်ပျက်စရာတွေကို ကျင့်သားရအောင် ရင်ဆိုင်ရမည် ဖြစ်သည်။ သူမ မိသားစုနှင့် ချမ်းသာကြွယ်ဝသော မိတ်ဆွေတွေက သူမ၏ ခရီးလမ်းကြောင်းကို ပိတ်ဆို့သောအခါ ဘုရားသခင်က သူမ၏စိတ်ကို ဖေးမ ပေး၍ ကြီးကျယ်သော အောင်မြင်မှုအတွက် လိုအပ်သော သဒ္ဓါယုံကြည်မှု တိုးတက်အောင် မြှင့်တင်ပေးသည်။

"ယုံကြည်မှု သဒ္ဓါတရားဟာ စိတ်ဝိညာဉ်ရဲ့ မျက်စိနဲ့ နားပဲ။ မွေးကတည်းက နားမကြားတဲ့ သူကို ဂီတသံစဉ်တွေရဲ့ သာယာချိုမြိန်မှုတွေ ပြောပြဖို့ မဖြစ်နိုင်ဘူး။ မျက်စိကန်းသူ တစ်ယောက်ကို အရောင်ရဲ့ သက်ရောက်မှု အလှအပကို မြင်အောင် လုပ်ပေးဖို့ မဖြစ်နိုင်ဘူး။ ဒါကြောင့်

သဒ္ဓါယုံကြည်မှု မရှိဘူးဆိုရင် ပန်းချီအနုပညာဟာ မျက်မမြင်အတွက် ကွယ်ဝှက်ထားတဲ့အရာ ဖြစ်သလို စိတ်ပိုင်းဆိုင်ရာ ကမ္ဘာလောကကြီးကို စိတ်ဝိညာဉ်အတွက် ကွယ်ဝှက်ထားတဲ့ အရာတစ်ခုပဲ။

"မှောင်မိုက်နေတဲ့ ညတစ်ညမှာ လထွက်လာတဲ့အခါ ကမ္ဘာလောကရဲ့ အရာဝတ္ထုတွေ၊ ကျွန်မတို့ အရင်က မမြင်မသိတဲ့ အရာတွေကို လရောင်က ကျွန်မတို့ရဲ့ ရှေ့မှောက်မှာ ဖော်ထုတ်ပေးတယ်။ ကျွန်မတို့ ဘေးနားကပ်လျက်က လရောင်အောက်မှာ တဖျတ်ဖျတ်လက်နေတဲ့ မြစ်ပြင်၊ မြက်ပင်ပေါ်မှာ တိတ်တိတ်ကလေး အိပ်ပျော်နေတဲ့ အရိပ်ရှည်တွေ၊ ဗိသုကာ အလှတန်ဆာရဲ့ ချွန်ထက်တဲ့ ရုပ်လုံးရုပ်ကြွတွေကို မြင်ရတယ်။

"တစ်နေ့နေ့မှာ ကျွန်မတို့ရဲ့ စိတ်ပိုင်းဆိုင်ရာ ကမ္ဘာလောကရဲ့ အပေါ်မှာ လ ထွက်လာပြီဆိုရင်၊ ကျွန်မတို့ရဲ့ အနီးကပ် လက်တစ်ကမ်းမှာ မြင်တွေ့ရပြီဆိုရင်၊ ကျွန်မတို့ဆီက ပျောက်ဆုံးသွားလို့ ဝမ်းနည်းကြေကွဲနေခဲ့ရတဲ့ ကျွန်မတို့ ချစ်ခင်ခဲ့ရတဲ့ ဝိညာဉ်တွေကို ကျွန်မတို့နဲ့အတူ ရင်းနှီးကျွမ်းဝင်ဆုံးမှုတွေ မျှဝေပေးဖို့ အသင့်ဖြစ်ပြီဆိုရင် ကျွန်မတို့တွေ ဘာပြောကြမလဲ။ ကျွန်မတို့တစ်တွေဟာ မျက်မမြင်တစ်ယောက်လို လမ်းဘေးမှာ ထိုင်ပြီး 'ဘုရားသခင် ... ကျွန်ုပ်တို့၏ စက္ခုနှစ်ကွင်း အလင်းရ ရပါလို၏' လို့ အော်ဟစ်ငိုကြွေးနေဖို့ပဲ ရှိတော့တာပေါ့။

"ပြီးတော့ ကျွန်မတို့တွေ အဲဒါကို မလွဲမသွေ လက်ခံတဲ့အခါ အသချေ အနန္တ ဝိညာဉ်တွေရဲ့ ချက်ချင်းလက်ငင်း တည်ရှိမှုကို သိမြင်လာစေဖို့အတွက် တခြားကမ္ဘာလောက တစ်ခုဆီ ကျွန်မတို့ကို ပို့ဆောင်ဖို့ မလိုဘူးဆိုတာ သိကောင်း သိလာလိမ့်မယ်။ ကျွန်မတို့ လိုအပ်တာက စိတ်ဓာတ်ရေးရာ အမြင်အာရုံပဲ။ နေရာအပြောင်းအလဲ မဟုတ်ဘူးလို့ ကျွန်မ ယုံကြည်တယ်"

ဒုက္ခပြွမ်းတီးသည့် အမှောင်ခရီး၌ သူမ လျှောက်လှမ်းနေစဉ်မှာ ဘုရားသခင်က သူ၏ မွန်မြတ်သော အလုံးစုံ ပြည့်စုံခြင်းအတွင်း သူ၏ မျက်စိ အလင်းဖွင့်ပေးခြင်းကို လက်ခံယူနိုင်စေရန် ဖလောရင့်၏ စိတ်ဝိညာဉ်အား လေ့ကျင့်ပေးခဲ့သည်။ သူမအနေနှင့် ဖြည့်စွမ်းရမည့် ကြီးလေးသော တာဝန်တစ်ရပ် ရှိသည်။ သို့ရာတွင် ဤတာဝန်ကို ပြီးမြောက်အောင်မြင်ရန် စိတ်ခွန်အား ပြည့်ဝသော၊ ဘုရားသခင် လမ်းပြသော စိတ်

ဝိညာဉ်တစ်ခု လိုအပ်သည်။ ဘုရားသခင်က မောရှေ[၁]၏ အတွင်းကျကျ ဘဝကို မိဒျန်[၂] ကန္တာရ၌ နှစ်ပေါင်း (၄၀) လောက် နေထိုင်ရန် ဖေးမ ပေးပြီး၊ အချိန်ကြာမြင့်စွာ အကြီးမားဆုံး စိတ်ဓာတ်ရေးရာ ခြေကျင် ခရီး ကြမ်းဖြင့် အိသရေလကို ဦးဆောင်ဖို့ သူ့ကို ပြင်ဆင်ပေးခဲ့သည်။ ထိုကဲ့သို့ ပင် ယခုအခါ ဘုရားသခင်က ဖလောရင့်ကို ရည်ရွယ်ချက်တွေ၊ မျှော်လင့် ချက်တွေ ဖျက်ဆီးခံရမည့် ကန္တာရခရီးကြမ်းသို့ ပို့ခဲ့ကာ သူမကို အကြီး အကျယ် ကျေနပ်စေမည့် ထက်မြက်သော အမြင်တစ်ခုကို မြင်တွေ့စေရန် ကမ္ဘာကြီးကို ဦးဆောင်ခိုင်းခဲ့သည်။

အထူး ကြိုးစားနေစဉ် ကာလအတွင်း သူမက သူငယ်ချင်း တစ် ယောက်ထံ စာရေးခဲ့သည်။

အကယ်၍ စိတ်ဝိညာဉ်ပေါ် ထွန်ကြောင်းသွားနေချိန်မှာ စိုက်ပျိုး သူရဲ့ လက်က ထွန်သွားရဲ့နောက်မှာ အစေ့တွေ အမြဲ ကြဲချနေတယ် ဆိုရင် ဘယ်သူက စိတ်မကောင်းဖြစ်မှာလဲ။ ဒါပေမဲ့ သစ်စေ့ပျိုးချိန် ဘယ်နှခါပဲ ကျော်သွားသွား သိပ်နောက်ကျနေပြီ။ ထွန်ကလည်း ထွန် ပြီးသွားပြီ။ ရိတ်သိမ်းချိန်ကတော့ မရောက်လာသေးဘူး။

ဖလောရင့် အာသီသ ပြင်းပြနေသည်။ မစ္စနီကိုဆင်ထံ စာရေး၍ ပြောပြသည်။

ကိုယ်ကျင့်သိက္ခာ ကောင်းမွန်ခြင်း သရဖူတဲ့လား။ အဲဒီ စကား လုံးက သမ္မာကျမ်းစာထဲက စကားလုံးထက် ကျွန်မကို ပိုပြီး ရိုက်ခတ် နေတယ်။ သူ့အားထုတ်မှုရဲ့ အကြီးမြတ်ဆုံးနဲ့ နောက်ဆုံးနေ့ရဲ့ အကြို ညမှာ ရှင်ပေါလုရဲ့ စိတ်အတွေးက ပျော်ရွှင်မှု မဟုတ်တဲ့၊ အနားယူခြင်း မဟုတ်တဲ့၊ ခွင့်လွှတ်ခြင်း မဟုတ်တဲ့၊ ဂုဏ်သိက္ခာ မဟုတ်တဲ့ ထူးခြားမှု ဖြစ်မှာပဲ။ သူ့ရဲ့ ကြိုးပမ်း ရုန်းကန်မှု အဆုံးမှာ ကိုယ်ကျင့်သိက္ခာ ကောင်းမွန်မှုရဲ့နောက်က ကြီးမြတ်တဲ့ တောင့်တမှုက ဆန္ဒအားလုံးကို ဝါးမျိုပစ်လိုက်တဲ့အတွက် သူ့ရဲ့ အရှုတ္တမှာ ခါတိုင်းထက်ပိုပြီး စွမ်းအား ထက်မြက်လာတယ်။ ငြိမ်းချမ်းရေး ဆန္ဒထက်တောင် ပိုပြီး စွမ်းအား ထက်မြက်လာတယ်။

---

၁။ Moses ၂။ Midian

လောကမှာ ပိုမိုကောင်းမွန်သော အခြေအနေရောက်ရေး ကြိုးပမ်းမှုများကို ဘုရားသခင်အပေါ် ခိုင်မြဲသော ကြည်ညိုမြတ်နိုးမှုဖြင့် တွန်းအားပေးရမည်ဟု ဖလောရင့် သဘောပေါက်သည်။ ဤအချိန်ကာလနှင့် နောက်ပိုင်းတွင် သူနာပြုလုပ်ငန်းအတွက် လေးလေးနက်နက် ကြိုတင်ပြင်နေချိန်မှာ ခရိုင်းမီးယား စစ်ပွဲကာလနှင့် နောက်ပိုင်းမှာပင်လျှင် ဘုရားသခင်အပေါ်ထားရှိသော ကြည်ညိုသဒ္ဓါစိတ်ကြောင့် အခြားသူတွေက မဖြစ်နိုင်ဘူးဆိုသော အရာများကို အောင်မြင်အောင် လုပ်ဆောင်ရန် သူမကို စေ့ဆော်တိုက်တွန်းခဲ့သည်။

'အရာအားလုံးရဲ့ အခြေခံအုတ်မြစ်က ဘုရားသခင်ရဲ့ မေတ္တာတော်ဖြစ်ရမယ်။ ဘုရားသခင်ကို တကယ် ရိုသေကိုင်းရှိုင်းစွာနဲ့ ရိုးသားစွာငါ လုပ်ဆောင်နေတာ မဟုတ်ဘူး ဆိုတဲ့ စိုးရိမ်စိတ်ကြောင့် ကျွန်မ လုပ်သမျှ ကဖျက်ယဖျက်လုပ် ခံနေရတာ' ဟု သူမက အခိုင်အမာ ပြောသည်။ အောင်မြင်ကျော်ကြားမှုနှင့် မိတ်ဆွေသင်္ဂဟတွေ ပေါများကြွယ်ဝသော ဤမိန်းကလေး ဖလောရင့်သည် သာမန် သူနာပြုတစ်ယောက်မျှသာ ဖြစ်ရမည် မဟုတ်ပါ။ သူနာပြုလုပ်ငန်းသည် မြင့်မြတ်သော အနုပညာတစ်ခု၊ သန့်စင်မွန်မြတ်သော လုပ်ငန်းတစ်ခု၊ အဆင့်မြင့်သော အသက်မွေး ဝမ်းကျောင်းမှု တစ်ခု ဖြစ်သည်ဟု ယုံကြည်လာအောင် မျက်စိဖွင့်ပေးမည့် သူနာပြုခေါင်းဆောင် ဖြစ်ရမည့်သူ ဖြစ်သည်။ သူမက လူသားလိုအပ်ချက်ကို တွေ့မြင်သည်။ အခြားသူတွေလည်း တူညီသောအမြင် ရှိပါစေဟု ဆုတောင်းရမည်ကို သဘောပေါက်သည်။

'ကျွန်မရဲ့ စာနာစိတ်တွေက မသိနားမလည်ခြင်း၊ ဆင်းရဲချို့တဲ့ခြင်းနှင့် အတူရှိနေတယ်' ဟု သူမက မှတ်ချက်ချသည်။ 'ကျွန်မရဲ့ အတွေးထဲမှာ ဒီကမ္ဘာကြီးရဲ့ ဒုက္ခဝေဒနာတွေနဲ့ ပြည့်နေတယ်။ ဒါ့ကြောင့် တုံ့ပြန်မှုပေါင်း များစွာ သယ်ဆောင်လာတဲ့ ဒီကမ္ဘာကြီးမှာ ကြိုးပမ်းလုပ်ဆောင်ဖို့ တစ်ခုတည်းသော အရာက ကျွန်မအနေနဲ့တော့ ဒီကမ္ဘာကြီးကို စာနာထောက်ထားပြီး ကူညီ ဖေး မ ပေးဖို့ပဲ ဖြစ်မှာပါ။

'ကဗျာဆရာ အားလုံးက ဒီကမ္ဘာကြီးရဲ့ ဂုဏ်ကျက်သရေတွေကို သီဖွဲ့ကြတယ်။ ကျွန်မအနေနဲ့တော့ မှန်ကန်မှုမရှိတာ မြင်တွေ့ရတယ်။

ကျွန်မ မြင်တွေ့သမျှ လူအားလုံးက ဆင်းရဲခြင်းနဲ့ ရောဂါဘယတွေရဲ့ ဝါးမျိုခြင်းကို ခံနေရတယ်'

နောက်ပိုင်းတွင် သူမ၏ အောင်မြင်မှု အခြေခံအုတ်မြစ် ဖြစ်လာမည့် လုပ်ငန်း၏ သဘောတရားများမှာ တိုးတက်မလာသေးပေ။ ဘဝဆိုသည်မှာ လူမှုရေး ပါတီပွဲကိစ္စများဖြင့် လုံးလည်ချာလပတ် ဖြစ်နေရမည် မဟုတ်ပေ။ အမြဲမပြတ် လုပ်ဆောင်ရမည့် နေ့စဉ်တာဝန် ဖြစ်သည်။

'ဘဝဆိုတာ အားလပ်ရက် ကစားပွဲ မဟုတ်ဘူး' ဟု သူမက ဆိုသည်။ 'စာအုပ်ကောင်း တစ်အုပ်လည်း မဟုတ်ဘူး။ သင်ကြားပို့ချရေး ကျောင်းတစ်ကျောင်းလည်း မဟုတ်ဘူး။ မျက်ရည်မြစ်ဝှမ်းလည်း မဟုတ်ဘူး။ ဘဝဆိုတာ ပြင်းထန်တဲ့တိုက်ပွဲ၊ ရှုန်းကန်မှု၊ မကောင်းတဲ့ ကိုယ်ကျင့်တရားတွေနဲ့ လက်လက်ချင်း၊ ခြေခြေချင်း နပန်းသတ်ပွဲပဲ။ ဘဝရဲ့ ခြေတစ်လှမ်းတိုင်း အနိုင်လုနေရမယ်'

ကမ္ဘာကြီး၏ လိုအပ်ချက်ကို အထူးတလည် သိထားသဖြင့် ဖလောရင့်က သူမ၏ နေ့ရက်တွေကို အရည်မရ အဖတ်မရ စကားများနှင့် ကုန်လွန်သွားရမည်ကို မကျေနပ်နိုင်။ ရေပေါ်ဆီ လူတန်းစားတွေနှင့် အချိန်ကုန်ရမှာ၊ ပါတီပွဲတွေ တက်တာ၊ လူ့ကပ်ပါးများနှင့် စုဝေး၍ ညနေခင်းတွေ ဖြုန်းတီးပစ်ရမှာ မကျေနပ်နိုင်ပေ။

'ညဆိုတာက ကျွန်မတို့ အသက်ရှုဖို့၊ ဝတ်ပြုဆုတောင်းဖို့၊ အစွမ်းသတ္တိ ရေပန်းမှာ သောက်သုံးဖို့ ပေးထားတာ။ နေ့ဆိုတာက ညနေခင်းအထိ အလုပ်လုပ်ဖို့၊ ရှေ့ခရီး ဆက်ဖို့အတွက် ပေးထားတဲ့ ခွန်အားကို အသုံးပြုဖို့ပဲ'

ဘုရားသခင်က သူမအား အောင်ပွဲ၏ အိပ်မက်များ၊ အောင်မြင်မှုဆိုင်ရာ အတွေးအမြင်များကို စေ့ဆော်ပေးရန်အတွက် သူမ၏လုပ်ငန်းစတင်ခြင်းကို ကြန့်ကြာအောင် လုပ်ဆောင်ထားသည်။ ဖလောရင့်က ရှည်ကြာသော တိုက်ပွဲကို ရင်ဆိုင်ရသည်။ ပျော့ညံ့မှုက မည်သည့်အောင်ပွဲကိုမျှ ဆောင်ကြဉ်း ပေးနိုင်လိမ့်မည် မဟုတ်ပေ။ အနန္တ တန်ခိုးရှင်က တစ်သက်စာ တိုက်ပွဲအတွက် သူမ၏ စိတ်ဝိညာဉ်ကို ကြိုတင်ပြင်ဆင်ပေးခဲ့သည်။

သူမသည် တစ်ယူသန်ဝါဒဖြင့် အချိန်ဆွဲနေသည့် အချည်းနှီး ဖြစ်

သော ဘုန်းတော်ကြီးများကို လေ့လာသည်။ သူတို့က ဆင်းရဲသူများနှင့် အကျဉ်းထောင်တွင် ရောက်နေသူများအား ကြည့်ရှုရမည့် မျက်လုံးများကို မှိတ်ထားကြသည်။ သူတို့က ပညာရေး၊ အကျဉ်းထောင်များ၊ စစ်အကျဉ်းစခန်းများ စသည်တို့နှင့် ပတ်သက်၍ ကွဲပြားခြားနားသော အစီအစဉ်များအကြောင်း တစ်လုံးတစ်ပါဒမျှ မပြောကြပေ။ သူမ၏ ရင်တွင်းဒေါသက အမြင့်ဆုံးသို့ ရောက်လာသည့်အခါ ဤကဲ့သို့သော ပုဂ္ဂိုလ်များ၏ လုပ်ရပ်ကို 'သဘောတရားပဲရှိတဲ့ လက်ဖက်ရည်သည်တွေ။ ဘာသာရေး ယုံကြည်ချက် မရှိဘဲ အသင်းဝင် အမည်ခံရုံလောက်သာရှိတဲ့ ဘုရားကျောင်းတွေသာ ရှိနေရင် ဘာမှ အလုပ်ဖြစ်မှာ မဟုတ်ဘူး' ဟု ပြောခဲ့သည်။

ဖလောရင့်၏ နှလုံးသားထဲမှာ မီးတောက်နေသည်။ စိတ်လှုပ်ရှားမှုမီးတောင်တွေက ပွက်ပွက် ထ နေသည်။ ကမ္ဘာလောကအတွက် စိတ်ဓာတ်ရေးရာ စံဖြစ်စေရန် ပြင်းပြသောဆန္ဒက အဆက်မပြတ် ပို၍ ခိုင်မာလာသည်။ သို့ရာတွင် ဤစွမ်းအင်တွေ ပွင့်အန်ထွက်လာဖို့ အချိန်နာရီက မကျရောက်သေးပေ။ ပုံရိပ်ကို သူမ မြင်နေရသည်။ သို့ရာတွင် ဘုရားသခင်က ဤအမြင်ကို ကာယကံမြောက် လုပ်ဆောင်မှုအဖြစ် ပြောင်းလဲရန် သူမအတွက် အသင့်မဖြစ်မီ သည်းခံရမည့် စမ်းသပ်ချက်တွေ ရှိနေသည်။

အပြင်ပန်းအားဖြင့် ဘဝက အတိတ်ကလိုပင် ဆက်လက်စီးမျောနေသည်။ သို့ရာတွင် ဖလောရင့်၏ နှလုံးသားထဲမှာ တော်လှန်ပြောင်းလဲမှုတစ်ခု ဖြစ်ပွားနေသည်။ သူမ၏ဘဝက သမားရိုးကျ အစဉ်အလာအတိုင်း ဂျယ်လီ ပုံမှန်ဆက်လုပ်၊ သူငယ်ချင်းတွေနှင့် ဝိုင်းဖွဲ့လက်ဖက်ရည်သောက်၊ စကားဖောင်ဖွဲ့ ဆက်လုပ်နေရသည်။ အမ်ဘလီမှ လန်ဒန်၊ ထို့နောက် လီယာဟာ့စ် ...။ ကောင်းကင်ဘုံ၏ အမြင်နှင့် ရောယှက်သွားသော ပါရမီဖြင့် ထွန်းလင်းပေးလိုက်သည့် ညတွေကြောင့်သာလျှင် ဤပျော်ရွှင်မှုတို့ ပြိုကွဲသွားရသည်။

လန်ဒန်တွင် ဖလောရင့်နှင့် မိသားစုတို့ နာမည်ကျော် ဆွီဒင် အဆိုတော် ဂျင်နီလင်း[၁]၏ တေးသံကို နားဆင်ကြသည်။ ဂျင်နီလင်းမှာ သူမ၏ ရွှေရောင်သံစဉ်ဖြင့် နားဆင်သူအပေါင်းကို ရင်ခုန်လှုပ်ရှားစေသူ ဖြစ်သည်။ ဂျင်နီလင်းက နောက်ပိုင်းတွင် တလက်လက်တောက်ပသော အော်

---

၁။ **Jenny Lind**

ပရာ စတိတ်စင်ကို ကျောခိုင်းခဲ့သည်။ အဘယ့်ကြောင့်ဆိုသော် ထိုစတိတ်စင်က သမ္မာကျမ်းစာ၏ အမှန်တရား ဂုဏ်သရေကို သူမအား ဖုံးကွယ်ထားသောကြောင့် ဖြစ်သည်။ မစ္စလင်းကဲ့သို့ပင် ဖလောရင့်ကလည်း ခရိုင်းမီးယား၏ ဒဏ်ရာရ စစ်သားများအပေါ် မီးအိမ်ဖြင့် အလင်းပြမည့် အမျိုးသမီး ဖြစ်လာစေရန်အတွက် လန်ဒန် လူ့အဖွဲ့အစည်းမှ ခွဲထွက်ခဲ့သည်။

အမ်ဘာလီမှာ ကဲ့သို့ပင် လန်ဒန်မှာလည်း သူမ နာမည်ကျော် ပုဂ္ဂိုလ်များနှင့် တွေ့ဆုံခဲ့သည်။ နက္ခတ်ပညာရှင်များ ဖြစ်ကြသော အဒမ်[၁]နှင့် လီဗာရီယာ[၂]တို့၏ စကားကို လေးစားစွာ နားထောင်သည်။ သူမ၏ မိတ်ဆွေတွေထဲမှာ ရှားဘုန်း[၃]နှင့် လဗ်လေ့စ်[၄]ကဲ့သို့ သူကောင်းမျိုးများနှင့် ကြင်ရာတော်များ၊ နာမည်ကျော်နှင့် နောင်အခါ နာမည်ကျော်လာသည့် ကဗျာဆရာများ၊ စာရေးဆရာများ ပါဝင်သည်။

ဖလောရင့်၏ ရင်တွင်းသဘာဝ၌ ရှိနေသည့် နက်ရှိုင်းသော ဆန္ဒတွေကို ဤအရာတွေက တစ်ခုမျှ ကျေနပ်နှစ်သက်မှု မပေးနိုင်ပေ။ သူမ မကြာခဏ သွားရောက်ခဲ့သည့် ဆေးရုံတွေ၊ သူမ သေသေချာချာ လေ့လာခဲ့သည့် သတင်းတွေထဲ ဖော်ပြထားသည့် ဆေးရုံတွေမှာ ဆောင်ရွက်ဖို့ တောင့်တမိသည်။ အထူးသဖြင့် ဆေးရုံနှင့် သူနာပြုများ လေ့ကျင့်ရေးကျောင်းကို ဦးဆောင်သည့် သင်းအုပ်ဆရာ ဖလီဒနား[၅]၏ ဝေယျာဝစ္စ အမျိုးသမီးများ အဖွဲ့၏ နှစ်စဉ် အစီရင်ခံစာက အလွန်တန်ဖိုးရှိသည်။ သူမက ဤအစီရင်ခံစာကို အချိန်ယူ လေ့လာသည်။ လုပ်ငန်းနှင့် ပတ်သက်၍ သုံးသပ်ချက် ရေးဆွဲသည်။ ဖြစ်နိုင်ချေရှိသော တိုးတက်လုပ်ဆောင်မှုများအတွက် အစီအစဉ် ရေးဆွဲသည်။ ကြိုးပမ်းအားထုတ်မှု တိုးတက်အောင် သုံးသပ်သည်။

အပြင်ပန်းက ဖလောရင့်၏ အစဉ်အလာကို လေးစားလိုက်နာခြင်း၊ အတွင်းက သူမ၏ ဖိဆန်မှုနှင့် စိတ်ပိုင်းဆိုင်ရာ ကျေနပ်မှု မရှိခြင်းတို့က လက်လျှော့လိုခြင်းနှင့် မချင့်မရဲ ဖြစ်ခြင်းတို့ကို ဖြစ်စေသည်။ ဤဝိရောဓိက သူမ၏ သွက်လက်ချက်ချာမှုကို ခိုးယူသွားပြီး သူမ၏ ပါးပြင်ပေါ်က ပန်းပွင့်များကို အရောင်မှိန်သွားစေသည်။

---

၁။ Adams ၂။ Leverrier ၃။ Sherborne ၄။ Lovelace
၅။ Pastor Fliedner

သောကကြောင့် စိတ်လှုပ်ရှားနေသော သူမ မိသားစုက မည်သည့်ဘက်သို့ ချိုးကွေ့ရမည်ကို မသိပေ။ သူတို့၏ သောကဝေဒနာကို ကုစား၍ မရနိုင်သေးပေ။ ကိုယ်က မကျန်းမာ၊ စိတ်က အနှောင့်အယှက် ဖြစ်နေသည့် သူမ၏ ဝေဒနာကို သူနာပြုသင်တန်း တက်ရောက်ခွင့် ပြုလိုက်ခြင်းဖြင့် ကုစားနိုင်သည့် ကိစ္စကိုလည်း သူမ မိဘများက စီမံမပေးနိုင်ကြပေ။

ဘရေ့စ်ဘရစ်ချ်[၁] မိသားစုက သူတို့နှင့်အတူ ပူးပေါင်းလုပ်ဆောင်ရန် ဖိတ်ခေါ်သဖြင့် နောက်ပိုင်းတွင် ဥရောပသို့ ခရီးထွက်ခြင်းများက သူမကို ကယ်တင်ပေးခဲ့သည်။ ၁၈၄၇ ခုနှစ်၊ သူမ၏အသက် (၂၇) နှစ်အရွယ်တွင် ရောမသို့ ခရီး စ ထွက်သည်။ ရောမတွင် လပေါင်းများစွာ အချိန်ကြာ နေခဲ့သည်။ သူမ၏ ဆန္ဒတစ်ခုမှာ သူ့ကျန်းမာရေး ပြန်လည်ကောင်းမွန်လာရန် ဖြစ်သည်။ သူ့ရည်မှန်းချက်ကို သဘောပေါက်အောင် လုပ်နိုင်ခဲ့လျှင် စိတ်ရောကိုယ်ပါ ကြံ့ခိုင်နိုးကြားလာမည်ဟု ခံစားမိသည်။

သို့ရာတွင် သူမ၏ ဖခင်က ဤသို့ ခရီးထွက်ခြင်းသည် သူနာပြုတစ်ယောက် ဖြစ်ချင်သည့် အစွဲအလမ်းကို ဖယ်ထုတ်ပစ်နိုင်မည့် အကျိုးသက်ရောက်သော နည်းလမ်းဟု ယူဆသည်။

ဖလောရင့်က ခရီးစဉ်ကို နှစ်သက်သည်။ ကိုယ်ကျိုးစွန့် အနစ်နာခံသွားသော ခရစ်ယာန်များကို မြှုပ်နှံထားသည့် မြေအောက်သင်္ချိုင်းဂူများရှိရာ အီတာနယ်မြို့[၂]သို့ အလည်ရောက်သွားသည်။ ထိုမြို့တွင် ရှေးဟောင်းဘုရားကျောင်းများနှင့် အနုပညာလက်ရာ ပြခန်းများကိုပါ မြင်တွေ့ခဲ့ရသည်။ သမီးဖြစ်သူကို "သူ့လက်မ အောက်မှာ" သာ ထိန်းသိမ်း စောင့်ရှောက်ထားလိုသည့် ဝီလျံက ကြည့်ရှုသင့်သည့် ရှုခင်းနေရာတွေ၊ နှစ်ခြိုက်ခံစားသင့်သည့် (သို့မဟုတ် ကြံ့ကြံ့ခံ လုပ်ဆောင်သင့်သည့်) ပြပွဲဆောင်တာတွေကို စာရင်းပြုစုပေးလိုက်သည်။ သူမ၏ဖခင် ညွှန်ကြားသည့် နေရာများကို ရောက်သောအခါ ဖခင် ပေးလိုက်သည့်စာရင်းကို စနစ်တကျ စစ်ဆေးသည်။

ဆစ္စတင်း ဘုရားဝတ်ပြုကျောင်း[၃]သို့ အလည်ရောက်သွားခြင်းအကြောင်းကို သူမက ဤသို့ ရေးထားသည်။

ကျွန်မမှာ ဒီလိုနေ့တစ်နေ့ ရှိခဲ့ဖူးပြီ။ ကျွန်မရဲ့ ရွှေပေလွှာနေ့။

---

၁။ Bracebridge ၂။ Eternal City ၃။ Sistine Chapel

ရောမ၌ နေခဲ့သည့်နေ့တွေ အားလုံးအနက် ဒီနေ့ဟာ ပျော်စရာ အကောင်းဆုံးနဲ့ အမှန်မြတ်ဆုံး နေ့ပဲ။ မစ္စစ်ဘာရေ့စ်ဘရစ်ချ်နဲ့အတူ ဆစ္စတင်း ဝတ်ပြုကျောင်းကို သွားခဲ့တဲ့ နေ့တစ်နေ့ကို တွေးကြည့်ပါ။ ထိန်းသိမ်းစောင့်ရှောက်သူ မရှိ၊ ဧည့်သည်တွေ မရှိဘဲ ကောင်းကင်ဘုံက နတ်သမီးတွေနဲ့ တမန်တော်တွေ ရှိတဲ့ ကောင်းကင်ဘုံဆီ တစ်ယောက်တည်း မော့ကြည့်နေမိခဲ့တယ်။ ရုပ်ပုံကားချပ်တွေကို ကြည့်နေတယ်လို့ မထင်ဘူး။ ကောင်းကင်ဘုံကိုပဲ တည့်တည့် ရှုကြည့်နေတယ်လို့ ထင်မိတယ်။

သူမက ဆစ္စတင်း ဝတ်ပြုကျောင်း၏ လှပခမ်းနားမှုတွေ၊ ဝီလျံ၏ ဆန္ဒအတိုင်း ထိန်းချုပ်မှုမှ နောက်ဆုံး လွတ်မြောက်နေခြင်းတို့အတွက် ဝမ်းသာပျော်ရွှင်နေသည်။ နာမည်ကျော် ဝတ်ပြုကျောင်း၏ လှပတင့်တယ်မှုကို မြင်သောအခါ သူမက ပြောသည်။ 'ဟိုမှာ ဒံယေလ[၁]က အကြောက်တရားကို ဖိဆန်ပြီး သူ့ပြတင်းပေါက်ကို ဖွင့်၊ သူ့ဖခင်တွေရဲ့ ဘုရားသခင်ကို တစ်နေ့သုံးကြိမ် ဝတ်ပြုနေတာ'။ ဒံယေလကဲ့သို့ပင် သူမလည်း အခုတော့ နောက်ဆုံးမှာ အစဉ်အလာတွေ၊ သူ့အဖေ၏ အမိန့်ညွှန်ကြားချက်တွေ၊ သူငယ်ချင်းများ၏ "နင် သူနာပြု မလုပ်ရဘူး" ဟု သတိပေးစကားတွေကို ကြောက်ရွံ့ခြင်းမှ တစ်နေ့တာ လွတ်လပ်နေတော့သည်။

ထိပ်တန်း ပန်းချီအနုပညာနှင့် ပတ်သက်၍ ဝေဖန်သုံးသပ်ချက်များက သူမ၏ စိတ်ပိုင်းဆိုင်ရာ ရွှင်ပျလန်းဆန်းမှုကို ဖော်ပြနေသည်။ "အန္တရာယ်ကို မထီမဲ့မြင် ပြုနေတဲ့ လင်းယုန်ရဲ့ ဦးခေါင်းလို နုပျိုမြင့်မြတ်တဲ့ ဦးခေါင်းကို ကြည့်လိုက်စမ်း။ ဗာဗုလုံ[၂]ရဲ့ ဂုဏ်အားလုံး ဖမ်းစားမခံရတဲ့ အသရေတင့် မျက်လုံးတွေ။ နောက်တော့ ဟေရှာယ[၃]ကို တွေ့တယ်။ သူ သိပ်ငယ်ရွယ်တာကို တွေ့တော့ ကျွန်မ နည်းနည်း ထိတ်လန့်သွားတယ်။ သူနဲ့ ပတ်သက်တဲ့ ကျွန်မ အတွေးက အဲဒီလို လုံးဝ မဟုတ်ဘူး။ ဒါပေမဲ့ မိုက်ကယ်အိန်ဂျယ်လို[၄]က သူ့ကို ကောင်းကောင်း ရင်းနှီးတယ်။ ဒါဟာ စိတ်ကူးဉာဏ် ကွန့်မြူးခြင်းရဲ့ ထာဝရနုပျိုမှု၊ အားမာန်နဲ့ တက်ကြွလန်းဆန်းမှု၊ အမြဲ ဆန်းသစ်၊ အမြဲရှင်သန် နုပျိုတဲ့ မျက်နှာအောက်မှာ ပုံသွန်းထားတဲ့ အတွေးအခေါ်ရဲ့ ထာဝရ စမ်းချောင်းကလေး။ ပါရမီဆိုတာ အသက်အရွယ်နဲ့ လုံးဝ မဆိုင်ဘူး။ ဟေရှာယနဲ့ ပတ်သက်တဲ့ စိတ်ကူး

၁။ Daniel ၂။ Babylon ၃။ Isaiah ၄။ Michelangelo

ညဏ် ကွန့်မြူးခြင်းမှာ အာမခံချက် ရှိတယ်။ သူက နားထောင်နေတယ်။ သူက စကားပြောနေတယ် ....။

"အဲဒီအရာတွေဟာ ဘုရားသခင်ရဲ့ စကားလုံးတချို့၊ ကောင်းကင်ဘုံကို တက်တဲ့ လှေကားတစ်ခုလို့ ခံစားရတယ်။ ဘုရားသခင်ရဲ့ စကားလုံး အားလုံးဟာ သူ့ရဲ့ အတွေးအခေါ်ကို ဖော်ပြနေတယ်။ ဘုရားသခင်ကိုယ်တိုင် လူသားကို ကိုယ်ထင်ပြတာပဲ"

ဤနေရာတွင် တစ်ခါတုန်းက ထက်မြက်သော ပီးလ်[၁]၏ လက်အောက်၌ စစ်ရေးဆိုင်ရာ အတွင်းဝန် လုပ်ခဲ့သည့် ဆစ်ဒနီ ဟားဘတ်[၂]ကဲ့သို့ နာမည်ကျော် ကျေးလက်အုပ်ချုပ်ရေး လူကြီးများနှင့် ဖလောရင့်တွေ့ဆုံခဲ့သည်။ သူ၏ မြေယာပေါ်မှ သီးစားတို့၏ ပိုမိုကောင်းမွန်သော နေရေးထိုင်ရေး အခြေအနေနှင့် ပတ်သက်၍ စီမံကိန်းများအကြောင်း ဆွေးနွေးခဲ့သည်။ နာမကျန်း ဖြစ်ရာမှ ပြန်လည် ကျန်းမာလာသူများကို ငွေကြေးချို့တဲ့၍၊ နေစရာမရှိ၍ အလုပ်ခွင်သို့ ချက်ချင်းပြန်ဝင်အောင် အတင်းအဓမ္မ မလုပ်သင့်ကြောင်း၊ သူတို့ကို ထူထူထောင်ထောင်ဖြစ်အောင် အားဖြည့်ပေးနိုင်သည့် နာလန်ထ လူမမာထားရာအိမ် သို့မဟုတ် ဆေးရုံဆေးခန်းသို့ ပို့သင့်ကြောင်း ဖလောရင့်နှင့် ဆစ်ဒနီဟားဘတ်တို့ အတူတကွ စီမံကိန်းတစ်ခု တီထွင်ကြသည်။

သီလရှင်ကျောင်း တစ်ကျောင်းက ပရဟိတ လုပ်ငန်း အောင်မြင်အောင် လုပ်ဆောင်သည့်အကြောင်းကို ကြားပြီးနောက် ဖလောရင့်က လေဒီစူပါရီယာ[၃]နှင့် တွေ့ဆုံသည်။ သူမနှင့် ဆွေးထွေးသော သံယောဇဉ်ဖြစ်ကာ သူမထံမှ အဖွဲ့အစည်းနှင့် ပတ်သက်၍ ကျေကျေညက်ညက် လေ့လာခဲ့သည်။ သီလရှင်ကျောင်းက မိန်းကလေးများနှင့် မိဘမဲ့ကလေးများအတွက် ကျောင်းတစ်ကျောင်း တည်ထောင်ထားသည်။ ဖလောရင့်က ရိပ်သာတွင် ဆယ်ရက်ကြာကြာ သွားနေခဲ့သည်။ ဤကာလ၏ နိဂုံး၌ သူမ၏ အနာဂတ်လေ့ကျင့်ရေးအတွက် မည်သည့်ပုံစံကိုမဆို ခံယူသင့်သည်ဟု ကောက်ချက်ချလိုက်သည်။ သူမမှာ သူနာပြုများအတွက် လေ့ကျင့်ရေးကျောင်း တစ်ခုရှိလျှင်/ရှိသောအခါ ဘာသာတရား ကိုင်းရှိုင်းမှုသည် လေ့ကျင့်ရေး၏ အစိတ်အပိုင်းတစ်ခု ဖြစ်ရမည် ဖြစ်သည်။ စိတ်ဓာတ်ရေးရာ

၁။ Peel ၂။ Sidney Herbert ၃။ Lady Superior

ခွန်အားနှင့် လေ့ကျင့်မှု ပေါင်းစပ်ခြင်းသည် မိန်းကလေးတစ်ယောက်ကို လူမမာများအား ပြုစုစောင့်ရှောက်သူဖြစ်ရန် အရည်အချင်း ပြည့်ဝစေသည်ဟု အခိုင်အမာ ယုံကြည်လာသည်။

၁၈၄၈ ခုနှစ် နွေဦး၌ အိမ်ပြန်ရောက်သောအခါ သူမ၏မိသားစု အကြိုက်အတိုင်း လူမှုရေး တာဝန်များကို ပုံမှန် ပြန်စ လုပ်သည်။ လန်ဒန်ပွဲတော် ရာသီ၌ရှိစဉ် လော့ဒ်ရှတ်စ်ဘာရီ[၁] ဖြစ်လာသည့် လော့ဒ်နှင့် လေဒီ အက်ရှ်လေ[၂]တို့ကို တွေ့ဆုံသည်။ သူတို့မှတစ်ဆင့် ရက်ဂက်[၃]ကျောင်း လုပ်ငန်းကို လေ့လာသည်။ ထိုကျောင်းတွင် သူနာပြုများအတွက် လေ့ကျင့်ရေးကျောင်း ဖွင့်ရန် ဖြစ်နိုင်ခြေရှိသည့် အလင်းရောင်ဖျော့ဖျော့ကို တွေ့ရှိလိုက်သည်။ သို့ရာတွင် ဤကိစ္စက သူမအတွက် ကျေနပ်စရာ မဖြစ်ပေ။ သူမက မဒမ် မိုးလ်[၄]ထံ စာရေးခဲ့သည်။ "လန်ဒန်မှာ လူမှုကူညီရေး အတွက် လုပ်တဲ့ ကပွဲတွေ၊ ဂီတပွဲတွေ၊ ဈေးတွေ ပုံမှန်အရေအတွက် ရှိနေတယ်။ အဲဒီလိုနဲ့ လူတွေက သူတို့ရဲ့ သိစိတ်တွေကို လိမ်ညာ လှည့်စားနေတယ်။ သူတို့မျက်လုံးတွေ ပိတ်ထားတယ်။"

သို့ရာတွင် ရက်ဂက်ကျောင်းများ၌ အလုပ်လုပ်ရန်နှင့် ဆေးရုံများသို့ သွားရန်အတွက် သူမက ဤလူမှုရေး "လှည့်စားမှု" များမှ ထွက်ပြေးလွတ်မြောက်ရန် ထိန်းသိမ်းခဲ့သည်။ ဤကဲ့သို့ စွန့်လွှတ်နေထိုင်မှုကို မြင်ရလေလေ၊ သူမ၏ လက်ရှိ ဘဝစည်းစိမ်နှင့် အသေးအဖွဲ ကိစ္စများကို မနှစ်မြို့လေ ဖြစ်လာသည်။

၂ ဇူလိုင် ၁၈၄၉ ရက်စွဲဖြင့် ရေးမှတ်ထားသည့် သူမ၏ဒိုင်ယာရီတွင်–

> တစ်စုံတစ်ယောက်ရဲ့ အပြင်ပန်း ကိစ္စတွေဟာ ဘဝမှာ လူဖြစ်လာရတဲ့ တကယ့်အဓိပ္ပာယ်ဟာ ဘာလဲ ဆိုတာနဲ့ တတ်နိုင်သလောက် နီးနီးစပ်စပ် မဖြစ်သင့်ဘူးလား။ ဘဝဆိုတာ ကျွန်မတို့အိမ်တွေမှာ ပြုလုပ်ထားတဲ့ စိမ်းလန်းတဲ့ စားကျက်မြက်ခင်း၊ ငြိမ်သက်တဲ့ ရေပြင်မျိုး မဟုတ်ဘူး။ တချို့လူတွေအတွက် ဘဝဆိုတာ ကန္တာရထဲမှာ စိတ်ရောကိုယ်ပါ ခြိုးခြံထိန်းသိမ်း စောင့်ရှောက်ခြင်း၊ တချို့အတွက်တော့ ပြဿနာ အခက်အခဲကို သယ်ဆောင်ရင်း သတိလစ် မေ့မြောသွားခြင်း၊ တချို့

၁။ Lord Shaftesbury ၂။ Lady Ashley ၃။ Regged ၄။ Madame Mohl

အတွက်တော့ ဘဝဆိုတာ လက်ဝါးကားတိုင်မှာ အဆုံးစီရင်ခြင်း၊ အားလုံး အတွက်တော့ ဘဝဆိုတာ အမှန်တရားအတွက်၊ ဘေးကင်းလုံခြုံမှုအတွက် ရုန်းကန်လှုပ်ရှားခြင်းပဲ။

ကျေးလက်မှာထက် လန်ဒန်မှာ ဘဝကို ပိုပြီးစစ်မှန်တဲ့ ပုံစံနဲ့ တွေ့မြင်ရတယ်။ အင်္ဂလိပ် ကျေးလက်ဒေသ တစ်ခုမှာ စိတ်မချမ်းမြေ့စရာ၊ နာကျင်စရာ အရာရာတိုင်းကို အကိုင်းအခက် ဝေဆာတဲ့ သစ်ပင်တွေရဲ့ နောက်မှာ၊ သုံးမိုင်လောက်ဝေးတဲ့ ရွာတစ်ရွာမှာ၊ မမြင်နိုင်တဲ့ နေရာတွေမှာ ဖယ်ရှားပစ်လိုက်တယ်။ လန်ဒန်မှာတော့ အဖြစ်အပျက် အားလုံးမှာ သင့်မျက်လုံးကို ဖွင့်ထားမယ်ဆိုရင် ဘဝဆိုတာဟာ တခြားလမ်း တစ်နေရာမှာ သင်တို့ကို ဖန်တီးပေးထားတာနဲ့ မတူဘူးဆိုတာ မတွေးဘဲ မနေနိုင်ဘူး။ ပါတီပွဲတစ်ခုရဲ့ အခြားတစ်ဖက်က လမ်းကျဉ်းလေးမှာ ပေါ်လွင်နေတဲ့ မျက်နှာတွေကို မမြင်ရဘဲနဲ့ ရထားလုံးထဲက မထွက်နိုင်ဘူး။ 'ဒါ ကျွန်မရဲ့ အစ်ကိုတွေ အစ်မတွေပါ' လို့ ပြန်ပြေးပြီး ပြောဖို့ ဆွဲဆောင်ခံရတဲ့ ခံစားချက်မရှိဘဲ ရထားလုံးထဲက မထွက်နိုင်ဘူး။

သူမ၏ အလိုဆန္ဒအတိုင်း လုပ်ဆောင်ရန် လွတ်လပ်ခွင့်ရမည်ဆိုလျှင် ဖလောရင့်က ထိုပါတီပွဲမှ ပြေးထွက်ကာ ဆင်းရဲသား ရပ်ကွက်ထဲက အပယ်ခံ လူမမာ အဘွားအိုကို တွေ့ဆုံပြီး ကျန်းမာလာသည်အထိ ဝမ်းသာအားရ ပြုစုပေးမည် ဖြစ်သည်။ 'ဒါပေမဲ့ မင်းလို ဘဝ အဆင့်အတန်း ရှိတဲ့ မိန်းမပျို တစ်ယောက်က လန်ဒန်မှာ အဖော်မပါဘဲ အပြင်ထွက်တဲ့ ကိစ္စမျိုး လုံးဝ လုပ်မှာ မဟုတ်ဘူး'– ဤသို့ဖြင့် ဖလောရင့်၏ ဖခင်က သူမ၏ ဆန္ဒတွေကို ချိုးနှိမ်ရန် ကြိုးစားသည်။

ထိုအတောအတွင်း လှောင်အိမ်ထဲက လင်းယုန်ငှက်သည် တံတိုင်းတွေ အပေါ်မှာ သူ့တောင်ပံတွေကို ရိုက်ခတ်လိုက်သည်။ သူမ၏ သောက ဝေဒနာကြောင့် မိသားစု စိတ်ထိခိုက်ရသည်။ သို့ရာတွင် စိတ်ပင်ပန်းမှု၏ အကြောင်းရင်းခံကို သက်သာစေရန် ဆန္ဒမရှိပေ။ ဘရေ့စ်ဘရစ်ချ် မိသားစုတို့က အီဂျစ်သို့ ဆောင်းခိုရန် စီစဉ်ပြီး ဖလောရင့်ကို သူတို့နှင့် လိုက်ပါရန် ဖိတ်ခေါ်သည်။ ဖလောရင့်၏ မိဘများက သဘောတူ ခွင့်ပြုလိုက်သည်။

ဤခရီးစဉ်က ရောမခရီးမှာ မရရှိခဲ့သည့် အရာတွေကို ရရှိအောင်မြင်လိမ့်မည် ဟူသော မျှော်လင့်ချက်ဖြင့် လည်းကောင်း၊ သူမ စွဲလမ်းနေသည့် ရှုးရှူးမိုက်မိုက် အယူအဆတွေကို မိန်းကလေး၏ စိတ်ထဲမှ ဖယ်ရှားပစ်နိုင်လိမ့်မည်ဟု မျှော်လင့်၍ လည်းကောင်း ခွင့်ပြုလိုက်ခြင်း ဖြစ်သည်။

## အခန်း [ ၄ ]
## သူနာပြု ဝတ်စုံကို ဝတ်ဆင်ခြင်း

ဖလောရင့် အနေဖြင့် အီဂျစ်သည် နှစ်ခြိုက် ပျော်ရွှင်စရာနိုင်ငံ ဖြစ်သည်။ သူမ၏ ထက်သန်သောစိတ်က ဤနယ်မြေကို အသုံးချစရာ အများကြီး ရှိကြောင်း တွေ့ရှိသည်။ မင်းဆက်တွေအကြောင်း စိတ်အားထက်သန်စွာ လေ့လာသည်။ ဘုရားကျောင်းပုံစံတွေ ကူးယူသည်။ အီဂျစ် ဒဏ္ဍာရီတွေကို လေ့လာသရုပ်ခွဲသည်။ သို့ရာတွင် ဤနိုင်ငံ၏ ဓလေ့ထုံးတမ်းနှင့် နေထိုင်သူတွေကြောင့် အမြဲ စိတ်ရှုပ်ထွေးသွားရသည်။

"ဘယ်အရာမှ ပြုံးရွှင်လန်းဆန်း မနေဘူး။ လှုပ်လှုပ်ရှားရှား မရှိဘူး။ အရာရာတိုင်းက ကြီးရင့်အိုမင်းနေပြီ" ဟု လေ့လာမှတ်သား ဆန်းစစ်ပြီးနောက် သူမက ရေးထားသည်။ အလှအပကို ချစ်တတ်သူတစ်ယောက် အနေနှင့် သူမက အရိပ်ထိုးနေသည့် ဘုရားကျောင်းတွေထဲရှိ ရုပ်ပုံကားတွေ၊ နေရောင်မှာ တလက်လက်တောက်နေသည့် သဲပြင်တွေမှာ စိတ်နှလုံးကို ညှို့ငင်ဖမ်းစားနေသည့် ပုံရိပ်တွေကို မြင်သည်။

"လွန်ခဲ့တဲ့ နှစ်ပေါင်းသုံးထောင်လောက်က ဝတ်ပြုဆုတောင်းသူတွေကို ကျွန်မ စဉ်းစားကြည့်တယ်" ဟု ရေးထားသည်။ "အဲဒီအချိန်မှာ သူတို့စိတ်ရဲ့ ရည်မှန်းချက်ပန်းတိုင်သို့ ဘယ်လို ရောက်သွားကြသလဲ။ ကျွန်မတို့ရှေ့က အဲဒီပန်းတိုင်–ကြယ်တာရာတစ်ခုလောက် ဝေးပေမဲ့ သေချာတဲ့၊ အတိအကျ သတ်မှတ်ထားတဲ့ ပန်းတိုင်မှာ ကျွန်မတို့ ဘယ်လို ရပ်တည် မလဲ"

လူတွေ၏ ဆင်းရဲမွဲတေမှု၊ နာမကျန်းမှု၊ လက်တွေ့မှာ ရှိနေသည့်

ဦးနှောက်ခြောက်စရာ ပြဿနာတွေမှ သူမ၏စိတ်ကို ရှန်းမထွက်နိုင်ပေ။ သူမ၏ သူငယ်ချင်းတစ်ယောက်ထံ "ခုနေ ငါသာ ဖာရော[၁] ဘုရင်ကြီးတစ်ပါး ဖြစ်ရင် အာရပ်လူမျိုးအသွင် ယူပြီး အဲဒီဆင်းရဲတဲ့ လူတွေကို ကူညီဖို့ ပြန်လာမယ်" ဟု စာရေးခဲ့သည်။ သူမ၏ မိသားစုထံ စာရေးရာတွင်လည်း– "ရွာတွေအားလုံးကို အနံ့ခံကြည့်တယ်။ ဆင်းရဲနွမ်းပါးသူတွေ ဘယ်လို နေထိုင်တယ် ဆိုတာ မြင်တွေ့ရတယ်။ သူတို့က ကျွန်မကို သဲကန္တာရ ထဲမှာ လေလာရှူနေတဲ့ မြည်းရိုင်းမလေးလို့ ခေါ်ကြတယ်။ ဘာ့ကြောင့် ဆိုတော့ ကျွန်မက ခပ်ဝေးဝေး သွားပြီး နားအေးပါးအေး နေရတာကို နှစ်သက်တာကိုး"

နိုင်ငံတစ်လွှား ကြုံသလိုသွားသည့် ခရီးစဉ်ကို ၁၈၅၀ ပြည့်နှစ် ဧပြီလအထိ ဆက်ခဲ့သည်။ သူတို့အဖွဲ့ အေသင်မြို့သို့ ရောက်သွားသည့် အခါ ဖလောရင့် အနေအထားသစ်တစ်ခု တွေ့ကြုံရသည်။ ပုံပြင်၊ ဒဏ္ဍာရီ အသစ်တွေ အများကြီး လေ့လာရသည်။ ကိုင်ရိုကျေးလက် တောရိုင်း မြေရိုင်းနှင့် လုံးဝခြားနားသည့် ရှုခင်းတွေကို နှစ်သက်သည်။ ဤခရီးစဉ်၏ ပျော်ရွှင်နှစ်ခြိုက်စရာ အကောင်းဆုံး အတွေ့အကြုံများမှာ အမေရိကန် သာသနာပြုများဖြစ်သော ဟီးလ်[၂] ဇနီးမောင်နှံနှင့် တွေ့ဆုံရခြင်းပင် ဖြစ်သည်။ သူတို့က အေသင်တွင် မိဘမဲ့ဂေဟာနှင့် ကျောင်းတစ်ကျောင်း တည်ထောင်ထားသည်။ ဘဝမှာ ဝမ်းနည်းစရာ စွန့်စားခန်းတွေ အပြည့် ရှိသည့် ဂရိလူမျိုး စစ်ဘေးဒုက္ခသည် တစ်ယောက်က သာသနာပြုကျောင်း ကို ဦးစီးဆောင်ရွက်သည်။

"ဒီအမျိုးသမီးတွေရဲ့အနား ရောက်သွားတဲ့အခါ ကျွန်မဘဝက ဘယ်လောက်တောင် တန်ဖိုးမဲ့လိုက်ပါသလဲ" ဟု ဒိုင်ယာရီမှာ မှတ်တမ်း တင်ထားသည်။ အလှအပ ရှုခင်းတွေ၊ ဂရိ ရှေးဟောင်း ပန်းချီပန်းပု လက်ရာ တွေ၏ ဂုဏ်ကျက်သရေတွေက မိဘမဲ့ဂေဟာနှင့် သာသနာပြုကျောင်း ဘေးမှာ အရေးထားလောက်စရာ မဟုတ်တော့ချေ။ သူမ၏ ဘဝကလည်း အချည်းနှီး အလဟဿ လူကုံထံဘဝ ဖြစ်သွားတော့သည်။

သူမ၏ စိတ်နောက်ခံ အခြေအနေက ဂျာမနီရှိ ကိုင်ဇာဝါ့သ်[၃]သို့ သွားလိုသောဆန္ဒ ဖြစ်သည်။ ဤခရီးစဉ်မှာ စိတ်ကျေနပ်လောက်အောင်

---

၁။ Pharaoh ၂။ Hill ၃။ Kaiserwerth

ဖြည့်စွမ်းရမည့် ဆန္ဒတစ်ခုပင်။ ဇူလိုင် (၃၁) ရက်တွင် သင်းအုပ်ဆရာ ဖလီဒနား[၁]၏ အလုပ်ခွင်ရှိရာသို့ ရောက်သွားသည်။ ဤနေရာနှင့် ပတ်သက်၍ သူမက ဤသို့ ရေးထားသည်။ "ကျွန်မ အဲဒီကို ရောက်သွားတာ ယုံတောင် မယုံနိုင်ဘူး။ ယေရုရှလင်မြို့သွား ဘုရားဖူးတစ်ယောက်ရဲ့ ကက်ဒရန်[၂]ချိုင့်ဝှမ်းကို ကြည့်တဲ့ ခံစားချက်မျိုးနဲ့ ရိုင်း[၃]မြစ်ကို ကျွန်မ မြင်လိုက်ရတယ်။ ကျွန်မအတွက် နိုင်း[၄]မြစ်ထက် ပိုပြီး ချစ်မြတ်နိုးစရာ ကောင်းတယ်။"

ကိုင်ဇာဝါ့သ်ကို လူသာရင် ဘုန်းတော်ကြီး၏ မြေးနှင့် သားဖြစ်သူ သီယိုဒို ဖလီဒနားက တည်ထောင်ခဲ့ပြီး သူကိုယ်တိုင်လည်း လူသာရင် ဘုန်းတော်ကြီး ဖြစ်သည်။ ၁၈၀၀ ပြည့်နှစ်၌ ရိုင်းမြစ်ကမ်းဘေးရှိ အက်ပ်စတိန်း[၅] ရွာငယ်လေး၌ မွေးဖွားခဲ့သည်။ အသက် (၂၂) နှစ်တွင် ဒူဆယ်လ်ဒေါ့ဖ်[၆] အနီး ရိုင်းမြစ်ကမ်းပေါ်ရှိ ကိုင်ဇာဝါ့သ်၌ ပရိုတက်စတင့် ဘုရားကျောင်း၏ သင်းအုပ်ဆရာ ဖြစ်လာသည်။ စက်ရုံ ပိတ်လိုက်သည့်အခါ သူ့နယ်မြေတွင် အခက်အခဲ ကြုံတွေ့သဖြင့် ဆင်းရဲသားများအတွက် ရန်ပုံငွေရှာဖွေရန် သင်းအုပ်ဆရာကို ဟော်လန်၊ အင်္ဂလန်နှင့် သူ့ဇာတိ ဂျာမနီသို့ စေလွှတ်လိုက်သည်။ အင်္ဂလန်တွင် ဖလောရင့်၏မိတ်ဆွေ အဲလိဇဘက်ဖရိုင်းနှင့် တွေ့ဆုံသည်။ အဲလိဇဘက်ဖရိုင်းမှာ သူ၏ အကျဉ်းထောင် ပြုပြင်ရေးကို စိတ်ဝင်စားနေသူ ဖြစ်သည်။ ကိုင်ဇာဝါ့သ်သို့ ပြန်ရောက်သောအခါ ဒူဆယ်လ်ဒေါ့ဖ် အနီးရှိ အကျဉ်းစခန်း လုပ်ငန်းခွင်သို့ ဝင်ရောက်ပြီး လွတ်မြောက်လာသည့် အကျဉ်းသားများ၏ ပြဿနာကို လေ့လာဖြေရှင်းရန် ဆုံးဖြတ်လိုက်သည်။

ဖလောရင့် သူ့ရွာသို့ ရောက်သွားသောအချိန်မှာ သူက ၁၈၃၃ ခုနှစ်တွင် ပြန်လည်ပြင်ဆင်ပြီး ထောင်မှလွတ်မြောက်ကာ ရောက်ရှိလာသည့် အကျဉ်းသားများအတွက် နေထိုင်ဖို့ သင့်လျော်အောင် ပြုလုပ်ထားရာ အဆောက်အအုံကို ညွှန်ပြသည်။ ဤအဆောက်အအုံသည် ကိုင်ဇာဝါ့သ် အဖွဲ့အစည်း၏ အစဖြစ်သည်ဟု သူက ပြောပြသည်။ နောက်ဆုံးတွင် မိဘမဲ့ဂေဟာ၊ အကျဉ်းသားများ၏ ကလေးသူငယ်များကို စောင့်ရှောက်ရန် ကလေးထိန်းကျောင်း၊ မိမိ ဆန္ဒအလျောက် သူနာပြု လုပ်ချင်သူများကို

၁။ (Theodore) Fliedner ၂။ Kedron ၃။ Rhine
၄။ Nile ၅။ Epstein ၆။ Dusseldorf

လေ့ကျင့်ပေးရန် ဆေးရုံနှင့် ဆရာအတတ်သင်ကျောင်းတို့ တည်ဆောက်ပေးခဲ့သည်။

သူ့နှလုံးသားနှင့် အနီးစပ်ဆုံး လုပ်ငန်းမှာ ဆေးရုံဖြစ်သည်။ အဘယ့်ကြောင့်ဆိုသော် သူ့ဧည့်သည် ဖလောရင့်ကဲ့သို့ပင် နာမကျန်းသူများအတွက် ကရုဏာစိတ်နှင့်အတူ သူ့နှလုံးသားက လှုပ်ရှားခဲ့သောကြောင့်ပင်။ နယ်မြေခံတို့၏ ကြွယ်ဝမှုကို ဖျက်ဆီးပစ်လိုက်သည့် ယိုယွင်းပျက်စီးနေသော စက်ရုံဟောင်းကို ဆင်းရဲမွဲတေမှုနှင့် ဒုက္ခအမျိုးမျိုး ခံစားနေရသည့် ရွာသားများအတွက် ၁၄ အောက်တိုဘာ ၁၈၄၆ တွင် စတင်အသုံးပြုသည်။ ဤနေရာတွင် သူ၏ဆေးရုံကို စတင်ဖွင့်လှစ်ချိန်၌ အိပ်ရာခင်း ခြောက်ခုသာ ရှိပြီး၊ လူနာက အမြောက်အမြား ရှိခဲ့သည်။ ဖလောရင့် ဤနေရာသို့ ရောက်ချိန်တွင် အိပ်ရာ ခုတင် (၁၀၀) နှင့် စေတနာအလျောက် သူနာပြုလုပ်နေသူ (၁၁၆) ယောက် ရှိသည်။ သူနာပြုများမှာ အခြားသူ များစွာတို့ တခြား လုပ်ငန်းများ လုပ်ကိုင်နေစဉ်မှာပင် သင်တန်းတက်ရောက်ပြီးသူများ ဖြစ်သည်။

ဖလောရင့်က သူနာပြုတစ်ယောက်ဖြစ်ရန် ဆုံးဖြတ်ချက်အသစ်ကို ချမှတ်လိုက်သည်။ ဖလောရင့်က သူမ၏ ဒိုင်ယာရီတွင် ဤကိစ္စကို အရေးတယူ မှတ်သားလိုက်သည်။ "ကိုင်ဇာဝါ့သ်မှ ရဲရင့်စိတ်ဖြင့် ထွက်ခွာလာခဲ့။ ဘယ်အရာမှ ကျွန်မကို နောက်ထပ် စိတ်အနှောင့်အယှက် မပေးနိုင် သကဲ့သို့ပင်။"

အိမ်ပြန်ရောက်သောအခါ ငြီးငွေ့ဖွယ် လူမှုရေး ကိစ္စတွေကို အတင်းအကျပ် လုပ်ဆောင်ခံနေရပြန်သည်။ သူမ၏ မိသားစုတွေကို ထပ်မံ မထိခိုက်စေချင်သော်လည်း သူမ၏ လမ်းခရီးကို ပိတ်ဆို့နေသည့် "အခက်အခဲတောင်တန်းများ" ဟု သူမ အမည်ပေးထားသော အတားအဆီးများသည် ဘုရားသခင်ဆန္ဒ ဆိုသည်ထက် လူက ဖန်တီးတာ ဟုတ်၊ မဟုတ် သိချင်လာသည်။ ယခုအထိ ဤအတားအဆီးများကို သည်းခံရမည့် အခက်အခဲ၊ ဘုရားသခင် ပို့လွှတ်လိုက်သည့် အခက်အခဲ တစ်ခုအဖြစ် တွေးထင်ထားခဲ့သည်။ ယခုအချိန်မှ စ၍ ၎င်းတို့ကို ကျော်လွှားရမည့် အတားအဆီးတစ်ခုအဖြစ် စတင်ရှုမြင်လာသည်။ သို့ဖြစ်၍ ထိုအခက်အခဲကို အောင်မြင်ကျော်လွှားနိုင်ရန်အတွက် ဘုရားသခင်၏ မဟာကရုဏာတော်နှင့် ခွန်အားကို ပေးသနားတော်မူရန် ဆုတောင်းတော့သည်။

၈ ဖွန် ၁၈၅၁ ရက်စွဲဖြင့် ဒိုင်ယာရီ၌ ဤသို့ မှတ်တမ်းတင်ထားခဲ့သည်။

ငါ ထွက်ခွာနိုင်ဖို့ ပစ္စည်းအနည်းငယ် ယူရမယ်။ ငါ အဲဒါတွေ ယူသွားရမယ်။ ငါ့ကို ပေးမှာ မဟုတ်ဘူး။ အရှင်ရဲ့ ဆန္ဒအတိုင်း အမှန်အကန် လုပ်ဆောင်တဲ့စိတ်ဓာတ်နဲ့ ယူဆောင်ရမယ်။ ငါ့ဆန္ဒနဲ့ လုပ်ယူတာ မဖြစ်ရဘူး။

ဘုရားသခင်၏ ဆန္ဒကို ဆောင်ရွက်ရန် သန္နိဋ္ဌာန်၊ သူနာပြု အသက်မွေး ဝမ်းကျောင်းကို ဂုဏ်တက်စေရမည်ဆိုသော ဆုံးဖြတ်ချက်သည် အမြဲတမ်း ပိုမိုခိုင်မာလာသည်။ သို့ရာတွင် ယခုအခါ ပြဿနာ အသစ်တစ်ခုနှင့် ရင်ဆိုင်ရပြန်သည်။ ယခုအချိန်အထိ လက်ထပ်ဖို့ကိစ္စနှင့် ပတ်သက်၍ လုံးဝ သို့မဟုတ် အနည်းငယ်မျှ မတွေးမိပေ။ သူမ၏ သူငယ်ချင်းတွေ၊ အထူးသဖြင့် မိဘတွေက ဖလောရင့်ကိုယ်ပိုင် မိသားစုတည်ဆောက်ရန် "မြင့်မြတ်သော နှလုံးသားနှင့် သစ္စာရှိသော၊ သူမအပေါ် ထိုက်ထိုက် တန်တန် ချစ်မြတ်နိုးသော ယောကျ်ားတစ်ယောက်" ကို တောင့်တနေခဲ့ကြသည်။

အောင်သွယ်တော် ပွဲစားတို့၏ အောင်သွယ်ကောင်းမှုကြောင့် အသက်သုံးဆယ်အရွယ် သမီးထံသို့ သင့်လျော်သည့် လက်ထပ်လိုသူတွေကို တင်ပြကြသည်။ တစ်ယောက်ပြီးတစ်ယောက် ရောက်လာကြသည်။ တချို့က ဝတ်ကောင်းစားလှတွေ ကြော့ကြော့မော့မော့ ဝတ်ဆင်ပြကြသည်။ တချို့က သူတို့ မေတ္တာစစ် မေတ္တာမှန်ဖြင့်ချစ်ကြောင်း ဖလောရင့်ကို အားကြိုး မာန်တက် သွေးဆောင်စည်းရုံးကြသည်။ တချို့က ကြိုးပမ်းအားထုတ်မှု မပါဘဲ လူပျိုလှည့်ကြသည်။ သူတို့၏ ကြိုးစားအားထုတ်မှု ဖိအားကြောင့် မိန်းမပျိုလေး ခမျာ သူမ နှလုံးသားကို အရှုံးပေးတော့မတတ် ဖြစ်သွားသည်။ သို့ရာတွင် သူမကို ချစ်ရေးဆိုသူ တစ်ယောက်နှင့် ပတ်သက်၍ ဒိုင်ယာရီထဲမှာ ရေးထားခဲ့သည်။

ကျွန်မမှာ ကျေနပ်နှစ်သက်မှုကို လိုလားတဲ့ အသိဉာဏ်ဗီဇ ရှိတယ်။ အဲဒီ ကျေနပ်နှစ်သက်မှုကို သူ့ဆီမှာ တွေ့ရတယ်။ ကျေနပ်နှစ်သက်မှုကို လိုလားတဲ့ ချစ်ခြင်းမေတ္တာ ဗီဇရှိတယ်။ အဲဒါကို သူ့ဆီမှာ တွေ့ရတယ်။ ကျွန်မမှာ ကျေနပ်နှစ်သက်မှုကို လိုလားတဲ့ သမစိတ္တ

ဖြစ်သော တက်ကြွတဲ့ဇီဇ ရှိတယ်။ အဲဒါကို သူ့ဘဝထဲမှာ တွေ့မှာ မဟုတ်ဘူး။ ကျွန်မရဲ့ ဇီဇစိတ် သဘာဝ တစ်ခုခုရဲ့ ကျေနပ်နှစ်သက်မှု ကို တွေ့ရှိဖို့ ခက်လွန်းတယ်။ တစ်ခါတစ်ရံ အဖြစ်အပျက် အားလုံးမှာ ကျွန်မရဲ့ ချစ်ခြင်းမေတ္တာ သဘာဝဇီဇကို ကျေနပ်နှစ်သက်အောင်လုပ်ဖို့ စဉ်းစားမိတယ်။ ဘာ့ကြောင့်လဲဆိုတော့ အဲဒီစိတ်က အနည်းဆုံးတော့ အိပ်မက်နတ်ဆိုးရဲ့ အန္တရာယ်က ကင်းဝေးအောင် လုပ်ပေးမှာမို့ပဲ။

သူမ၏ အတိတ်အလင်းရောင်ထဲက အကြောင်းအရာကို ပြန်လည် ဆန်းစစ်ရန် ခေတ္တရပ်နားပြီးနောက် သူမက မေးထားသည်။

ဒါပေမဲ့ အဲဒါက ဖြစ်မှာလား။ တချို့ ကြီးမားတဲ့ အကြောင်း အရာတွေမှာ ကျွန်မတို့ရဲ့ မတူညီတဲ့ စွမ်းအားတွေကို ပေါင်းစည်းလိုက် ခြင်းဖြင့် သူနဲ့အတူ ဘဝတစ်ခု ဖြတ်သန်းရမှာကို ကျေနပ်နှစ်သက်မိ တယ်။ အိမ်မှုကိစ္စတွေကို စီမံရင်း၊ လူမှုအဖွဲ့အစည်းကို ဖန်တီးရင်းနဲ့ သူနဲ့အတူ ဘဝတစ်ခု ဖြတ်သန်းရမှာကိုတော့ မနှစ်သက်ဘူး ...။

အခြားမျှော်လင့်ချက် မရှိဘဲနဲ့ ခရီးဆက်ဖို့၊ ချဲ့ထွင်ဖို့အတွက် ကျွန်မရဲ့ လက်ရှိဘဝကို သံမှိုနှက်သလို မလှုပ်ယှက်နိုင်အောင် လုပ် ခံထားရမှာကို သည်းမခံနိုင်ဘူး။ စစ်မှန်ကြွယ်ဝတဲ့ ဘဝတစ်ခုကို ကျွန်မ ကိုယ်တိုင် ဖော်ဆောင်ဖို့ အခွင့်အရေးကို ဆုပ်ကိုင်ထားတဲ့ ကျွန်မရဲ့ စွမ်းအားကို ဆန္ဒအလျောက် ငြိမ်းသတ်ဖို့ လုပ်ဆောင်ခြင်းက ကျွန်မ အတွက်တော့ ကိုယ့်ကိုယ်ကိုယ် သတ်သေတာနဲ့ အတူတူပဲ။

ဤစကားများသည် အဆိုပါ ပုဂ္ဂိုလ်နှင့် ပတ်သက်သော နောက်ဆုံး စကားများပင်။ သို့ရာတွင် သူမက စစ်မှန်သော ကြင်ဖော်တစ်ယောက်ကို တကယ်ပင် တောင့်တခဲ့သည်။ ဤဆန္ဒကို သူမက ရေးသားထားသည်။

"မြင့်မြတ်ကောင်းမွန်တဲ့ ရည်ရွယ်ချက်ရှိသူ ယောကျ်ားတစ်ယောက် ကို လက်ထပ်ရခြင်း၊ သူနဲ့အတူ အဲဒီရည်မှန်းချက် ရောက်အောင် လက်တွဲ လုပ်ဆောင်ရခြင်းဟာ ပျော်စရာအကောင်းဆုံး ကုသိုလ်ကံပဲ။ အမြင့်မြတ် ဆုံးနဲ့ စစ်မှန်တဲ့ တစ်ခုတည်းသော ချစ်ခြင်းမေတ္တာ ဆိုတာ မိန်းမနှင့် ယောကျ်ားတို့၊ တစ်ဦးအပေါ် တစ်ဦး ဆွဲဆောင်မှုရှိတဲ့ သူနှစ်ဦးတို့ လူသား နဲ့ ဘုရားသခင်အတွက် စစ်မှန်တဲ့ ရည်ရွယ်ချက်နဲ့ အတူတကွ ပေါင်းစည်း ကြတဲ့ အချိန်ပဲ။ စစ်မှန်တဲ့ အဲဒီနှစ်ဦးကို ပေါင်းစည်းပေးလိုက်တဲ့ အချိန်မှာ

သူတို့ကိုယ်တိုင် ကမ္ဘာလောကကြီးထဲကို မကြောက်မရွံ့ ခြေစုံပစ် ဝင်သွားပြီး စာနာထောက်ထားမှု၊ ဖေး မ ကူညီမှုတွေနဲ့ ဘဝကို လုံခြုံအောင် ဆောင်ရွက်ကြလိမ့်မယ်။"

ဤအကြောင်းအရာနှင့် ပတ်သက်၍ အခြားသော အတွေးအခေါ်များကိုလည်း လက်ခံထားသည်။ တစ်ကိုယ်ရေတစ်ကာယ နေထိုင်ကြသော အမျိုးသမီးများ၏ လုပ်ဆောင်မှုများကို ချီးကျူးခံရသောအခါ သူမက– "ဘုရားသခင်က တချို့ မိန်းမသားတွေကို အိမ်ထောင်သည်တွေအဖြစ် စောင့်ရှောက်ပေးသလို၊ တချို့ကိုလည်း တစ်ကိုယ်ရေတစ်ကာယဖြစ်အောင် ရှင်းရှင်းလင်းလင်း စည်းခြားပေးထားတယ် ထင်တယ်။ တချို့မှာ အိမ်ထောင်မပြုဖို့ အကြောင်းတစ်ခုခု ရှိတယ် ထင်တယ်။ အသိဉာဏ် သို့မဟုတ် ကိုယ်ကျင့်တရားကို တက်တက်ကြွကြွ ထိန်းသိမ်းတတ်တဲ့ သဘာဝရှိတဲ့ မိန်းမသားတွေ ရှိတယ်။ သူတို့အတွက်ကတော့ အိမ်ထောင်ပြုခြင်း ဆိုတာ (ပြည့်ဝတဲ့ စံနမူနာဖြစ်တယ် ဆိုတာ သဘောမပေါက်ရင်) သူတို့ ချစ်သူတွေရဲ့ စိတ်ကျေနပ်မှုအတွက် သူတို့ရဲ့ ပိုမိုမြင့်မြတ်တဲ့ အစွမ်းအစတွေကို စွန့်လွှတ် အနစ်နာခံခြင်းလို့ အဓိပ္ပာယ် ဖွင့်ဆိုကြတယ်"

သူနာပြုလုပ်ရန် သူမ၏ ပြင်းပြသောဆန္ဒကို ချီးနှိမ်ပစ်လိုသည့် မိဘနှစ်ပါး၏ ဆန္ဒနှင့်ဆန့်ကျင်သော အတွေးအခေါ်တိုက်ပွဲသည် သူမ၏ အသက် (၃၀) ပြည့် မွေးနေ့မှာ အဆုံးသတ်သွားခဲ့သည်။ ထိုအချိန်မှာ သူမ၏ နောက်ဆုံးပိတ် စကားလုံးများကို ဒိုင်ယာရီထဲ ရေးမှတ်ထားခဲ့သည်။

> ကျွန်မ သုံးဆယ် ပြည့်ပြီ။ ယေရှုခရစ်တော် သူ့ရဲ့ သာသနာပြုခရီး စတင်တဲ့ အသက်အရွယ်ပဲ။ ခုတော့ ကလေးဆန်တဲ့ အရာတွေ နောက်ထပ် မရှိတော့ဘူး။ အချည်းနှီးကိစ္စတွေ မရှိတော့ဘူး။ အချစ်ကိစ္စ၊ လက်ထပ်ဖို့ကိစ္စတွေ မရှိတော့ဘူး။ အခုတော့ ဘုရားသခင်က .... အသင်၏ ဆန္ဒတော်ကိုသာ ကျွန်ုပ် စဉ်းစားရပါစေသား။

ဤသည်မှာ ထိုအချိန်မှ စ၍ သူမ အမှန်တကယ် လုပ်ဆောင်လိုသည့် အတွေးအမြင် ဖြစ်သည်။ သူမ၏ပန်းတိုင် ဖြစ်သည်။ သူနာပြုလုပ်ငန်း နယ်ပယ်သို့ ရောက်အောင် ကြိုးပမ်းဆောင်ရွက်ရန်သာမက "အမျိုးသမီးများ၏ ဘဝအခြေအနေ တိုးတက်ကောင်းမွန်အောင် ကြိုးပမ်း

ရန်” ဘုရားသခင်က သူမကို အလိုရှိသည်ဟု အခိုင်အမာ ယုံကြည်သည်။ ယခုအချိန်အထိ အိမ်ထောင်မှုကိစ္စ နယ်ပယ်မှာ ကန့်သတ်ချုပ်ချယ်ထားသည်ကို လွတ်မြောက်အောင် လုပ်ရမည်ဟု ယုံကြည်သည်။ ယခုအချိန်အထိ ယောကျ်ားသားများ အတွက်သာ လမ်းဖွင့်ပေးထားသည့် အသက်မွေးဝမ်းကျောင်း လုပ်ငန်းတွေကို ဘုရားသခင်က ခေါ်၍ သူတို့ကို လုပ်ဆောင်ခွင့် ပေးသောအခါ အမျိုးသမီးတွေကလည်း အခြားသော လုပ်ငန်းများနှင့် လောကတာဝန်တွေကို လွတ်လွတ်လပ်လပ် ဝင်ရောက်လုပ်ကိုင်စေရန် သူမက တိုက်ပွဲဝင်ချင်သည်။

ကြိုးပမ်းအားထုတ်မှု မီးတောက်ကို ဖျက်ဆီးမည်ဆိုလျှင်၊ ဘုရားသခင် အပ်နှင်းထားသည့် အယူအဆ ဆုံးရှုံး ပျောက်ကွယ်စေမည်ဆိုလျှင် သူမ ကျေနပ်နိုင်မည် မဟုတ်ပေ။ အရောက်လှမ်းရမည့် ပန်းတိုင်တွေ– လူမှုရေး ဖိအားတွေဖြင့် ဖျက်ဆီး၍ မရနိုင်သည့် ပန်းတိုင်တွေ ရှိသည်။

“မိန်းမသားတစ်ယောက်ဟာ အသိဉာဏ် အလင်းရောင်ထဲမှာ မနေရဘူး” ဟု ဘုရားသခင်၏ လုပ်ငန်းနှင့်ပတ်သက်၍ ယေဘုယျအားဖြင့် သူမကိုယ်တိုင်ရော မိန်းမသားတွေပါ လွတ်လပ်ခွင့်ရရန် သူမ၏ ကြိုးပမ်းမှုနှင့် ပတ်သက်၍ ရေးထားလေသည်။

> လူမှုအဖွဲ့အစည်းက အဲဒါကို တားမြစ်ထားတာ။ မိန်းမသားရဲ့ တာဝန်တွေလို့ အမည်တပ်ထားတဲ့ အဲဒီ အစဉ်အလာ အသေးအဖွဲတွေက အဲဒါကို တားမြစ်ထားတာ။ နေရာအတော်များများမှာ မကောင်းတဲ့၊ အလေ့အထ ဖြစ်နေတဲ့၊ ကျယ်ကျယ်လောင်လောင် ပြောဆိုနေကြတဲ့ အိမ်တွင်းမှုတာဝန် ဆိုတာတွေက အဲဒီ အသိဉာဏ် အလင်းရောင်ကို တားမြစ်ထားတာ။ အဲဒီတာဝန် (သို့မဟုတ်) မကောင်းတဲ့ အလေ့အကျင့်ဆိုးတွေ ဆိုတာ ဘာလဲ။ သူမရဲ့ မိတ်ဆွေအပေါင်းအသင်းလို့ ခေါ်တဲ့ သူတွေဆီက ဘာမှ အဓိပ္ပာယ်မရှိတဲ့ စာတွေကို ပြန်ကြားခြင်း၊ မနက်စာ စားပွဲက သူမရဲ့ ပျော်ရွှင်မှု ဝေစုကို ပံ့ပိုးပေးနိုင်တဲ့ သူမရဲ့ လောကအဆင့်အတန်းကို ထိန်းသိမ်းပေးခြင်း၊ သူမရဲ့ ဧည့်ပရိသတ်ကို ရထားလုံးထဲ အရောက် တွန်းပို့ပေးနေခြင်းပဲ။

အမှန်အားဖြင့် ယင်းသည် ဖလောရင့် နေသားကျနေပြီးဖြစ်သော၊ ချမ်းသာကြွယ်ဝ၍ အားလပ်နေသော မိန်းမတစ်ယောက်၏ ဘဝပင် ဖြစ်

သည်။ ဤအနေအထားမှ သူမ၏ ပင်ကိုစွမ်းရည်ကို ဘုရားသခင် အပ်နှင်းထားသည့် အသက်မွေးဝမ်းကျောင်း အလုပ်ထဲမှာ မြှုပ်နှံရန် လွတ်လပ်ခွင့်ကို တောင့်တခဲ့သည်။

အမျိုးသမီးတွေဟာ သူတို့ရဲ့ ဘဝတွေထဲမှာ နာရီဝက်တောင် အချိန်မရဘူး။ စော်ကားမော်ကားပြုမှာ၊ တစ်စုံတစ်ယောက်ကို ထိခိုက်စေမှာကို မကြောက်ရွံ့ဘဲနဲ့ သူတို့ရဲ့ ကိုယ်ပိုင်ဘဝလို့ ခေါ်ဆိုနိုင်တဲ့ အရာ မရှိဘူး။ မိန်းမသားတစ်ယောက်ဟာ သူ့ဘာသာ ခဏတာ ထူးခြားတဲ့ အချိန်လေးတွေက လွဲလို့ ဘာကိုမှ မရဘူး။ ကျွန်မတို့က တစ်ခါတလေ မိုက်ကယ်အိန်ဂျယ်လိုကဲ့သို့ ဆစ္စတင်း ဘုရားကျောင်း အပေါ်ကို ပြေးတက်ပြီး မျက်နှာကြက်က သူ့ရဲ့ပန်းချီကားကို ထိတွေ့စေချင်ပါသလား။

ထိုအတောအတွင်းမှာ သူမက လုပ်ဆောင်ဖို့ မျှော်လင့်သည့် လုပ်ငန်း အစီအစဉ်တွေကို တွေးနေသည်။ ဆေးရုံတစ်ခု တည်ထောင်ရန်၊ သို့မဟုတ် သူနာပြုများအတွက် အသင်းအဖွဲ့ထူထောင်ရန် စသည်ဖြင့် ရန်ပုံငွေ ရှာဖွေမည့် နည်းလမ်းအသွယ်သွယ်ကို စဉ်းစားသည်။ သူမ သင်တန်းတက်ရန် လိုအပ်သည်ဟု နောက်ဆုံး ကောက်ချက်ချလိုက်သည်။ ကောင်းမွန်သော ရည်မှန်းချက်စေတနာ ဆိုသည်မှာ ပြီးပြည့်စုံသည် မရှိပေ။ အတွေ့အကြုံ ရှိရမည်။ အတွေ့အကြုံဖြင့် တည်ဆောက်ရမည်။

မမျှော်လင့်သော နေရာမှ အခွင့်အရေး ရောက်လာသည်။ ဖလောရင့်၏ အစ်မ နာမကျန်း ဖြစ်သောအခါ ဝီလျံနိုက်တင်ဂေးလ်က သမီးကို ဥရောပရှိ ကားလ်စ်ဘက် [၁] ကမ်းခြေမြို့သို့ ပို့လိုက်သည်။ အတားအဆီးများကို သဘောထားအသစ်ဖြင့် ခံယူလျက် ပါသီနှင့် သူမမိခင်တို့ ကားလ်စ်ဘက်သို့ ရောက်ရှိနေစဉ်မှာပင် ဖလောရင့်က သင်တန်းတက်ရန် ကိုင်ဇာဝါ့သ်သို့ သွားမည်ဟု ထုတ်ဖော်ပြောဆိုလိုက်သည်။

'လူတွေက ဘာပြောကြမလဲ' သူမ၏အမေက အံ့ဩစွာ ပြောလိုက်သည်။ သို့ရာတွင် လူတွေ ဘာပြောပြော၊ ဘာထင်ထင် ဖလောရင့်အတွက် အနည်းငယ်မျှ သို့မဟုတ် လုံးဝ အဓိပ္ပာယ် မရှိပေ။ သူမ ကိုင်ဇာဝါ့သ် သင်တန်းသို့ တက်ရောက်ရန် ဆုံးဖြတ်ပြီး ဖြစ်သည်။

---

၁။ Carlsbad

၁၈၅၁ ခုနှစ် ဇူလိုင်လ၊ အသက် (၃၁) နှစ် အရွယ်တွင် နှစ်ပေါင်းနှစ်ဆယ်ကျော်ကျော် ရင်ဝယ်ပိုက်ထားသည့် အိပ်မက်တစ်ခု အကောင်အထည် ပေါ်လာပြီဖြစ်သည်။ ဂျာမနီရှိ ဖလိဒနာ သင်တန်းကျောင်း၌ အောက်တိုဘာလအထိ တက်ရောက်ခဲ့သည်။ ပထမဆုံး အကြိမ်အဖြစ် အပြာရောင် ချည်ထည်တစ်စုံ၊ အဖြူရောင် ရှေ့ဖုံးခါးစည်း၊ ချည်ချော ဦးထုပ်ပျော့တို့ကို ဝတ်ဆင်ရသည်။

သူမက သက်သောင့်သက်သာ နေရဖို့ မကြိုးစား။ သင်းအုပ်ဆရာက သူမ၏စိတ်ဓာတ်ကို စမ်းသပ်သည့် အနေဖြင့် 'မင်း အဲဒီ ညစ်ပတ်နေတဲ့ ကြမ်းပြင်ကို ပွတ်တိုက်ဆေးကြောချင်မှာ မဟုတ်ပါဘူး' ဟု ပြောသောအခါ သူမက သင်းအုပ်ဆရာကို မချိုမချဉ် မျက်နှာထားဖြင့် ဖျတ်ခနဲ ကြည့်ပြီး ဆပ်ပြာနှင့်ရေကို ယူကာ ကျကျနန ပွတ်တိုက် ဆေးကြောပေးလိုက်သည်။ 'အဲဒါက တော်တော်ညစ်ပတ်တဲ့ ကြမ်းပြင်' ဟု ဝေယျာဝစ္စ ဆောင်ရွက်သူ အမျိုးသမီး တစ်ယောက်က ပြောသည်။

ဖလောရင့်က နေ့ရောညပါ သူနာပြုလုပ်ငန်းကို လုပ်ဆောင်သည်။ မူလက သူနာပြုသင်တန်းတက်ရန် လာခဲ့သူ ဖြစ်သော်လည်း ကျောင်းအလုပ် မှန်သမျှ စိတ်ပါလက်ပါ ဝင်ရောက် လုပ်ဆောင်သည်။ ဘုရားသခင်က သူမကို အင်္ဂလန်မှာ ဤကဲ့သို့ အိမ်တစ်လုံး၊ သင်တန်းကျောင်းတစ်ခု တည်ထောင်ရန် စွမ်းဆောင်ပေးလိမ့်မည်ဟု မျှော်လင့်သည်။ "ဖရောဖလိဒနာ" ထိုစီရင်စုအတွင်း ခရီးလှည့်ရာတွင် သူမလိုက်ပါသွားသည်။ လူမှုဘဝ ဖူလုံရေးလုပ်ငန်း အရပ်ရပ်သည် သူမ၏ ထက်သန်သော၊ ဝေဖန်ပိုင်းခြားတတ်သော မျက်စိရှေ့မှောက်သို့ ရောက်လာသည်။ အလုပ်ချိန်ရှည်ကြာခြင်း၊ အစားအသောက် ချို့တဲ့ခြင်းတို့က ပြင်းထန်သော တာဝန်ဝတ္တရားများ ဆောင်ရွက်ရန်အတွက် ခန္ဓာကိုယ်၏ ပျော်ရွှင်ချမ်းမြေ့မှုကို ဖြည့်စွမ်းမပေးနိုင်ပေ။

"ဒီပတ်ဝန်းကျင်က ဘဝကို စိတ်ဝင်စားစရာတွေ ဖြည့်စွမ်းပေးတယ်။ ကျွန်မရဲ့ စိတ်ရောကိုယ်ပါ ကြံ့ခိုင်လာတယ်" ဟု သူမ အမေထံ စာရေးခဲ့သည်။ "မနေ့ကအထိ ကျွန်မ အဝတ်အစားတွေ လျှော်ဖွပ်ဖို့ သွားပို့ရအောင် အချိန်တောင် မရဘူး။ ထမင်းတစ်ခါ စားဖို့အတွက် ဆယ်မိနစ်ပဲ

အချိန်ရတယ်။ လေးကြိမ် စားရတယ်။ ငါးနာရီ အိပ်ရာ ထ၊ မနက်စာအတွက် ခြောက်နာရီမထိုးမီ နာရီဝက်ပဲ အချိန်ရတယ်။

"လူနာတွေက (၁၁) နာရီမှာ စားတယ်။ စစ္စတာတွေက (၁၂) နာရီမှာ စားတယ်။ နှစ်နာရီနဲ့ သုံးနာရီကြားမှာ လက်ဖက်ရည် (ရှိင်းဂျုံမှုန့်ကို ဖျော်တဲ့ သောက်စရာ) သောက်၊ (၇) နာရီမှာ ညစာစား။ (၁၂) နာရီနဲ့ (၇) နာရီမှာ သားငါးနဲ့ ဟင်းရွက်ပြုတ်ဟင်းချို။ အဲဒါမတိုင်ခင် ပေါင်မုန့်၊ (၁၂) နာရီမှာ ဟင်းသီးဟင်းရွက်။ တစ်ပတ်မှာ သုံး လေးရက် ညပိုင်း ခန်းမကျယ်ကြီးထဲမှာ စုပြီး သမ္မာကျမ်းစာ သင်ရတယ်။ .... လူသားရဲ့ အမြော်အမြင်နဲ့ လူ့သဘာဝ အသိတရားဟာ အံ့သြဖွယ်ရာပဲ။

"ဒါဟာ ဘဝပဲ။ ခုတော့ ဘဝကို ချစ်တတ်ဖို့ ဘယ်အရာလဲ ဆိုတာ ကျွန်မ သိပြီ"

ဤသည်မှာ နာမကျန်းသူတွေ၊ ဆင်းရဲချို့တဲ့သူတွေနှင့် ပတ်သက်သည့် အမြင်ကို ဘုရားသခင် ပေးအပ်သည့် အချိန်ကတည်းက သူမ တမ်းတနေသည့် ဘဝပင်။ အခြားသူတွေအတွက် ဆောင်ရွက်ပေးနိုင်ရန် အချစ်အာရုံကို ဝမ်းသာအားရ စွန့်လွှတ်ခဲ့သည်။

ဤအလုပ်ကို မိခင် သဘောမတူသဖြင့် ဝမ်းနည်းရသော်လည်း သူမက အလုပ်မှာ ပျော်မွေ့နေသည်။ စာနာထောက်ထားမှုကို သူမ တောင့်တသည်။ နားလည်မှု – အထူးသဖြင့် သူမ မိသားစု၏ နားလည်မှုကို ရရန် ကြိုးပမ်းသည်။ အဘယ့်ကြောင့်ဆိုသော် နှလုံးသားထဲမှာ သူမသည် ချမ်းသာကြွယ်ဝသော၊ ပညာဗဟုသုတ ကြွယ်ဝသော၊ ပြည့်စုံသည့် လူမှုနောက်ခံ အခြေအနေကို ပိုင်ဆိုင်ထားသော နိုက်တင်ဂေးလ် မိသားစုဝင်တစ်ယောက် ဖြစ်နေသောကြောင့်ပင်။ သို့ရာတွင် သူမ၏ ဖခင်ကသာလျှင် သူမ၏ လိုလားတောင့်တချက်ကို နားလည်ပေးသည်။

မိခင်ထံ စာရေးသည်။

> အမေ့ဆီက အပြုံး၊ ချီးကျူးထောမနာ၊ စာနာထောက်ထားမှုတွေ ရမယ်လို့ မျှော်လင့်နိုင်ရင် ကျွန်မ ဒီနေရာမှာ တစ်နေကုန် ပျော်ရွှင်နေမိမှာ။ အဲဒါတွေ မရရင်တော့ အပြည့်အဝ မပျော်နိုင်ဘူး။ ကျွန်မ ချစ်တဲ့သူတွေ၊ ကျွန်မ အမေ ဝမ်းနည်းနေမှာကို မခံယူနိုင်ပါဘူး။ အမေ့ကို ညှို့ငင်ဆွဲဆောင်နေတဲ့ ဘဝနဲ့ ဘဝထဲက အရာရာတိုင်းကို ကျွန်မ

အတွက် အမေ အနစ်နာခံရလိမ့်မယ်။ ဒါပေမဲ့ အမေ မသိတာက ကျွန်မရဲ့ ရေဆာမှု၊ အမေ မမြင်နိုင်တာက ကျွန်မကို ကယ်မယ့်ရေတွေ။

ကျွန်မ သိတယ်။ ကျွန်မကို ကယ်ဖို့ဆိုရင် အမေတို့ကိုယ်တိုင် ကောင်းချီးပေးရလိမ့်မယ်။ ကျွန်မအပေါ် အမေ့ရဲ့ မေတ္တာဆိုတာ မိန်းမသား တစ်ယောက်ရဲ့ မေတ္တာပါပဲ။ .... ကျွန်မကို အချိန်ပေးပါ။ ယုံကြည်ပါ။ ကူညီပါ။ 'မင်းရင်ထဲက အသိတရားရဲ့ စေစားလမ်းညွှန်ချက်အတိုင်း လိုက်နာပါ' လို့ ပြောပေးပါ။ အို .... ကျွန်မ ချစ်ခင်ရတဲ့ သူတွေရယ် .... အဲဒီစိတ်ဓာတ်က အမေတို့ ချစ်ရတဲ့သူ တစ်ယောက်ကို ဘယ်တော့မှ မလျော့ကန်တဲ့ အရာတွေဆီ ဦးတည်မသွားစေနိုင်ပါဘူး။

သူမ စိတ်ထဲမှာ ဝိရောဓိက ဆက်လက် ပြင်းထန်နေသည်။ မိသားစုကို ချစ်သည့်စိတ်နှင့် ဘုရားသခင်၏ ခေါ်သံကို နာခံချင်သည့်စိတ် နှစ်ခုကြားက ဝိရောဓိပင်။ သူမ ချစ်မြတ်နိုးသူများ၏ ထောက်ပံ့မှု ဆုံးရှုံးသွားလျှင်တောင် ဘုရားသခင်၏ ခေါ်သံကို ဖြစ်သည့်နည်းနှင့် နာခံရမည်ကိုမူ သူမ သိနေသည်။

သူမ အလုပ်မှာ ပျော်မွေ့နေပြီ။ တတ်နိုင်သမျှ အားလုံးကို သင်ယူရန် စိတ်အားထက်သန်နေသော်လည်း သင်းအုပ်ဆရာ၏ လုပ်ငန်းစဉ်တွေမှာ အပြစ်အနာအဆာ ရှိသည်ကို သူမ မြင်သည်။ သူမက ပြောသည်။ 'သူနာပြုလုပ်ငန်းက ဘာမှ မဟုတ်ဘူး။ ပတ်ဝန်းကျင်နဲ့ တစ်ကိုယ်ရေ သန့်ရှင်းရေးက ကြောက်စရာ။ ဆေးရုံဆိုတာ ကိုင်ဇာဝါ့သ်ရဲ့ အဆိုးရွားဆုံး နေရာပဲ။ သင်ယူစရာရှိတဲ့ သင်တန်းအားလုံး ကျွန်မ တက်ရောက်သင်ယူခဲ့တယ်။ အင်္ဂလန်မှာ အဲဒီသင်တန်းမျိုး တစ်ခုမှ မရှိလို့။ ဒါပေမဲ့ ကိုင်ဇာဝါ့သ်ဟာ ကျွန်မကို အပြီးသတ် လေ့ကျင့်ပေးဖို့ ဆိုတာကတော့ အဝေးကြီး'

သို့ရာတွင် တစ်ဖက်က ကြည့်လျှင် "လုပ်ငန်း၏ သဘော သဘာဝက အံ့သြဖွယ် ကောင်းသည်" ကို သူမ တွေ့ရှိသည်။ သင်းအုပ်ဆရာ၏ ဟောပြောချက်များမှာ သူမ ကြားဖူးသမျှထဲမှာ အကောင်းဆုံးဖြစ်သည်ဟု ထုတ်ဖော်ပြောသည်။ ယင်းအဖွဲ့အစည်းထဲက ဘဝကို "အမျိုးသမီး တစ်ယောက်အတွက် ပိုမိုကောင်းမွန်သော ဘဝ၊ ကိုယ်ကျင့်တရားနှင့် ပတ်သက်သည့် စွမ်းအင်တွေ ရရှိရန် လေ့ကျင့်ပေးသည့်နေရာ" ဟု ဖော်ပြခဲ့သည်။ "လူသား၏ ဆောင်ရွက်မှုကို ဘုရားသခင်၏ ဆောင်ရွက်မှုအဖြစ်" လက်တွေ့ လေ့ကျင့်

ပေးနေသည်ကို သူမ မြင်တွေ့သည်။ အမျိုးသမီးတွေ တစ်ခါမျှ မရခဲ့သည့် စိတ်ဓာတ်ရေးရာ လွတ်လပ်မှု ရရှိအောင် သင်းအုပ်ဆရာက အမျိုးသမီး တွေကို ကူညီပေးနေသည်ဟု သူမ ယုံကြည်သည်။ ဤလုပ်ငန်းသည် သူမ အား အဓိကရည်ရွယ်ချက် နှစ်ခုကို ပေါင်းစပ်ပေးသည်။ သူနာပြုတစ်ယောက် ၏ လက်တွေ့သင်တန်းနှင့် အမျိုးသမီးများ ယေဘုယျအားဖြင့် ပို၍ လွတ်လပ်၊ ပို၍ ကျယ်ပြန့်သော ဘဝကို ရရှိရန် အခွင့်အရေးတို့ပင်။ သို့ရာတွင် သူမ သည် "သုခဘုံ" ကိုမူ ရေးရေးမျှသာ မြင်တွေ့ရကြောင်း သဘောပေါက် သည်။

အောက်တိုဘာလတွင် မိသားစုနှင့်အတူ အင်္ဂလန်သို့ ပြန်ရောက် လာပြီးနောက် စိတ်ပိုင်းဆိုင်ရာ အနားရလိုက်သည်။ အဘယ့်ကြောင့် ဆို သော် သင်းအုပ်ဆရာ၏ အဖွဲ့အစည်း၌ ကုန်လွန်ခဲ့သည့် အချိန်ကာလ၏ အကျိုးကျေးဇူးကြောင့် အတွင်းဝိရောဓိစိတ်မှာ ကင်းရှင်းသလောက် ဖြစ် သွားသောကြောင့်ပင်။ ထိုအချိန်တွင် သူမက စာရေးဆရာမ ဂျော့အီလိ ယော့[၁] နှင့် တွေ့ဆုံသည်။ ဂျော့အီလိယော့က သူမနှင့် ပတ်သက်၍ 'ကျွန်မ သူ့ကို အများကြီး ကျေနပ်အားရတယ်။ သူမက စိတ်ဓာတ် မြင့်မားတယ်။ သူမရဲ့ ပုံစံနဲ့ အပြုအမူက အဲဒါကို ကောင်းကောင်း ဖော်ပြနေတယ်' ဟု ပြောခဲ့သည်။ ကဗျာဆရာမ အဲလိဇဘက် ဘားရက် ဘရောင်းနင်း[၂] က ဖလောရင့်၏ ထူးခြားသော သွင်ပြင်လက္ခဏာနှင့် ပတ်သက်၍ 'သူမရဲ့ မျက်နှာ၊ ယဉ်ကျေးသိမ်မွေ့တဲ့ အမူအရာ၊ နောက်ပိုင်း ကျွန်မဆီ ပို့လိုက်တဲ့ ပန်းတွေကို ကျွန်မ သတိရနေတယ်။ သူမဟာ စိတ်အားထက်သန်တဲ့၊ မြင့်မြတ် တဲ့ အမျိုးသမီး တစ်ယောက်ပါ' ဟု ပြောဆိုခဲ့သည်။

သူမ အိမ်တွင်းမှုတာဝန်များ ပြန်လည်လုပ်ဆောင်ရသည်ကို ကျေနပ် အားရမှု မရှိပေ။ သို့ရာတွင် အိုင်ယာလန်နှင့် အခြားနေရာများရှိ ဆေးရုံ များသို့ သွားရောက်ခြင်းဖြင့် သူမ၏ သင်တန်းကို ရှေ့ဆက်ရန် ကြိုးပမ်း သည်။ အလုပ်သမား၏ ဘုရားသခင်အပေါ် ယုံကြည်မှု၊ သို့မဟုတ် အလုပ် သမား သင်တန်းများတွင် ဘာသာရေး အလေးထားခြင်း မရှိမှုအကြောင်း ဖွင့်ဟ ထားသည့် လက်ရေးမူတစ်ခုတွင် သူမ၏ သုံးသပ်ချက်ကို ဖော်ပြ ထားသည်။

၁။ **George Eliot** ၂။ **Elizabeth Barrett Browning**

နောက်ဆုံးမှာတော့ သူနာပြု အတတ်ပညာ သင်ယူရန် မိဘများ၏ သဘောတူညီချက် ရသည်။ ပါရီမြို့ရှိ ကက်သလစ်အမျိုးသမီးအဖွဲ့၏ ကြီးကြပ်မှု အောက်မှာ သင်ယူရမည်။ သင်တန်းတက်စဉ် ပါရီရှိ ဆေးရုံများကို အနီးကပ် ကြည့်ရှုစစ်ဆေးရမည် ဖြစ်သည်။ သို့ဖြစ်၍ ၃ ဖေဖော်ဝါရီ ၁၈၅၃ တွင် ပါရီသို့ ထွက်လာခဲ့သည်။ သူမ တာဝန်တွေ မဆောင်ရွက်မီ ဆေးရုံများ၊ ကျောင်းနှင့် ထောင်များရှိ လူနာဆောင်များကို စစ်ဆေးသည်။ အမျိုးသမီး ခွဲစိတ်ကု ဆရာဝန်တွေ လက်တွေ့လုပ်ဆောင်နေတာ မြင်ရသည်ကို သူမ အထူးနှစ်သက်သည်။ သို့ရာတွင် သူမ သင်တန်းတက်တော့မည့် ဆဲဆဲမှာ အဘွားဖြစ်သူ နေမကောင်းသဖြင့် သူမကို အင်္ဂလန်သို့ ပြန်ခေါ်ခဲ့သည်။

အိမ်ပြန်ရောက်သောအခါ အဖွဲ့အစည်း တစ်ခုတွင် ကြီးကြပ်သူ လုပ်ခိုင်းသည်။ ထိုအဖွဲ့အစည်းမှာ ထိုစဉ်အခါက "အမျိုးကောင်းသမီးများ" ဟု ခေါ်သည့်သူများ နာမကျန်း ဖြစ်နေစဉ် စောင့်ရှောက်ရန် တည်ထောင်ထားသည့် အဖွဲ့အစည်း ဖြစ်သည်။ နောက်ဆုံးမှာ ထိုအခြေအနေကို လက်ခံလိုက်သည်။ သို့ရာတွင် မိသားစုနှင့် ထုံးစံအတိုင်း ဆွေးနွေးငြင်းခုံပြီးမှသာ လက်ခံလိုက်ခြင်း ဖြစ်သည်။ သို့သော် အောင်မြင်မှုတွေ ရလာသည်။ ဤအဖွဲ့အစည်းကို လွန်ခဲ့သည့် နှစ်အနည်းငယ်က ကလေးထိန်း ဆရာမများနှင့် အမျိုးကောင်းသမီးများကို အကန့်အသတ်ဖြင့် ဆေးဝါးအထောက်အပံ့ ပေးရန်၊ အကူအညီပေးရန် တည်ထောင်ထားခြင်း ဖြစ်သည်။ သို့ရာတွင် အောင်မြင်သော လုပ်ငန်းတစ်ခု မဖြစ်ခဲ့ပေ။ ဖလောရင့်ကို ထိုစီမံကိန်း၏ တာဝန်ခံအဖြစ် ခန့်အပ်လိုက်သောအခါ လန်ဒန်မြို့ ဟားလေလမ်း[၁]ရှိ ဂေဟာအသစ်တစ်လုံး ဝယ်ယူလိုက်သည်။

သူမက သူငယ်ချင်းတစ်ယောက်ထံ စာရေးခဲ့သည်။

> ဟားလေလမ်းဟာ မကျန်းမာတဲ့ ကလေးထိန်း ဆရာမတွေအတွက် နာတာရှည် ဆေးကုဆောင်ပါ။ ဂုဏ်သရေရှိ အမျိုးသမီးများ ကော်မတီက အုပ်ချုပ်တယ်။ လက်ရှိ ကော်မတီဝင်တွေရဲ့ ဆန္ဒအတိုင်း ငါက ဂေဟာကို ရွေးချယ်ရတယ်။ ဂေဟာမှာ အမှုထမ်းမယ့် ဘုန်းတော်ကြီးကို ခန့်အပ်ရတယ်။ ရန်ပုံငွေ ရှာဖွေထိန်းသိမ်းရေးအဖွဲ့ ဖွဲ့ပေးရတယ်။

---

၁။ Harley Street

ဒါပေမဲ့ ပရောဖက် ဟေရှာယ[1] ကိုယ်တိုင်တောင် သူတို့ ခုည (၈) နာရီမှာ ဘယ်လို စိတ်အနှောင့်အယှက်ပေး ခံရမယ်ဆိုတာ ကြိုတင် မပြောနိုင်ဘူး။

ဆယ်ရက်အကြာတွင် ဂုဏ်သရေရှိ အမျိုးသမီးများနှင့် ကတောက် ကဆ ဖြစ်သည်။ ဤအကြောင်းကို ပါရီက သူမ၏မိတ်ဆွေ မဒမ်မိုးလ် ထံသို့ စာရေးခဲ့သည်။

ငါ အလုပ်ဝင်နေတာ ဆယ်ရက်ရှိပြီ။ အဲဒီအချိန်မှာ လုံးဝ ဘာမှ မရှိတဲ့ အိမ်ထဲကို ပရိဘောဂတွေ ထည့်သွင်း ခင်းကျင်းပြီးပြီ။ ငါက ကက်သလစ်ဂိုဏ်းက လူနာတွေကို မင်္ဂလာ မနက်ခင်းပါလို့ နှုတ်ဆက် ပြီးတာနဲ့ ငါ့ရဲ့ ကော်မတီက ဂျူးတွေနဲ့ သူတို့ရဲ့ ဓမ္မဆရာကို လက်မခံ ရင် ကက်သလစ် လူနာတွေကိုယည်း လက်မခံရဘူးလို့ ကန့်ကွက်ကြ တယ်။ အခုတော့ အဲဒီကိစ္စ ဖြေရှင်းပြီးပါပြီ။ ဘယ်ဘာသာရေး ဂိုဏ်းကွဲ မဆို လက်ခံရတယ်။ သူတို့ရဲ့ ခရစ်ယာန်ဘုန်းတော်ကြီးတွေ၊ မွတ် စလင် ဘာသာရေး ခေါင်းဆောင်တွေ လာတာကိုလည်း လက်ခံ ရတယ်။ ရှုံ့ရှာဖွယ် တိရစ္ဆာန်ကို တံခါးဝမှာ ငါ လက်ခံမယ် ဆိုရင်ပေါ့။ ပြီးတော့ သူ့ကို လည်ပတ် ကြိုးချည်ပြီး လမ်းပေါ် ပြန်ဆွဲခေါ်ရမယ်ပေါ့။ အာမင် ... လူသားမျိုးနွယ် အားလုံးနဲ့ မရိုးသားမှု အားလုံး ... ဘုရား သခင်က တို့ကို ဖြန့်ဝေပေးထားတာပဲ။

ဤနေရာတွင် ဖလောရင့် ဘဝတစ်လျှောက်လုံး အမှတ်ရနေမည့် သင်ခန်းစာတစ်ခုကို ရရှိလိုက်သည်။ နောက်ပိုင်းတွင် သူမကို "ဗိုလ်ချုပ် ကြီး၊ သို့မဟုတ် သံတမန် ဖြစ်ဖူးသင့်သည့် မိန်းမတစ်ယောက်" အနေဖြင့် မကြာခဏ ဖော်ပြသည်။ သံခင်းတမန်ခင်း အတတ်ပညာဖြင့် သူမ၏ သင်တန်းတွင် မည်သို့ လက်ခံရသည်ကို ကျွန်ုပ်တို့အား ပြောပြသည်။ တစ်ခါတွင် ကော်မတီဝင် အမျိုးသမီးတွေက ထော်လော်ကန့်လန့် လုပ် သောအခါ သူမက သစ္စာခိဋ္ဌာန် (၅) ချက်ကို ရေးဆွဲပြီး သမားတော်တို့၏ လုပ်ငန်းစဉ်အဖြစ် အခိုင်အမာ ပြောဆိုလိုက်သည်။

ကျွန်မ ဒီနေရာကို ဝင်လာတဲ့အချိန်မှာ ဘယ်တော့မှ မလျော်ညြဓာ မသုံးဘူးလို့ ဆုံးဖြတ်ထားတယ်။ အခုတော့ ကျွန်မရဲ့ လုပ်ငန်းအားလုံး

၁။ Isaiah

ကို မလျော်ကန်တဲ့နည်းနဲ့ လုပ်ဆောင်နေရတယ်လို့ သတိမူမိတယ်။ ... အကြောင်းအရာ ငါးချက်နဲ့ ပတ်သက်လို့ သစ္စာခံဠာန်ကို ဖြစ်မြောက်အောင် ရေးဆွဲပြီး ဆေးလောကသားများထံမှ ရရှိတဲ့အနေနဲ့ တင်ပြခဲ့တယ်။ အဲဒီ သစ္စာခံဠာန်တွေဟာ ဆေးလောကသားတွေဆီက လာတာမဟုတ်ဘဲ၊ ကျွန်မဆီက လာတယ် ဆိုတာကို လုံးဝ ပြောမပြဘဲ ကော်မတီတစ်ဖွဲ့လုံး ဆောင်ရွက်နိုင်အောင် အဆိုပြုခဲ့တယ်။ နောက်တော့ အဲဒီ သစ္စာခံဠာန်တွေကို ကော်မတီမှာ အတည်ပြုပြီးပြီလို့ ပြောမပြဘဲ ဆေးလောကသားတွေကို ပြသခဲ့တယ်။ ပုန်ကန်ထကြွမှု တစ်ရပ်ကနေ တော်လှန်ရေးတစ်ရပ်ကို ဆင်နွှဲနိုင်တဲ့ အောင်မြင်မှုပဲလို့ ပြောကြတယ် ...။

'ဆေးလောကသားတွေက အဲဒီ သစ္စာခံဠာန် အားလုံးကို လက်ခံကြတယ်။ သူတို့ရဲ့ ကိုယ်ပိုင် သစ္စာခံဠာန်လို့တောင် ထင်မှတ်ကြတယ်'

သူမ အလုပ်တွေကို စိတ်အားထက်ထက်သန်သန် လုပ်ဆောင်နေစဉ်မှာပင် သူနာပြုလုပ်ငန်းကို ကြီးကြပ်ခြင်း၊ အဖွဲ့အစည်းကို ထိန်းသိမ်းခြင်း၊ ဘဏ္ဍာရေးကိစ္စများ ဆောင်ရွက်ခြင်းဖြင့် ဂေဟာကို အောင်မြင်စွာ စီမံအုပ်ချုပ်နိုင်ခဲ့သည်။ ခွဲစိတ်ခန်း အသုံးစရိတ်ကိုလည်း ထက်ဝက်နီးပါး လျှော့ချနိုင်ခဲ့သည်။ သူမ ဘဝတွင် ပထမဆုံး အနေဖြင့် လုံးဝ ကျေနပ်နှစ်သက်မှုကို ရရှိခဲ့သည်။ မိသားစုနှင့်အတူ ခေတ္တ အနားယူချိန်နှင့် ပတ်သက်၍ 'ဒါဟာ ကျွန်မအိမ်က ထွက်ခွာဖို့ ခြေလှမ်းစပြီ ဆိုပြီး အနက်ရှိုင်းဆုံး အတွေး၊ အပြည့်ဝဆုံး အသိပေးခြင်းနဲ့ လုပ်ဆောင်လိုက်တာပဲ။ ဘယ်လိုပဲ ဖြစ်ဖြစ် လက်ခံရမယ့်အရာ၊ ဆုံးဖြတ်ပြီးတဲ့ ကိစ္စပဲ' ဟု ပြောပြသည်။

ဟားလေလမ်း၌ ကြိုးပမ်းလုပ်ဆောင်မှုများသည် သူမကို အောင်မြင်မှုသရဖူ ဆောင်းပေးခဲ့သည်။ နာမည်ကျော် ဘုရင့်ကောလိပ် ဆေးရုံက သူနာပြုများအား ကြီးကြပ်သူအဖြစ် လုပ်ဆောင်ရန် သူမကို ဖိတ်ခေါ်သည်။ ၁၈၅၄ ခုနှစ် ဆောင်းဦးရာသီ၏ နံနက်ခင်းစောစော တစ်ခုတွင် ဤအလုပ်သစ်ကို လုပ်ဆောင်ရန် သူမ၏ နှလုံးသားကို တိုက်တွန်းပြီးချိန်၌ တိုင်းမ်သတင်းစာကို ဖတ်ရင်း မကြာမီက အင်္ဂလန်ကို အထိတ်တလန့် ဖြစ်စေသည့် ခရိုင်းမီးယား စစ်ပွဲအကြောင်း ရှေ့တန်းစစ်မျက်နှာ သတင်းထောက် ဝီလျံ ဟောင်းဝဲဒ် ရပ်ဆဲလ်[၁] ပေးပို့သည့် သတင်းတစ်ပုဒ်ကို ဖတ်လိုက်

၁။ **William Howard Russell**

ရသည်။ ဤအခိုပွာယ် ပြည့်ဝသော စကားလုံးများက ဘုရားသခင်၏ အလိုတော်အဖြစ် သူမကို လမ်းညွှန်သွားရန် အသုံးချလိုက်သည်။

သတင်းထောက်က "အံ့သြခြင်း၊ ဒေါသထွက်ခြင်း ခံစားချက်များဖြင့် ဤသတင်းကို ရေးသားလိုက်ရပေသည်။ ဒဏ်ရာရသူများအား သင့်လျော်သော ပြုစုကုသရေးအတွက် လုံလောက်သော ကြိုတင်ပြင်ဆင်မှုများ ပြုလုပ်မထားသည်ကို လူထုအနေဖြင့် သိစေချင်ပါသည်။ အနာဆေးထည့်၍ ပတ်တီးစည်းပေးမည့်သူနှင့် သူနာပြုများ မရှိရုံသာမက လူနာတွေအတွက် ပတ်တီးလုပ်ရန် ဖျင်စတောင် မရှိပေ။ ... သာမန်ခွဲစိတ်ကုသမှုအတွက် ကြိုတင်ပြင်ဆင်မှု မရှိ။ အချို့ကိစ္စများတွင် ဒဏ်ရာရသူ အနီးသို့ ဆေးဘက်ဆိုင်ရာ ပုဂ္ဂိုလ်တွေ အကူအညီပေးရန် ရောက်မလာကြဘဲ ထားရသည်။ ဝေဒနာ မချိတင်ကဲ ခံစားရပြီး သေဆုံးသွားအောင် လျစ်လျူရှု ပစ်ထားခံရသည်။ ခွဲစိတ်ဆရာဝန် လူနာလှည့်ကြည့်သည့် အချိန်တွင် ဆရာဝန်ကို တွယ်မိတွယ်ရာ ဖမ်းကိုင်၍ အကူအညီ တောင်းသော်လည်း ဗြိတိသျှစစ်တပ်၏ ဆေးဝန်ထမ်းများကြောင့် သေရမည်သာ ဖြစ်သည်။ ဒဏ်ရာရသူတွေကို ပတ်တီးစည်းပေးရန် အဝတ်စုတ်တွေ လိုအပ်သည်ကို မေ့လျော့နေသောကြောင့်ပင်။" ဟု ရေးသားထားသည်။

ထိုသတင်းကို ဖတ်ရင်း ဖလောရင့်၏ မျက်လုံးတွေ ရီဝေလာသည်။ စာရေးဆရာ၏ နိုင်ငံတော်သို့ စိန်ခေါ်မှုကြောင့် သူမ နှလုံးသားတွေ ဖြောင်းဆန်သွားတော့သည်။ "အရှေ့ဘက် စကူတာရီ[၁] ဒေသက ဆေးရုံတွေဆီမှာ နာမကျန်းဖြစ်ပြီး ဝေဒနာခံစားနေရတဲ့ စစ်သည်တော်တွေကို ပြုစုဖို့ ရှေ့တန်းကို သွားနိုင်တဲ့၊ သွားချင်တဲ့၊ မိမိအချိန်နဲ့ စွမ်းအင်တွေကို မြှုပ်နှံချင်တဲ့ အမျိုးသမီးတွေ ကျွန်တော်တို့ နိုင်ငံမှာ မရှိကြဘူးလား။ အရေးပေါ်လိုအပ်နေတဲ့ အချိန်ကာလမှာ အင်္ဂလန်က သမီးပျိုတွေ ဒီလို ကရုဏာလုပ်ငန်းအတွက် တစ်ယောက်မှ အသင့် မဖြစ်ကြဘူးလား"

ခုတော့ ဖလောရင့်၏ အချိန်ကာလပင်။ သူမ ရင်ထဲမှာ စိတ်ဓာတ်ရေးရာအရ နှစ်ပေါင်းနှစ်ဆယ်လောက် ကြိုတင်ပြင်ဆင်ခဲ့ရသည့် အချိန်ကာလပင်။ ယခုအခါ သူမသည် ဆေးရုံများနှင့် ရင်းနှီးကျွမ်းဝင်နေပြီဖြစ်ပြီး၊ သူနာပြုသင်တန်းအတွက် လိုအပ်သော အရာတွေကို ရရှိနေပြီဖြစ်သည်။

၁။ Scutari

ဟားလေလမ်း ကော်မတီမှ အမျိုးကောင်းသမီးများက လိမ္မာပါးနပ်အောင်၊ သံခင်းတမန်ခင်း ဆက်ဆံတတ်အောင် သူမကို ထူးခြားပြောင်မြောက်သော သင်တန်းတွေ ပေးပြီးပြီ။ ဘုရားသခင်ကလည်း ကျယ်လောင်ပြတ်သားစွာ နှိုးဆော်နေပြီ။ သတင်းထောက်၏ စိန်ခေါ်မှုကို ထ၍ တုံ့ပြန်ရန် ဖလောရင့် အသင့် ဖြစ်နေပေပြီ။

"ဟုတ်တယ်။ စကူတာရီက နာမကျန်း စစ်သည်တော်တွေကို ပြုစုဖို့ ရှေ့တန်းကို သွားချင်တဲ့၊ သွားနိုင်တဲ့၊ မိမိအချိန်နဲ့ စွမ်းအင်တွေကို မြှုပ်နှံချင်တဲ့ အမျိုးသမီးတွေ ကျွန်မတို့အထဲမှာ ရှိပါတယ်။ ကျွန်မ ဒီမှာပါ ဘုရားသခင်၊ ကျွန်မကို ပို့ပေးပါ"

အခက်အခဲတွေနှင့် ပိတ်ဆို့နေသည့် ကွေ့ကောက်သော လမ်းကလေးသည် အဝေးပြေး လမ်းမကြီးအဖြစ် ရုတ်ခြည်း ပြောင်းလဲသွားတော့သည်။ ပရောဖက် ဟေရှာယ လှလှပပလေး ဟောကြားခဲ့သည့် မြင့်မြတ်သော အဝေးပြေးလမ်းမကြီး ...။ "လူသား၏ ဝန်ဆောင်မှုကို ဘုရားသခင်၏ ဝန်ဆောင်မှုအဖြစ် စည်းရုံးသိမ်းသွင်းလိုက်သည့်" အဝေးပြေး လမ်းမကြီးပင်။ ဤအဝေးပြေး လမ်းမကြီးမှာ ချီတက်ရန် သူမ အသင့်ဖြစ်နေပြီ။ ဤအချိန်ကာလအတွက် သူမ ကြိုတင်ပြင်ဆင်ခဲ့ရသည်။ ဤခဏတာအတွက် သူမ တောင်းဆု ဆိုခဲ့ရသည်ပင်။

## အခန်း [ ၅ ]

## ခရိုင်းမီးယားရောက် ဘုရားသခင်၏ သူနာပြုဆရာမ

သတင်းစာထဲက စိန်ခေါ်သံ သတင်းကို ဖတ်နေစဉ် ဖလောရင့် မှင်တက်လျက် ထိုင်နေမိသည်။ သူမက အင်္ဂလိပ် အမျိုးသမီး၊ ဤလုပ်ငန်းအတွက် သင်တန်းတက်ခဲ့သူ ဖြစ်သည်။ သို့ဖြစ်၍ မေးခွန်းတစ်ခုကို ချက်ချင်းပင် သူမဘာသာ မေးလိုက်သည်။ ***ဒီလို အရေးပေါ် ကိစ္စအတွက် ဘုရားသခင်က ငါ့ကို ကြိုတင်ပြင်ဆင် ပေးထားတာလား။*** သူတို့က ခရိုင်းမီးယားမှာ သေလုမြောပါး ဖြစ်နေပြီ– တရားမျှတသော အင်္ဂလန်၏ သားကောင်းများ– သူတို့ သေလုမြောပါး ဖြစ်နေချိန်မှာ သူတို့ကို ကူညီ ဖေးမဖို့ထက် သူမ ဘာမျှ မလုပ်နိုင်ဘူးလား။

၁၈၅၄ ခုနှစ် နွေဦးရာသီမှာ ရုရှားနှင့် ဖြစ်ပွားသည့် စစ်ပွဲအကြောင်းကို ထပ်၍ဖတ်ရသည်။ အောက်တိုဘာလတွင် အယ်လ်မာ[၁] အောင်ပွဲသတင်းကြောင့် တစ်နိုင်ငံလုံး ဝမ်းမြောက်ဝမ်းသာ ဖြစ်ရသည်။ စစ်ပွဲ မကြာခင် အဆုံးသတ်ရန် ယေဘုယျ သဘောတူညီချက် ရပြီ။ သတင်းစာတွေက ဤထင်မြင် ယုံကြည်ချက်ကို ဖြန့်ဝေပေးနေသည်။ သို့ရာတွင် နာမကျန်းသူနှင့် သေအံ့မူးမူး စစ်သည်တွေ လျစ်လျူရှု ခံနေရသည် ဆိုသော ရပ်ဆဲလ်၏ ကြေညာချက်ကြောင့် ဖလောရင့် ထိတ်လန့်သွားသည်။ ရှေ့တန်းစစ်မြေပြင်မှ သတင်းတွေက ဝင်လာမစဲ တသဲသဲ။ သူမက ထိုသတင်းတွေကို မနှစ်မြို့စွာ ဖတ်နေရသည်။ နောက်တော့ မနှစ်မြို့ရာ ဒေါသတွေ ဖြစ်လာရသည်။

---

၁။ Alma

ဒီနေရာက ဒဏ်ရာရ စစ်သားတွေရဲ့ အခြေအနေ ဆိုးရွားလှပုံကို သင်တို့ စဉ်းစား၍ ရနိုင်မည် မဟုတ်ပါ" ဟု စစ်မြေပြင်က စာတစ်စောင် ထဲမှာ ရေးထားသည်။ "စစ်တန်းလျားမှာ လဲလျောင်းနေရတဲ့ စစ်သားက သုံးထောင်။ သူတို့ကို ပြုစုကုသမည့် သူနာပြု မရှိ။ ဆရာဝန်တောင် မရှိ။ တိုက်ပွဲဖြစ်ပြီး သုံးရက်အကြာမှာ သူတို့ရဲ့ ဒဏ်ရာတွေကိုတောင် ဆေးကြောသုတ်သင်မှု မလုပ်နိုင်ဘဲ စစ်တန်းလျားမှာ ချထားခဲ့ရတဲ့ သနားစရာ သတ္တဝါတွေရဲ့ အကြောင်းကို ကျွန်တော် ပြောပြရလျှင် သင်တို့ အခြေအနေကို ပိုနားလည်ပါလိမ့်မည်။ သင့်လျော်တဲ့ ပြုစုကုသ မှု လိုအပ်ချက်ကြောင့် ဖြတ်တောက် ကုသလိုက်ပြီးတဲ့နောက် သူတို့ အများစု သေဆုံးသွားကြသည်။

အခြေအနေတွေက ဤကဲ့သို့ ဖြစ်နေချိန်မှာ သက်သောင့်သက်သာ နေထိုင်ဖို့ တွေးလိုက်သည်နှင့် ဖလောရင့် စိတ်ထဲမှာ စက်ဆုပ်နေမိသည်။ သူနာပြုတစ်ယောက် ဖြစ်ဖို့ ဆုတောင်းခဲ့သည်။ လမ်းစကို ကြိုးစားရှာဖွေ ခဲ့သည်။ ယခုတော့ ဤနေရာသည် သူမ၏ ကိုယ်ရည်ကိုယ်သွေးကို အသုံး ချနိုင်သည့် လုပ်ငန်းနယ်ပယ်တစ်ခု ဖြစ်သည်။

သူမ နောက်ထပ် ဖတ်ရှုရသည်မှာ–

(ဒဏ်ရာရသူများကို စကူတာရီသို့ သယ်ဆောင်လာသည့်) သင်္ဘောပေါ်၌ ဝမ်းလျှားမှောက် လဲကျနေသော စစ်သားတွေ တစ်စင်းလုံး ပြည့်နေသည်။ ...သင်္ဘောအရာရှိတွေမှာ သင်္ဘောတည်နေရာ ရှာဖွေသည့် ကိရိယာကို ယူရန် အောက်ထပ်သို့ ဆင်း၍ မရနိုင်အောင် ဖြစ်နေသည်။ အန္တရာယ်ကြားမှာ သင်္ဘောကို မောင်းနေရသည်။ အဆိုးရွားဆုံး ဝေဒနာ ရှင်တွေကို အပေါ်ထပ် ကုန်းပတ်ပေါ်မှာ ချထားသည်။ တစ်ရက်၊ နှစ်ရက် အတွင်းမှာပင် အော်ဂလီဆန်စရာတွေ တပုံတပင် ဖြစ်လာသည်။ ကုသမှု မခံရသည့် သေနတ်ဒဏ်ရာများမှ လောက်တွေ တဖွားဖွား ထွက်လာပြီး နေရာအနှံ့ လျှောက်သွားနေကြသည်။ အစားအစာတွေထဲ ရောဂါပိုး တွေ ဝင်နေသည်။ အော်ဂလီဆန်စရာ သတ္တဝါတွေကြောင့် အနံ့အသက် ဆိုးတွေ ထွက်လာသဖြင့် သင်္ဘောသားတွေနှင့် အရာရှိတွေမှာ သတိလစ် မတတ် ဖြစ်သွားကြပြီး ကပ္ပတိန်မှာ စိတ်သောက ဖိစီးသဖြင့် နေမကောင်း

ဖြစ်နေသည်။ စောင်တွေအားလုံး (၁၅၀၀ လောက်) ဖုံးအုပ်ထားသော်လည်း အချည်းနှီးပင်။

အုန်းအုန်းကျွက်ကျွက် အောင်ပွဲခံ အော်ဟစ်သံတွေ ပျောက်ကွယ်သွားပြီး ပွက်ပွက်ညံအောင် အကူအညီ တောင်းခံသံတွေ အစားထိုး နေရာယူလာသည်။ နိုင်ငံရှိ ကော်မတီ အဖွဲ့အစည်းတွေ အားလုံး စကူတာရီရှိ ဒဏ်ရာရ စစ်သားတွေကို ကူညီရန် လှုံ့ဆော်နေကြသည်။ ငွေကြေးများ ထည့်ဝင်လှူဒါန်းကြပြီး အဖွဲ့အစည်းတွေက လုပ်အားပေး ဆောင်ရွက်ကြသည်။ သို့ရာတွင် ဦးဆောင်ဦးရွက် ပြုမည့်သူတစ်ယောက်ကို ဆင့်ခေါ်သံက ပို၍ ကျယ်လောင်နေသည်။ ဆေးရုံက သူနာပြု နားနေခန်းထဲမှာ ထိုင်နေစဉ် ဖလောရင့်သည် နိုင်ငံတော်၏ စိန်ခေါ်သံကိုသာမက ဤလုပ်ငန်းကို လုပ်ဆောင်ရန် ဘုရားသခင်၏ ဆင့်ခေါ်သံကိုပါ ကြားနေရသည်။ ကောင်းကင်ဘုံ၏ သဘောထားကို သူမ မနာခံ၍ မဖြစ်တော့ပေ။ နှစ်ရက်အတွင်း ထွက်ခွာရန် အစီအစဉ် ပြုလုပ်ရတော့သည်။

စစ်တန်းလျားသို့ အဓိက သူနာပြုအဖြစ်၊ ခေါင်းဆောင်အဖြစ် ထွက်ခွာသွားသည့် သတင်းမှာ နိုင်ငံတစ်ဝန်းလုံးရှိ လူတိုင်း၏ နှုတ်ဖျားတွင် ပြောစမှတ် ဖြစ်နေသည်။ နောက်ပိုင်းမှာ ခရစ်ယာန်ဘုန်းတော်ကြီး မန်းနင်းဖြစ်လာသူ ဟင်နရီ အီးမန်းနင်း[၁] က ဖလောရင့်အကြောင်း သိထားသဖြင့် သူမကို ခေါင်းဆောင်အဖြစ် သတ်မှတ်ရန် အကြံပြုသည်။ လေဒီ ဖောရက်စတာက ထိုစီမံကိန်းအတွက် ဒေါ်လာတစ်ထောင် လှူဒါန်းပြီး ဖလောရင့်ကို ခေါင်းဆောင်အဖြစ် ရွေးချယ်ရန် တောင်းဆိုသည်။

ဖလောရင့်က သူမအား ခေါင်းဆောင်ခန့်ထားခြင်းကို တက်တက်ကြွကြွ ခံယူပြီးနောက် ထိုအချိန်က စစ်ဝန်ကြီးဖြစ်သူ ဆစ်ဒနီ ဟားဘတ်[၂]ထံ စာရေးသည်။ (တစ်ချိန်တည်းမှာပင် ဆစ်ဒနီ ဟားဘတ်ကလည်း သူမထံ စာရေးသည်ကို နောက်ပိုင်းမှ သူမ သိရသည်။) "စကူတာရီအတွက် ကိုယ်ပိုင် ခရီးသွား အဖွဲ့တစ်ခုကို စည်းရုံးဖွဲ့စည်း ပြီးပါပြီ။ အဲဒီအဖွဲ့ကို ကျွန်မကို အုပ်ချုပ်ခိုင်းပါတယ်"။ ထိုအချိန်က ခင်ပွန်းသည်မှာ လန်ဒန်ပြင်ပသို့ ရောက်နေသည့် လေဒီ ဟားဘတ်ထံသို့ ရေးသည့် စာထဲမှာ ဖလောရင့်က သူမ၏ နှလုံးသားကို ဖွင့်လှစ်ပြထားသည်။ သူနာပြုများ

၁။ Henry E. Manning ၂။ Sidney Herbert

ရွက်လွှင့်ထွက်ခွာရန် အသင့်ဖြစ်နေပြီ ဖြစ်ကြောင်း၊ ဆစ်ဒနီ ဟားဘတ်၏ တရားဝင် ခွင့်ပြုမိန့်ရရန် ကြိုးစားနေကြောင်း ပြောပြသည်။

သူမက ဆက်ရေးထားသည်။ "စီမံချက်နဲ့ ပတ်သက်ပြီး မစ္စတာ ဟားဘတ် ဘာပြောသလဲ။ အာဏာပိုင်တွေက ကန့်ကွက်မယ်လို့ သူ ထင်သလား။ သူ ကျွန်မတို့ကို အကြံဉာဏ်တစ်ခုခု ပေးမလား။ ဒါမှမဟုတ် ထောက်ခံစာ ရေးပေးပါ့မလား။ ဆေးရုံနဲ့ ပတ်သက်ပြီး သူ လေ့လာဆည်းပူးထားတဲ့ အရာတွေထဲက ကျွန်မတို့ကို ထုတ်နုတ် အကြံပြုစရာတွေ ရှိပါသလား။"

လာမည့် အင်္ဂါနေ့တွင် ထွက်ခွာတော့မည့်အကြောင်း၊ ကွန်စတန်တီနိုပယ်[၁] သို့ ထွက်ခွာမည့် မာဆေး[၂] သင်္ဘောဖြင့် လိုက်ပါရန် စီစဉ်ထားကြောင်း စစ်ဝန်ကြီးထံ သတင်းပို့သည်။ "ကျွန်မရဲ့ သူနာပြုတွေကို ကွန်စတန်တီ နိုပယ်မှာ ထားခဲ့မယ်။ စကူတာရီကို ဆေးဝန်ထမ်း တစ်ဖွဲ့လုံး သွားရင် လူနာတွေ ရွှင်မြူးတက်ကြွသွားတာထက် ထိတ်လန့်ကုန်ကြလိမ့်မယ် ဆိုပြီး အမျိုးသမီး အဖွဲ့တစ်ဖွဲ့က ဝေဖန်ပြစ်တင်ကြမယ် ထင်လို့။ ကျွန်မ မည်သူမည်ဝါဖြစ်ကြောင်း အထောက်အထားကို သံရုံးမှာ တင်ပြဖို့ သံရုံးက တစ်ယောက်ယောက်နဲ့ စကူတာရီကို ကျွန်မသွားပြီး ဆရာဝန်တွေ အလိုရှိတဲ့အတိုင်း ကျွန်မတို့ကိုယ်တိုင် လုပ်ဆောင်ပါ့မယ်"

လေဒီ ဟားဘတ် သို့မဟုတ် သူမ၏ ကော်မတီဝင် တစ်ယောက်ယောက်က လုပ်ငန်းနှင့် အကျုံးဝင်သော သူမ၏ အရည်အချင်းများကို ဖော်ပြ ထောက်ခံပေးသည့် စာတစ်စောင် ရေးပေးပါရန် တောင်းဆိုသည်။ လေဒီ ဟားဘတ် အနေနှင့် "သူမသည် ဂုဏ်သရေရှိ အမျိုးသမီးတစ်ယောက် ဖြစ်ရုံသာမက စစ်မှန်သော ဆေးရုံသူနာပြုတစ်ယောက် ဖြစ်ပါသည်။ သူမ မှာ အတွေ့အကြုံ ရှိပါသည်။ ..." စသည်ဖြင့် ထုတ်ဖော်ပြောကြား ပေးစေချင်သည်။

စစ်ဝန်ကြီးက လန်ဒန်မြို့ပြင်ပ ရောက်နေသဖြင့် သူမ၏စာကို ချက်ချင်း မရရှိသော်လည်း တစ်ချိန်တည်းမှာပင် ဝန်ကြီးက ဖလောရင့်ထံ စာရေးသည်။ စာထဲ၌ ဖော်ပြထားသည်မှာ-

ဒီလို စီမံချက်မျိုးကို စည်းရုံးနိုင်မယ့်၊ ကြီးကြပ်နိုင်မယ့် စွမ်းဆောင်

---

၁။ Constantinople ၂။ Marseilles

ရည် ရှိသူဟာ ကျွန်တော် သိသမျှ အင်္ဂလန်မှာ တစ်ယောက်တည်းပဲ ရှိပါတယ်။ ကြိုးပမ်းအားထုတ်မှုတွေ လုပ်မယ် ထင်လို့ အဲဒီကိစ္စနဲ့ ပတ်သက်ပြီး ခင်ဗျား ဦးဆောင်ပြီး တာဝန်ယူ လုပ်ဆောင်နိုင်ပါ့မလား လို့ စိတ်ကူးထဲမှာမှန်းပြီး ခင်ဗျားကို သုံးလေးကြိမ် မေးကြည့်ခဲ့ဖူးပါ တယ်။

သူနာပြုတွေ တသီကြီး ရွေးချယ်ဖို့၊ ရာထူးအဆင့် ခွဲဖို့ ကိစ္စတွေ က အလွန်ခက်မှာပါ။ .... နောက်ဆုံးမှာ လုပ်ငန်းခွင်နဲ့ ကိုက်ညီတဲ့ အမျိုးသမီးတွေ တွေ့ရှိဖို့ အခက်အခဲတွေက စိတ်ပျက်စရာ အပြည့်ပဲ။ အသိပညာနဲ့ စိတ်ကောင်းရှိဖို့အပြင် ကြီးမားတဲ့အင်အား၊ ကြီးမားတဲ့ သတ္တိတွေ အများကြီး လိုအပ်လိမ့်မယ်။ သူတို့ကို အုပ်ချုပ်ဖို့ကိစ္စ၊ သူတို့ တွေကြားမှာ နည်းစနစ်တွေ အစပျိုးပေးဖို့ လုပ်ငန်းတွေက အများကြီးပဲ။ ဆေးဘက်ဆိုင်ရာ တာဝန်ရှိသူတွေနဲ့အတူ အဲဒီမှာ အဆင်ပြေပြေ ချောချော မွေ့မွေ့ ဖြစ်အောင် လုပ်ဆောင်ဖို့ကလည်း အခက်အခဲ အများကြီးပဲ။

အဓိကအချက်နှင့် ပတ်သက်၍ ဝန်ကြီးက "ကိစ္စအဝဝ သွားရောက် ကြီးကြပ်ရေး တောင်းဆိုချက်" ကို သူမ နာခံမည်လားဟု ဖလောရင့်အား တိုက်ရိုက်ပင် မေးမြန်းသည်။ သူက ဆက်လက်ရေးထားသည်။ "စီမံချက် ရဲ့ အဆုံးစွန် အောင်မြင်မှု၊ ဆုံးရှုံးမှုဟာ သင့်ရဲ့ဆုံးဖြတ်ချက် အပေါ်မှာ မူတည်နေတယ်။ သင့်ရဲ့ ကိုယ်ပိုင်အရည်အသွေး၊ အသိပညာ၊ စီမံအုပ်ချုပ်မှု စွမ်းအား ၊ ... လူမှုအသိုက်အဝန်းထဲက သင့်ရဲ့ အဆင့်အတန်းနဲ့ အခြေ အနေ တွေက တခြား ဘယ်သူမှ လုပ်နိုင်စွမ်းမရှိတဲ့ ဒီလိုလုပ်ငန်းမျိုးမှာ သင့်အတွက် တစ်ပန်းသာစေမှာပါ။"

ဤကဲ့သို့ ဘေးကျပ်နံကျပ် ကာလတွင် အမျိုးသမီးများအတွက် ပညာရပ်နယ်ပယ် တစ်ခုကို တည်ထောင်ရန် ဖလောရင့် အခြေခံကျကျ လုပ်ဆောင်နေသည်။ စစ်ဝန်ကြီးက "ဤစီမံချက် အောင်မြင်ရင် မှန်မြတ်တဲ့ စိတ်စေတနာကောင်းတွေ အများကြီး မွေးထုတ်ပေးနိုင်မှာပဲ။ အာဃာတ တရားတွေ ကျိုးပျက်သွားလိမ့်မယ်။ လူကောင်းသူကောင်းတွေ အမြဲတစေ ဆထက်ထမ်းပိုး တိုးပွားစေမယ့် အစဉ်အလာတစ်ခု တည်ဆောက်နိုင်လိမ့် မယ်" ဟု ယုံကြည်သည်။

ဖလောရင့်က မိဘများအား အစီအစဉ်ကို ပြောပြသောအခါ ချက်ချင်း

ပင် သဘောတူကြသည်။ သူမကိုယ်တိုင် ရွေးချယ်သတ်မှတ်ထားသည့် အသက်မွေးဝမ်းကျောင်း လုပ်ငန်းနှင့် ပတ်သက်၍ သူတို့ သဘောထားတွေ ပြောင်းလဲသွားပြီ ဖြစ်သောကြောင့်ပင်။ ပါသီက ပြောသည်။

'ကျွန်မ အနူးအညွတ် တောင်းပန်သင့်ပါတယ်။ အစိုးရက ဖလောရင့်ကို နိုင်ငံ့ပြင်ပထွက်ပြီး စကူတာရီ ဆေးရုံမှာ အကူအညီပေးဖို့ တောင်းဆိုတယ်။ သင်တို့အနေနဲ့ ဒါဟာ ကြီးကျယ်မြင့်မြတ်တဲ့ လုပ်ငန်းတစ်ခု၊ တကယ်စစ်မှန်တဲ့ တာဝန်တစ်ခုအဖြစ် ခံစားရမယ်ဆိုတာ အသေအချာပဲ။ ဘာ့ကြောင့်လဲဆိုတော့ ဒီလို ခြေလှမ်းတစ်ခုကို အောင်မြင်အောင် လုပ်ဆောင်ဖို့ လိုအပ်တဲ့ အသိပညာနဲ့ ဖွဲ့ရှိတဲ့သူဟာ သူမကလွဲလို့ ဘယ်သူမှ မရှိဘူးဆိုတာ ကျွန်မ တကယ့်ကို ယုံကြည်တယ်။ အရာအားလုံးဟာ သူမဆီကို အတော်လေး ဦးတည်နေတယ်။ သူမနဲ့ အံကိုက်ဖြစ်နေတယ်လို့ ပြောရမှာပါ။ ဘာ့ကြောင့်လဲဆိုတော့ ဒီလုပ်ငန်းအတွက် သူမကို ဘုရားသခင်က ရည်ရွယ်ရွေးချယ်ထားတယ် ဆိုတာ ယုံကြည်ရုံမှတစ်ပါး အခြားမရှိနိုင်လောက်အောင် အင်မတန် အံ့သြစရာကောင်းတဲ့လုပ်ငန်း ဖြစ်လို့ပါပဲ'

ဖလောရင့်၏ အလုပ်နှင့်ပတ်သက်သော ဤသဘောထားသည် သူတို့မိသားစု ယခင်က ကိုင်စွဲထားသည့် သဘောထားနှင့် သိသိသာသာ ခြားနားနေသည်။ ပါသီ ပြောသည်မှာ အမှန်ပင်။ ဤလုပ်ငန်းအတွက် သူမကို ဘုရားသခင်က ရည်ရွယ်ထားသည်။ ယင်းသည် ဘုရားသခင်၏ ခေါ်သံ၊ ဘုရားသခင်၏ ကြိုတင်ပြင်ဆင်မှု၊ အရေးပေါ် ကိစ္စအတွက် ဘုရားသခင်၏ ဦးဆောင်မှုပင်။ ဘုရားသခင်၏ အချိန်နာရီက အချက်ပေး တီးခတ် နေပြီ။ ဖလောရင့်ကလည်း အသင့်ဖြစ်နေပြီ။

ထွက်ခွာရန် ပြင်ဆင်မှုကို ငါးရက်အတွင်း လုပ်ဆောင်ပြီးပြီ။ သို့ရာတွင် သူမက တည်ငြိမ်အေးဆေးနေသည်။ တုန်လှုပ်မှု မရှိ။ စွမ်းရည်တွေ ပြည့်နေပြီ ဖြစ်သည့် ပါသီက ဤအကြောင်းကို ရေးဖွဲ့တင်ပြထားသည်။

> သူမက တည်ငြိမ်အေးဆေးနေသည်။ စစ်ရုံး၊ စစ်ဘက်ဆိုင်ရာ ဆေးဘုတ်အဖွဲ့၊ လန်ဒန်က သူနာပြုတစ်ဝက်၊ သူမ၏ ကော်မတီ အဖွဲ့အစည်းတို့နှင့် စကားပြောဆိုရာမှာ စိတ်တိုစရာ အားလုံးကို ထိန်းချုပ်လျက် အလျင်အမြန် လုပ်ဆောင်နေသည်။ သူမ လုပ်ဆောင်ပုံက လမ်းလျှောက် ထွက်မည့် ပုံစံမျိုးပင်။

ထိုအချိန်ကာလနှင့် ပတ်သက်၍ သူမ၏ သူငယ်ချင်းတစ်ယောက်က ပြောပြခဲ့သည်။ 'သူမမှာ အဲဒီလို သတ္တိနဲ့ စွမ်းရည်တွေ ရှိတယ်။ အမြော်အမြင်ရှိပြီး တည်ငြိမ်အေးဆေးတယ်။ သူမလက်ထဲမှာ လုပ်ဆောင်စရာတွေ အများကြီး၊ လုပ်အားပေးဖို့ ဆန္ဒပြုကြတဲ့သူတွေ အများကြီး ရှိပေမဲ့ သူမက ပျာယာခတ်မနေဘူး။ ဖုတ်ပူမီးတိုက် ဖြစ်မနေဘူး'

မိမိ ဆန္ဒအလျောက် လိုက်ပါရန် လျှောက်ထားသူတွေက အမြောက်အမြားပင်။ လူတန်းစား အသီးသီး၊ ဘဝအခြေအနေ မျိုးစုံမှ လျှောက်လွှာတွေ ရောက်လာသည်။ ခရစ်ယာန်ဘုန်းတော်ကြီး၏ သမီးဖြစ်သူ မေရီစတန်လီ[၁] က ဤသို့ ရေးထားသည်။ "နောင်အချိန်မှာ ရွေးချယ်ခံ အမျိုးသမီးတွေနဲ့ ပတ်သက်ပြီး မကျေမနပ် ပြောသူတွေအားလုံး ကျွန်မတို့ ရွေးချယ်ထားသူတွေဟာ ဘယ်အသိုင်းအဝိုင်းကလဲ ဆိုတာ မြင်တွေ့နိုင်ပါစေလို့ ကျွန်မ ဆုတောင်းပါတယ်။ လန်ဒန်တစ်ဝန်းလုံးမှာ ပိုက်စိပ်တိုက်ရှာဖွေခဲ့ရတယ်။ ကျွန်မတို့ အိမ်တွင်းအောင်းနေရမှာကို ရှက်လို့ အခုလိုရောက်လာကြတာပဲ။ ရည်ရွယ်ချက် ကောင်းကောင်းနဲ့သွားဖို့ ဆန္ဒပြုသူကတစ်ယောက်တည်း ရှိတယ်။ ငွေကြေးက တစ်ခုတည်းသော မက်လုံးပဲ။"

ဖလောရင့် အနေဖြင့် ဤပြဿနာကို ကြိုမြင်ပြီး ဖြစ်သည်။ ထိုနည်းတူစွာ ကြီးကြပ်ရေးဆိုင်ရာ အခက်အခဲကိုလည်း မျှော်လင့်ထားပြီး ကြိုတင်ပြင်ဆင်ထားသည်။ သို့ဖြစ်၍ ဦးရေ (၂၀) မျှ ကန့်သတ်ထားခြင်းက ပို၍သင့်လျော်မည်ဟု တွေးမိသည်။ သို့ရာတွင် စစ်ဝန်ကြီးက သူမကိုကျော်၍ ဦးရေ (၄၀) ရွေးချယ်လိုက်သည်။ နောက်ဆုံးမှာ အမျိုးသမီး (၃၈) ယောက် ရွေးချယ်ခံရသည်။ အခြားသော ပြဿနာတွေ ထပ်တက်လာပြန်သည်။ ဘုရားကျောင်းအုပ်စုက ကိုယ်စားပြုသူများကို သူတို့အသိုင်းအဝိုင်းအတွင်းမှသာ ကန့်သတ်ရွေးချယ်ရန် တိုက်တွန်းကြသည်။ သို့ရာတွင် ဘာသာရေး ခွဲခြားသတ်မှတ်မှု မရှိစေရဟု တုံ့ပြန်လိုက်ရသည်။ ဤလုပ်ငန်းနှင့်ပတ်သက်၍ ဟိုက်အင်္ဂလီကန်[၂]နှင့် ရိုမန်ကက်သလစ် ဂိုဏ်းများအားလက်ခံသည့်အတွက် အခွင့်အာဏာ နည်းပါးသည့် လိုးချာ့(ချ်)[၃] ဘုရားကျောင်းငယ်တွေက သူမကို ကန့်ကွက်ကြသည်။

သင်တန်းဆင်းပြီး အမျိုးသမီးများ လုံခြုံစိတ်ချရစေရန် ဆန္ဒဖြင့်

၁။ Mary Stanley ၂။ High Anglicans ၃။ Low Church

"သူနာပြုများအတွက် ပရိတက်စတင့် အင်စတီကျူ" နှင့် အထက်အင်္ဂလိကန် ဂိုဏ်းမှ "စိန့်ဂျွန်းကျောင်း" ကို အသုံးပြုသည်။ တချို့အုပ်စုတွေက သူနာပြုများအား အမျိုးသမီး တစ်ယောက်၏ အုပ်ချုပ်မှုအောက်မှာ၊ အထူးသဖြင့် ဖလောရင့် နိုက်တင်ဂေးလ်၏ လက်အောက်မှာ ရှိရမည်ဆိုသည့် အချက်ကို ကန့်ကွက်ကြသည်။ ဘာသာရေးဂိုဏ်းကွဲတွေ အသေးအဖွဲ့ကိစ္စ ငြင်းခုံနေချိန်၊ ဂိုဏ်းဂဏအစွဲဖြင့် ပြစ်တင်ရှုတ်ချနေချိန် အတွင်းမှာ အမြော်အမြင်ရှိသော ဘုန်းတော်ကြီးတစ်ပါးက မှတ်ချက်ချသည်။

'မစ္စ နိုက်တင်ဂေးလ်ကို အင်မတန် ရှားရှားပါးပါး ဂိုဏ်းကွဲတစ်ခုက ပိုင်ဆိုင်တယ်။ ဒုက္ခသည် ကူညီစောင့်ရှောက်ရေး ဂိုဏ်းပေါ့'

စစ်တပ်ပြဿနာက စိတ်ကသိကအောက် ဖြစ်စရာ ဖြစ်လာပြန်သည်။ အမျိုးသမီးများအား စစ်ဆေးရုံ၌ စတင်အသုံးချခြင်းသည် အင်္ဂလန်၏ တင်းကျပ်သော ရိုးရာဓလေ့ထုံးစံများနှင့် ဆန့်ကျင်ဖီလာ ဖြစ်နေသောကြောင့်ပင်။ စစ်ခေါင်းဆောင်တစ်ဦးက ဤစီမံချက်ကို ကန့်ကွက်၍ ငေါ်တော့တော့ ပြောသည်။ 'နောက်ဆိုရင် အမျိုးသမီးတွေက ကျုပ်တို့ကို စစ်တိုက်ဖို့ သင်ပေးချင်တော့မှာ'

ကြိုးနီစနစ်ကို အမြဲတမ်း ဖြတ်တောက်သူ၊ ပြဿနာ၏ အရင်းအမြစ်ကို ကျော်လွှားနိုင်သူ ဖလောရင့်က စွန့်၍ လုပ်ဆောင်ရမည့် သူမနှင့် ဆိုင်သော ကိစ္စများအားလုံး သူမ လက်ထဲမှာ ရှိသင့်သည်ဟု နည်းလမ်းကျကျ အနိုင်အမာ ပြောသည်။ ဒါဇင်ဝက် ရှိသော အုပ်စု သို့မဟုတ် ကော်မတီ သို့မဟုတ် ဌာနဆိုင်ရာ အကြီးအကဲများကို လုပ်ပိုင်ခွင့်အာဏာ ပေးအပ်လိုက်သောအခါ အချို့သော အခက်အခဲတွေ ပေါ်လာသည်ကို သူမ သိသည်။ လုပ်ငန်းနှင့်ပတ်သက်၍ ဖလောရင့်၏ အရည်အသွေးကို ကောင်းစွာသိသော ဆာဟားဘတ်[၁] က သူမအတွက် ဤကဲ့သို့ လုပ်ပိုင်ခွင့်အာဏာကို ကာကွယ်ပေးရန် သူကိုယ်တိုင် တာဝန်ယူလိုက်သည်။ သို့ဖြစ်၍ အစိုးရက သူမကို တူရကီရှိ အင်္ဂလိပ် အထွေထွေ စစ်ဆေးရုံ၌ အမျိုးသမီး သူနာပြုအဖွဲ့၏ ကြီးကြပ်သူအဖြစ် တရားဝင် ခန့်အပ်လိုက်သည်။ ဖလောရင့် အနေဖြင့် ဟန်ပြဘွဲ့ထူး တစ်ခုကို စိတ်ရှည်သည်းခံစွာ လက်ခံနိုင်ပါ၏။ သူမအတွက်တော့ ဤဘွဲ့ထူးသည် လေ့ကျင့်တတ်မြောက်ပြီးသော၊ ကျွမ်းကျင်

၁။ Sir Herbert

သော သူနာပြုများကို စကူတာရီရှိ ဒဏ်ရာရသူများအား ပြုစုရန် ခေါ်ဆောင်လာခြင်း ဟူသော သာမန်အဓိပ္ပာယ် ဆောင်ရုံမျှသာပင်။ သူမက အခက်အခဲသို့မဟုတ် တာဝန်ဝတ္တရားဟူ၍ သဘောမထားဘဲ သစ္စာရှိစွာ အလုပ်လုပ်ရန် ဆုံးဖြတ်ထားပေသည်။

မိန်းမသားတစ်ယောက်ကို ဤကဲ့သို့ ရာထူးတာဝန် ခန့်အပ်လိုက်သည့် အစိုးရ၏ မကြုံစဖူး လုပ်ရပ်ကြောင့် ဖလောရင့် နိုက်တင်ဂေးလ်အကြောင်း၊ ဘာ့ကြောင့် သူမ ဤအခွင့်အရေး ရသလဲဆိုသည့် အကြောင်းတွေကို လေ့လာစုံစမ်းကြသည်။ မိန်းမသားတစ်ယောက်ကို စစ်ဆေးရုံမှာ သူနာပြုအဖြစ် ခန့်ထားခြင်းကို အင်္ဂလန်နိုင်ငံက မသင့်လျော်ဟု ယူဆထားသည်။ အများလက်ခံထားသော အယူအဆမှာ မိန်းမသားတွေသည် လုံးဝ အသိဉာဏ်နည်းသဖြင့် ဤလုပ်ငန်းကို တာဝန်ယူ လုပ်ဆောင်နိုင်မှာ မဟုတ်။ ရုပ်ပိုင်းဆိုင်ရာလည်း ပျော့ညံ့သဖြင့် စစ်သားတွေ၏ ဒဏ်ကို သည်းခံနိုင်မှာ မဟုတ်ဟု ထင်ကြသည်။ သို့ရာတွင် သတင်းစာတွေက သူမ၏ လူမှုရေး အဆင့်အတန်း၊ ပညာအရည်အချင်းနှင့် ထူးချွန်မှုတွေကို ဖော်ထုတ်ပေးလိုက်ခြင်းဖြင့် ဖလောရင့်ကို ကူညီ ဖေးမ ပေးလိုက်သည်။

"မစ္စ နိုက်တင်ဂေးလ်သည် ဘုရားသခင်က ပြောင်မြောက်သော အဆုံးသတ် ကိစ္စများကို ပုံဖော်ပေးခံရသည့် မိန်းမသားတွေထဲက တစ်ယောက် ဖြစ်သည်" ဟု အယ်ဒီတာ့အာဘော် တစ်ခုမှာ ဆိုထားသည်။

> သူမသည် အံ့မခန်း ထူးခြားသော လူသားတစ်ယောက် ဖြစ်သည် ဆိုသော ခံစားချက် မရှိလျှင် သူမ ပြောသည့် စကားတစ်ခွန်း၊ နှစ်ခွန်းကိုပင် သင်တို့ ကြားနိုင်လိမ့်မည် မဟုတ်။ သည့်ထက်မက သူမကို ကြည့်တောင် ကြည့်နိုင်ကြလိမ့်မည် မဟုတ်ပေ။ ရိုးသားသော၊ အသိဉာဏ် ကြွယ်ဝသော၊ နှစ်လိုဖွယ်ကောင်းသော၊ မေတ္တာတရားနှင့် သဒ္ဓါတရား အပြည့်အဝရှိသော သူမသည် စိတ်ဝင်စားဖွယ် ကောင်းသော၊ ပကတိ ပြည့်စုံကောင်းမွန်သော အမျိုးသမီးတစ်ယောက် ဖြစ်သည်။ အရပ်ရှည်၍ ဖြူဖျော့ဖျော့ အသားအရေ ရှိသည်။ မျက်နှာက အလွန်ချစ်စရာ ကောင်းသည်။ သို့ရာတွင် ထိုအရာအားလုံးထက် ပို၍ ထူးကဲသည်က သူမ၏ မျက်နှာပေါ်မှာ ရွှန်းလဲ့ တောက်ပနေသော စိတ်နှလုံး၏ ဂုဏ်ကျက်သရေပင်။ သူမ၏ အပြုံးထက် မည်သည့်အရာမျှ

ပို၍ ချီးသာနိုင်မည် မဟုတ်ပေ။ ဤအပြုံးမှာ နွေရာသီ နေသာသော နေ့တစ်နေ့ပမာပင်။

ခရီးထွက်ရမည့်နေ့ ရောက်သောအခါ သူမ၏ မိတ်ဆွေ သူငယ်ချင်းများထံမှ စာတွေ အများကြီး လက်ခံရရှိသည်။ ထိုအထဲက စာနှစ်စောင်မှာ သူမ၏ နှလုံးသားကို နက်နက်ရှိုင်းရှိုင်း ထိရိုက်သွားသည်။ တစ်စောင်က ဆာဟင်နရီ အီးမန်းနင်း[၁] ၏စာ။ "ဘုရားသခင်က မင်းကို ထိန်းကျောင်းပေးပါလိမ့်မယ်။ မင်းရဲ့ ကြည်ညိုလေးစားဖွယ်ရာ ဆောင်ရွက်မှု၊ အတုယူစရာ စံနမူနာ၊ အားပေးနှစ်သိမ့်မှုနဲ့ ခွန်အားတွေရဲ့ အရင်းအမြစ်တွေဟာ တို့ဘုရားသခင်ရဲ့ အလေးအမြတ် ထားစရာ စိတ်နှလုံး ဖြစ်ပါစေလို့ ဆုတောင်းပေးနေပါတယ်။" အခြားစာတစ်စောင်မှာ သူမအတွက် အရာအားလုံးထက် အလုပ်က ပို၍ အရေးပါသည်ဟု ဆိုကာ ဆုတ်ခွာခဲ့သည့် တစ်ခါတုန်းက သူမ ချစ်ခဲ့ဖူးသူထံမှ စာပင်။

> မင်း အရှေ့ဘက်ကို ခရီးထွက်မယ်လို့ ကိုယ် ကြားတယ်။ အဲဒီလို ဆိုရင် ကိုယ် ဝမ်းသာပါတယ်။ မင်း အဲဒီမှာ လုပ်ဆောင်မယ့် ကောင်းမြတ်တဲ့ အရာတွေအတွက်ကြောင့်ပေါ့။ အဲဒီလုပ်ငန်းမှာ မင်းကိုယ်တိုင် ကျေနပ်နှစ်သက်မှုတွေ တွေ့ရှိမယ်လို့ ကိုယ် မျှော်လင့်ပါတယ်။ အရင်တစ်ခါတုန်းက အရှေ့ဘက်ကို မင်း သွားခဲ့တာ ကိုယ် မမေ့နိုင်ပါဘူး။ အခုတော့ မင်း ဆောင်ရွက်မယ့် အရာတွေအတွက် ကိုယ်က တည်တည်ငြိမ်ငြိမ်နဲ့ စာရေးနေရပြီ။ မင်း ကိုယ့်ဘဝထဲကို မဝင်ရောက်နိုင်ပေမဲ့ အဲဒီကိစ္စကိုတော့ တာဝန်ယူ ဆောင်ရွက်နိုင်မှာပါ။ ချစ်သူငယ်ချင်းရေ ... မင်း ဘယ်ကိုသွားသွား ဘုရားသခင် ကောင်းချီးပေးပါစေ။

ဤစာကို ဖလောရင့် ကွယ်လွန်ပြီးနောက် သူမ၏ အဖိုးတန် အမှတ်တရ လက်ဆောင်တွေထဲမှာ တွေ့ရှိရခြင်း ဖြစ်သည်။ မေတ္တာတရားနှင့် တာဝန်အရ ရွက်လွှင့်သွားရသည့် ဤခရီးစဉ်အတွင်းမှာ ဖလောရင့်အနေဖြင့် ဝမ်းနည်းဝမ်းသာ ခံစားရမည်ပင်။ ဝမ်းနည်းရခြင်းမှာ မြင့်မြတ်သော မိတ်ဆွေတစ်ယောက်ကို စွန့်ခွာခဲ့ရ၍။ ဝမ်းသာရခြင်းမှာ မြင့်မြတ်သော ခရီးစဉ်၌ သူမကိုယ် သူမ နှစ်မြှုပ်ထားရ၍ ဖြစ်သည်။

သူနာပြု (၃၈) ယောက်အပြင် သူမနှင့်အတူ ကြိမ်ဖန်များစွာ ခရီး

---

၁။ Sir Henry E. Manning

အတူ သွားခဲ့ဖူးသော၊ ဘုန်းတော်ကြီးနှင့် ညှော်လမ်းညွှန်ဖြစ်သူ မစ္စတာနှင့် မစ္စစ် ဘရေ့စ်ဘရစ်ချ်တို့ လိုက်ပါလာသည်။ ဖလောရင့်၏ ဦးလေး ဆမ်မြူယယ် စမစ်[၁] က မာဆေးအထိ ဤအဖွဲ့နှင့်အတူ ပါလာသည်။ ပြင်သစ်နိုင်ငံကို ဖြတ်ရသော ခရီးတွင် သူတို့အဖွဲ့ကို ချီးကျူးထောမနာ ပြုကြသည်။ စစ်ပွဲတွင် ပြင်သစ်က အင်္ဂလန်၏ မဟာမိတ် ဖြစ်သောကြောင့်ပင်။ ပေါ်တာလိုက်သူတွေ၊ ဟိုတယ်တွေက အခကြေးငွေ မယူဘဲ ခရီးသည်တွေအတွက် ဝန်ဆောင်မှု ပေးကြသည်။ ရှေ့တန်းမှာ ချစ်ခင်နှစ်သက်ရသူတွေ ရောက်နေသော သက်ဆိုင်သူတွေက စုပြုံရောက်လာကြပြီး သူတို့သား၊ သူတို့ချစ်သူ၊ သူတို့ ခင်ပွန်းသည်တွေအတွက် ဖလောရင့်ထံ အမှာစကားပါးရန် ကြိုးစားကြသည်။

'ကျွန်မရဲ့ ပီယာရီလေ ... ရှင် သူ့ကိုတွေ့ရင် ... ချစ်စရာ ... သူငယ်လေးပါ ...' စသည့် စကားသံတွေ။ 'ယောက်ျားပီသတဲ့သူ၊ ကျွန်မရဲ့ ယောကျ်ား၊ အမြဲတမ်း ပြုံးနေတတ်တဲ့သူပေါ့။ သူ့ကို ပြောပေးပါ' စသည့် စကားသံတွေကို ဖလောရင့် ကြိမ်ဖန်များစွာ ကြားနေရသည်။ ကိုယ့်နိုင်ငံမှ အဝေးသို့ ရောက်ရှိနေသည့် စစ်သည်တော်တွေအတွက် အမှာပါးသူတို့၏ မေတ္တာစကားသံတွေကို တစ်ပိုင်းတစ်စ ဝါကျများအဖြစ် ကရားရေလွှတ် တတွတ်တွတ် ကြားနေရသည်။ ဤသတင်းစကားတွေက အိမ်မှာ ကျန်ရစ်သူ မိန်းမသားတွေ၏ ကြေကွဲနာလုံးသား ဝေဒနာများပင်။

ဖလောရင့်၏ ဦးလေးက ဤခရီးစဉ်နှင့်ပတ်သက်၍ ရေးထားသည်မှာ ဤသို့ပင်။

> လူ (၄၀) ကို သဘောထားကြီးစွာ ထိန်းသိမ်းရသည်မှာ ဖလောရင့် အတွက် အလွန်ခက်ခဲသော အလုပ်ပင်။ ညစာ အကြာကြီး ထိုင်မစားမီ ညစဉ်ညတိုင်း ငါးယောက် တစ်ခန်းစီအိပ်ရန် စီစဉ်ပေးရ။ မနက် ၆ နာရီ လုပ်ငန်းစဖို့ အသင့်ဖြစ်ရန် အောက်သို့ ခေါ်ချရသည်။ သူမက ကိစ္စအဝဝကို အံ့သြဖွယ်ကောင်းစွာ တာဝန်ယူ ဆောင်ရွက်ရသည်။ တည်တည်ငြိမ်ငြိမ်ဖြင့် လူတိုင်းအပေါ် လွှမ်းမိုးနိုင်သည်။ သူမကို ဘယ်နေရာမှာ မြင်ရမြင်ရ၊ ကြားရကြားရ၊ နေရာတိုင်းမှာ လေးစားချီးကျူးမှုမှ တစ်ပါး အခြား မရှိပေ။ သူမ၏ တည်ငြိမ်အေးဆေးသော

---

၁။ Samuel Smith

ဣန္ဒြေက လူတိုင်းကို လွှမ်းမိုးနိုင်သည်။ သူနာပြုတွေက သူမကို ချစ်ခင်ကြမှာ လုံးဝ သေချာပါသည်။

အခြားစာတစ်စောင်တွင် သူမ၏ ဦးလေးက သူတို့အဖွဲ့ထံ စုပြုံရောက်လာကြသည့် လူအုပ်တွေနှင့် ပတ်သက်၍ ရေးထားသည်။ "ဈေးဆိုင်ရှင်တွေ၊ ဧည့်သည်တွေ၊ သူနာပြုတွေ၊ အစေခံတွေက မိနစ်တိုင်း ရောက်လာကြသည်။ စစ်ဆေးရေး အရာရှိချုပ်၊ ကောင်စစ်ဝန်နှင့် ကိုယ်စားလှယ်၊ မိဖုရားကြီး၏ သံတော်ဆင့်၊ တိုင်းမ်သတင်းထောက်နှင့် ဈေးဆိုင်ရှင် နှစ်ယောက် သုံးယောက် ...။ အားလုံးကို တည်တည်ငြိမ်ငြိမ် ဣန္ဒြေရစွာဖြင့် ဧည့်ခန်းထဲမှာ တွေ့ဆုံရသလို တွေ့ဆုံသည်။ ကျွန်တော်တို့နှင့် မနက်စာ၊ ညစာ အတူတကွ စားပြီးနောက်၊ သူမ၏ စေတနာရှေ့ထား ဆက်ဆံမှုကို ခံရပြီးနောက် ခပ်ကြမ်းကြမ်း ဆေးရုံသူနာပြုတွေမှာ လူပီသ သွားကြတော့သည်။ 'အရင်က တို့တွေရဲ့ ကိုယ်စိတ်နှစ်ပါး ချမ်းသာအောင် ဂရုစိုက်တာ တစ်ခါမှ မခံခဲ့ရဖူးဘူး' ဟု သူတို့က ပြောသည်။ 'မစ္စ နိုက်တင်ဂေးလ်က တို့အတွက် ပင်ပင်ပန်းပန်း မနားတမ်း သူကိုယ်တိုင် လုပ်မယ်လို့ မထင်ခဲ့ဘူး'

ဤကဲ့သို့ ပင်ပင်ပန်းပန်းဒုက္ခ လုပ်ရခြင်းသည် ဖလောရင့်အတွက် ပျော်စရာ ဖြစ်သည်။ သူမသည် "ဒုက္ခသည် ကူညီစောင့်ရှောက်ရေးဂိုဏ်း" ၏ နောက်လိုက်တစ်ယောက် ဖြစ်သည်။ ဆင်းရဲချို့တဲ့သူ အားလုံးအပေါ် သူမကိုယ်သူမ လွတ်လွတ်လပ်လပ် အပ်နှင်းရသည်ကို ပျော်မွေ့နေသည်။ ယင်းသည် တစ်ပါးသူတို့ သက်သာ ပျောက်ကင်းစေနိုင်ရေးအတွက် စွန့်လွှတ်အနစ်နာခံခြင်း ယဇ်ပလ္လင်ပေါ်မှာ သူမ၏ ဘဝကို ပေးလှူရန် စေ့ဆော်နေသည့် တစ်ကိုယ်ကောင်းမဆန်၊ အတ္တမဆန်သော စိတ်ဓာတ်ပင်။

မာဆေးသို့ ရောက်သောအခါ ဆေးတပ်ဖွဲ့၏ အကြံဉာဏ်ကို လက်မခံဘဲ သူမ မြော်မြော်မြင်မြင် တွေးထားသည့်အတိုင်း အိပ်ရာ၊ ဆေးပစ္စည်းနှင့် အစားအစာ စသော အထောက်အပံ့ပစ္စည်း များစွာကို သူမ၏ ကိုယ်ပိုင်အသုံးစရိတ်ထဲမှ ဝယ်ယူထောက်ပံ့ပေးသည်။ ဖလောရင့်၏ မိန်းမပီသသော ဗီဇစိတ်နှင့် လက်တွေ့ ခံစားချက်တို့က ဤကဲ့သို့လုပ်ဆောင်ရန် တောင်းဆိုနေသည်။ စစ်ဆေးရုံလုပ်ငန်း အကြောင်းကို မသိသော်လည်း လူ့သဘာဝကို သိနားလည်ထားသဖြင့် အနာဂတ် လိုအပ်ချက်များကို အလျင်အမြန်

ကြိုတင်မျှော်မှန်းထားပြီး ဖြစ်သည်။ နောက်ပိုင်း အဖြစ်အပျက်တွေက သူမ၏ အမြော်အမြင်ရှိမှုနှင့် စွမ်းဆောင်ရည်ကို သက်သေပြခဲ့သည်။

ဗက်တစ်[၁] သင်္ဘောဖြင့် ကွန်စတန်တီနိုပယ်သို့ သွားရသည့် ခရီးစဉ်သည် ရေကြောင်းခရီးစဉ်တွင် ပထမဆုံး စတင်ကြုံတွေ့ရသော ခရီးကြမ်း ဖြစ်သည်။ ဤအမျိုးသမီး သူနာပြုအဖွဲ့ ဆိပ်ကမ်းသို့ ၄ နိုဝင်ဘာ ၁၈၅၄ ဆိုက်ရောက်ချိန်တွင် အခြေအနေ ဆိုးဆိုးဝါးဝါးတွေကို သူတို့ ကြုံတွေ့ရသည်။ သူတို့ရှေ့မှာ အခြေအနေဆိုးတွေ အများကြီး ရှိနေသည်။ ကြောက်မက်ဖွယ် အင်ကာမန်း[၂] တိုက်ပွဲ မဖြစ်မီ တစ်ရက်မှာ သူတို့ ရောက်ရှိသွားပြီးနောက် ဆယ်ရက်အကြာမှာ ပို၍ပြင်းထန်သော ဘာလာကလာဗာ[၃] တိုက်ပွဲ ဖြစ်ပွားသည်။ ထိုအခါ သွေးစွန်းသော နိဒါန်းအစကို သူတို့ လက်ခံ ဆောင်ရွက်ရလေသည်။

အိမ်သို့ရေးသည့် စာထဲမှာ ဖလောရင့်က ဤသို့ ပြောထားသည်။

> မနေ့က ၆ နာရီမှာ ကျွန်မ ကုန်းပတ်ပေါ် ဒယီးဒယိုင် လျှောက်ရင်း ထရွိုင်[၄] လွင်ပြင်တွေ၊ အာချီးလီ[၅] ရဲ့ သင်္ချိုင်းဂူ၊ တင်နီဒိုး[၆] ဆိပ်ကမ်းတို့ကို ကြည့်ရတယ်။ အဲဒါတွေနဲ့ ပင်မ ကမ်းခြေရဲ့ကြားမှာ ကျွန်မတို့ရဲ့ ဗက်တစ်က စားပွဲထိုးတွေရဲ့ အခန်းနဲ့ မီးဖိုခန်းတွေ ပြိုပျက်ပြီး တကျိုကျို တဝုန်းဝုန်း တဒိုင်းဒိုင်း မြည်သံတွေနဲ့ လွင့်စဉ်ထွက်နေတယ်။ ... ခုမနက် ကွန်စတန်တီနိုပယ် ရောက်ချိန်မှာတော့ မိုးက သဲသဲမဲမဲနဲ့ တအုန်းအုန်း ရွာချနေတယ်။ ဘာလာကလာဗာဆီက သတင်းဆိုးတွေလည်း ကြားရတယ်။ ဒဏ်ရာရတဲ့ သူတွေကို ကျွန်မတို့ရဲ့ ပြုစုစောင့်ရှောက်မှုအောက်မှာ ထားရတော့မယ်လို့ ကျွန်မ ယုံကြည်နေတယ်။ အခု သူတို့ ရောက်လာကြတော့မယ်။

ပြင်သစ်မှ ထွက်ခွာလာသည့် (၈) ရက်တာ ခရီးတွင် သူနာပြုများ သက်သောင့်သက်သာဖြစ်အောင် ဆောင်ရွက်ပေးရသည့်အပြင် ရှေ့မှာ ကြုံတွေ့ရမည့် လုပ်ငန်းတွေကိုလည်း ချင့်ချိန်စဉ်းစား လာခဲ့သည်။ ဘာမှန်း မသိသော်လည်း ကြိုမြင်နေရသည့် နောက်ဖြစ်လာနိုင်ဖွယ် အခြေအနေများကို ရပ်တည်ကာကွယ်ပေးရန် ကွန်ရက်သဖွယ် ရက်ယှက်နေသည့်

---

၁။ Vectis  ၂။ Inkerman  ၃။ Balaclava  ၄။ Troy
၅။ Achilles  ၆။ Tenedos

အစီအစဉ်များကို ကြိုတင်စဉ်းစားထားခဲ့သည်။ သို့ရာတွင် သူမကို စောင့်ကြိုနေသည့် အရာတွေကိုမူ စိတ်ကူးအိပ်မက်ထဲမှာ အနည်းငယ် မြင်ယောင်နေသည်။ သွေးတွေ၊ သေအံ့မူးမူး စစ်သည်တော်တွေ၏ အော်ဟစ်သံ ငိုကြွေးသံတွေ၊ ဒဏ်ရာရသူများ၏ ညည်းတွားသံတွေ။

ခရိုင်းမီးယားစစ်ပွဲ အတွင်း၌ စကူတာရီ သို့မဟုတ် ၎င်းနှင့် အနီးဝန်းကျင်မှာ ဗြိတိသျှ အဓိကဆေးရုံလေးခု ရှိသည်ကို ဖလောရင့် သိသည်။ အထွေထွေဆေးရုံကြီး၊ စစ်တန်းလျားဆေးရုံ၊ နန်းတော်ဆေးရုံနှင့် စကူတာရီမှ သုံးလေးမိုင်ခန့်ဝေးသည့် ကူးလားလီ [၁] ရှိ ဆေးရုံ သို့မဟုတ် ဒဏ်ရာရသူများကို ထားသည့်ရုံအဖြစ် အသုံးပြုသော အဆောက်အအုံများ။ ရဲရင့်သော အမျိုးသမီးနှင့် သူမ၏ သူနာပြုအဖွဲ့သည် စစ်တန်းလျားဆေးရုံသို့ ချက်ချင်း ထွက်လာခဲ့ကြသည်။ ယခုကဲ့သို့ သွေးစွန်းနေသည့် ရှုခင်းကို လှပသည်ဟု ဆိုနိုင်လျှင် ဆေးရုံသည် မာမိုရာပင်လယ် [၂] နှင့် ဘော့စ်ဖိုးရပ် [၃] ရေလက်ကြားတို့ကို မြင်နိုင်သည့် တောင်စောင်းတစ်ခုပေါ်မှာ လှပစွာ တည်ရှိနေပေသည်။ ပတ်ဝန်းကျင် နောက်ခံရှုခင်းကို ခံဖားရန် အချိန်မရသော်လည်း သူမက ယင်းမြင်ကွင်းကို "ကမ္ဘာပေါ်မှာ အလှဆုံးရှုခင်း" ဟု ဖော်ညွှန်းထားသည်။

ဒဏ်ရာရသူများအား နေရာအကျယ်ဝန်းဆုံး ပေးနိုင်ရန်အတွက် သူနာပြုများက ရနိုင်သမျှ အခန်းကျဉ်းကျဉ်းလေးကိုသာ နေရာယူထားသည်။ သို့ဖြစ်၍ အမျိုးသမီးများ၏ နေရာများမှာ သက်သောင့်သက်သာမရှိ။ ငါးပိသိပ် ငါးချဉ်သိပ် ဖြစ်နေသည်။ ဖလောရင့်က အခန်းငယ်တစ်ခုမှာ (၁၃) ယောက်၊ အခြားတစ်ခန်းမှာ (၈) ယောက်၊ နောက်တစ်ခန်းမှာ (၁၀) ယောက် ထားသည်။ တစ်ကြိမ်တွင် သူမ အိပ်ရာခုတင်သည် မီးဖိုချောင်ထဲက ကန့်လန့်ကာနောက်မှာ ဖြစ်သည်။ သူမက အခက်အခဲများကို လိုလိုချင်ချင် လက်ခံသဖြင့် နောက်လိုက် သူနာပြုများကလည်း သည်းခံ၍ နေကြသည်။

"မကြာခဏ ကျွန်မတို့ရဲ့ အမိုးတွေ လွင့်စဉ်သွားတယ်။ ဒါမှမဟုတ် ပြတင်းပေါက်တွေက လေတိုးဝင်နေတယ်။ ကျွန်မတို့ တစ်ညလုံး ရေထဲမှာ နေရတယ်" ဟု ရေးထားသည်။

---

၁။ Koulali ၂။ Marmora Sea ၃။ Bosphorus

သူနာပြုများကို ပြုစုစောင့်ရှောက်ပြီးနောက် သူမ၏ ပထမဆုံး လုပ်ငန်းမှာ စစ်ဆေးရေးအတွက် ခရီးလှည့်ရခြင်း ဖြစ်သည်။ ဤသို့ လှည့်လည် စစ်ဆေးခြင်းဖြင့် ဒဏ်ရာရသူတွေ အသက်ရှင်နေသည့် အခြေအနေ၊ သေလုမြောပါး အခြေအနေတွေကို ထိတ်လန့်တုန်လှုပ်ဖွယ်ရာ မြင်တွေ့နိုင်ခဲ့သည်။ ဆေးရုံ မိလ္လာပိုက်တွေ အောက်မှာ အညစ်အကြေးတွေ ပြည့်ကျပ်နေတာ၊ စင်္ကြံလမ်းနှင့် လူနာဆောင်များမှာ အနံ့ဆိုးတွေ နံဟောင်နေတာကို တွေ့ရသည်။

ဆေးရုံ၌ သက်သောင့်သက်သာရှိမှု၊ လိုအပ်ချက်ကို ဖြည့်ဆည်းပေးမှု ရှိသည် ဆိုလျှင်လည်း မဆိုစလောက်မျှသာ။ ဒဏ်ရာရသူတွေ လဲလျောင်းရန် အိပ်ရာခုတင် လုံလုံလောက်လောက်လည်း မရှိပေ။ မွေ့ရာများကို ရသမျှ ပစ္စည်းနှင့် ကတိုက်ကရိုက် ထိုးသွတ်ပြီး လူနာတွေ ထားသည့် ကြမ်းပြင်ပေါ် ပစ်ချထားသည်။ လက်ဆေးဇလုံ၊ မျက်နှာသုတ်ပဝါ၊ ဆပ်ပြာ၊ တံမြက်စည်း၊ ဇား၊ ခက်ရင်းနှင့် သန့်ရှင်းသော အိပ်ရာခင်းတွေ မရှိပေ။

လေဝင်လေထွက် ဆိုသည်က စာထဲမှာသာ ရှိသည်။ 'ကျွန်မ ရောက်ဖူးတဲ့ ဥရောပ မြို့ကြီးတွေရဲ့ အဆိုးဝါးဆုံး ရပ်ကွက်က နေအိမ်တွေတောင်မှ လူတွေ ပြည့်ကျပ်နေပေမဲ့ လေဝင်လေထွက် ကောင်းကောင်းရတယ်' ဟု စုံစမ်းရေးကော်မတီကို ဖလောရင့်က နောက်ပိုင်းမှာ ပြောပြသည်။

သွေးတွေနှင့် မာတောင့်နေသော၊ အညစ်အကြေးတွေ ပေကျံနေသော ယူနီဖောင်းများကို ဝတ်လျက်၊ ဆံပင်မှာ သွေးတွေ စေးကပ်လျက် လဲလျောင်းနေသူတွေကို ဖလောရင့် တွေ့သည်။ လောက်တွေက သူတို့ကိုယ်ပေါ်မှ တွားသွားနေသည်။ ပတ္တူဖျင်ကြမ်းနှင့် လုပ်ထားသည့် စောင်တွေ၊ အခင်းတွေမှာ ကြမ်းတမ်းလွန်းလှသဖြင့် ဒဏ်ရာရသူတွေက ဆရာဝန်နှင့် သူနာပြုတွေကို သူတို့၏ သွေးစိုနစ်နေသော စောင်များကိုခြုံလျက် ထွက်ခွာသွားပါရန် တောင်းဆိုကြသည်။ ပရိဘောဂ ပစ္စည်းတွေလည်း မရှိ၊ ဘီယာနှင့် ဝိုင်ပုလင်း အလွတ်တွေကို ဖယောင်းတိုင်ထွန်းသည့် အောက်ခံအဖြစ် အသုံးပြုရသည်။

ရိက္ခာအထောက်အပံ့ကို ဖလောရင့် စစ်ဆေးကြည့်သောအခါ ဒဏ်ရာရသူတွေက ပြုတ်၍ဖြစ်စေ၊ ကြော်၍ဖြစ်စေ ချက်ထားသည့် မာကြမ်းသော၊

အစာကြေခဲသော အစားအစာတွေ စားကြရသည်ကို တွေးကြည့်ရုံနှင့် ဖလောရင့် အော်ဂလီဆန်မိသည်။ သို့မဟုတ် မစားဘဲ ထွက်သွားကြသူများကိုတော့ အတင်းအဓမ္မ စားခိုင်းသည်။

လူနာခန်း ပြတင်းပေါက်မှ ကြည့်လိုက်သောအခါ ခွဲစိတ်ခန်းမှ လွှင့်ပစ်လိုက်သည့် ခြေပြတ်လက်ပြတ် အပုံကြီးတစ်ခုကို မြင်ရသည်။ အခြားပြတင်းပေါက်မှ ကြည့်လိုက်သောအခါ မမှတ်မိလောက်အောင် ဆွေးရိနေသည့် ခွေးသေကောင်ပုပ် (၆) ကောင်ကို ဖလောရင့် မြင်ရသည်။ ဤစက်ဆုပ်ဖွယ် မြင်ကွင်းများကို စိတ်မချမ်းမြေ့ ဖြစ်နေသော လူမမာများ အလွယ်တကူ မြင်တွေ့နိုင်သည်။ လူနာ ၅၀ ရာခိုင်နှုန်းလောက်က ကံကောင်းထောက်မမည် ဆိုလျှင် ရသမျှ သွေးတွေစိုရွှဲနေသည့် အဝတ်စုတ်တွေ၊ အကျႌတွေကို ခြုံ၍ လဲလျောင်းနေကြသည်။

ယင်းတို့သည် ဖလောရင့် နိုက်တင်ဂေးလ် ရင်ဆိုင်ရသည့် စိတ်ပျက်စရာ အခြေအနေ အနည်းငယ်မျှသာ ဖြစ်သည်။ အမှန်အားဖြင့် ဗြိတိသျှအင်ပါယာနှင့် မလျော်ကန်သည့်အရာတွေ ရှိနေသည်။ နေရာတိုင်းမှာ မရိုးဖြောင့်ခြင်းနှင့်အတူ တွဲလျက်ရှိနေသည့် စနစ်တကျ မရှိခြင်း၊ ထိန်းမနိုင်သိမ်းမရ ဖြစ်ခြင်း၊ စီမံအုပ်ချုပ်မှု မရှိခြင်းတို့ကို ရဲရင့်သော သူနာပြုက သေသေချာချာ လေ့လာကြည့်သည်။ စကြႋမှာ လမ်းလျှောက်ရင်း ဒဏ်ရာရသူတွေက ရနိုင်သမျှ အိပ်ရာတွေထဲမှာ၊ ကြမ်းပြင်တွေပေါ်မှာ၊ စကြႋလမ်းမှာ၊ အမှန်အားဖြင့် နေရာတိုင်းမှာ၊ ထို့ပြင် "ဘာလာကလာဗာမှ ယူဆောင်သွတ်သွင်းလာသည့် ပစ္စည်းတွေပေါ်မှာ" ရှိနေသည်ကို သူမ မြင်တွေ့ရသည်။

အာဂ လူသားတို့၏ စွမ်းအားဖြင့် သူမ ထိပ်တိုက်ရင်ဆိုင်ရမည့် ကိစ္စကို လုပ်ဆောင်စေလိုပုံ ရသည်။ သို့ရာတွင် စွမ်းအားကြီးမြတ်သော ဘုရားသခင်ကို ခိုင်မြဲသည့် ယုံကြည်မှုဖြင့် သူမ ဆောင်ရွက်သည်။ ဤအခြေအနေများကို ကုစားရမည်။ ဒဏ်ရာရသူ ထောင်ပေါင်းများစွာကို ဂရုတစိုက် ပြုစုရမည်ဟု သူမ ပွင့်ပွင့်လင်းလင်း ပြောသည်။ သူမနှင့် သူနာပြုလေးဆယ်တို့သည် ဤကဲ့သို့ ပရမ်းပတာ အခြေအနေတွေ၊ သူနာပြု (၅၀၀)ကို စိန်ခေါ်နေသည့် အလုပ်တွေကို စနစ်တကျဖြစ်အောင် မလုပ်ခဲ့လျှင်၊ စစ်သားတွေကို လိုအပ်သည့် ပြုစုစောင့်ရှောက်မှု မပြုလုပ်ခဲ့လျှင် လုပ်ငန်း

တစ်ခုလုံး ဆုံးရှုံးသွားလိမ့်မည်။ ရှေ့တန်းစစ်မြေပြင်မှာ သူနာပြုအဖြစ် လုပ်ဆောင်နေသည့် အမျိုးသမီးတွေကို ကမ္ဘာကြီးက ယုံကြည်မှုရှိတော့မည် မဟုတ်ပေ။

စွန့်၍ လုပ်ဆောင်သည့်လုပ်ငန်း မပျက်စီးစေမည့် ခွန်အားတွေ ရရှိပါစေဟု သူမ ဆုတောင်းသည်။ ထိုသို့ ဆုတောင်းရင်း အကျီလက်ကို ခေါက်၍ သူမ မဆိုင်းမတွ လုပ်ရမည်ဖြစ်သော ဒဏ်ရာရသူများအား ပြုစုရန်အတွက် နည်းစနစ်တစ်ခုကို တီထွင်သည်။ သို့ရာတွင် ထိုအတောအတွင်း ကြောက်မက်ဖွယ် အခြေအနေတွေ၊ စိတ်ပျက်စရာ မြင်ကွင်းတွေကို ဖယ်ရှားပစ်ဖို့ ဖြစ်နိုင်သမျှ နည်းလမ်းတွေကိုလည်း သူမ စဉ်းစားသည်။ အိမ်ထဲက လူတွေ၊ အစိုးရ အသိုင်းအဝိုင်းက လူတွေ၊ အခြားသော လူ့အဖွဲ့အစည်းက လူတွေကိုယ်တိုင် ဤကဲ့သို့ အခြေအနေ ဖြစ်နေသည့် အကြောင်းရင်းကို နားလည်အောင်၊ သူတို့တွေ ပြုပြင်ပြောင်းလဲမှု တောင်းဆိုလာအောင် လုပ်ရမည်ဖြစ်ကြောင်း သူမ သိသည်။

ဖလော့ရင့်နိုက်တင်ဂေးလ်၏ ဘဝပုံရိပ်များ













## အခန်း [ ၆ ]
## "မီးအိမ်ရှင်"

ဖလောရင့်မှာ စကူတာရီသို့ ရောက်ရှိချိန်နှင့် အလုပ် စတင် ဆောင်ရွက်ချိန် အတွင်း အနားယူရန် လုံးဝ အချိန်မရခဲ့ပေ။ သူမ ပတ်ပတ်လည်မှာ စစ်မြေပြင်၏ အပျက်အစီးတွေ ဝိုင်းနေသောကြောင့်ပင်။ သူမ ခြေချလိုက်သည့် (၂၄) နာရီအတွင်း အင်ကာမန်းတိုက်ပွဲမှ ဒဏ်ရာရစစ်သည် ရာပေါင်းများစွာ ဆေးရုံသို့ တဖွဲဖွဲ ရောက်လာသည်။ သူတို့ ရောက်လာသည်ကို လက်ခံပြီးနောက် မိနစ် (၃၀) အတွင်း လူငါးရာ တစ်ပြိုင်နက် ရောက်လာပြန်သည်ကို သတိပြုမိသည်။ ဤလူနာတွေနောက်မှာ သူမ၏ ချက်ချင်းလက်ငင်း ပြုစုစောင့်ရှောက်မှုအောက်သို့ နောက်ထပ်တစ်ထောင်ကျော်ထပ်ရောက်လာသဖြင့် ရှိသမျှ ခွန်အားကို အားသွန်အသုံးချနေရသည်။

တာ့ခ်တွေက လူနာငါးရာ အပြည့်တင်ဆောင်လျက် ကြမ်းတမ်းသော ပင်လယ်ပြင်ကို ဖြတ်ကာ မညှာမတာ သယ်ယူလာပြန်သည်။ လူနာအဝတ်အစားတွေမှာ သွေးတွေနှင့် စေးကပ်နေသည်။ ဒဏ်ရာတွေ ပောင်းလောင်း ပွင့်နေသည်။ အရိုးကျိုးနေတာတွေက ပြန်ဆက်မရ။ လူအတော်များများမှာ အကျီမရှိ။ သူတို့ အဝတ်အစားတွေကို လူနာထမ်းသူတွေက ဆုတ်ဖြဲပစ်လိုက်သောကြောင့်ပင်။ ဖလောရင့်က မွေ့ရာတွေကို နေရာအနှံ့- ကြမ်းပြင်ပေါ်၊ စင်္ကြံလမ်း၊ နေရာလွတ်ရှိသမျှ နေရာတိုင်းမှာ ချခိုင်းလိုက်သည်။

သူမ ရေးထားသည်မှာ-

အိပ်ရာတွေကို ၁၈ လက်မစီ ခွာပြီး ချထားတာ ဆွဲဆန့်လိုက်ရင်

လေးမိုင်စာလောက် ရှည်တယ်။ ကျွန်မတို့ရဲ့ အကျီလည်ပင်းအထိ သွေးတွေနဲ့ စိုနေတယ်။ အခုအချိန်မှာ ဒဏ်ရာရသူတွေ တံခါးဝမှာပါ လှဲနေရတယ်။ ခရိုင်းမီးယားက ဒဏ်ရာရသူတွေ တင်ဆောင်လာတဲ့ သင်္ဘော နှစ်စီး ထပ်ရောက်လာပြန်တယ်။

(၈) နာရီအတွင်း လူနာတွေကို ဆေးကြောသုတ်သင်ပြီး တတ်နိုင်သမျှ သက်သောင့်သက်သာဖြစ်အောင် လုပ်ဆောင်ပြီးသွားသည်။ လန်ဒန်တိုင်းမ် ရန်ပုံငွေ ကိုယ်စားလှယ်က သဒ္ဓါထက်သန်စွာ လှူဒါန်းသည့် သန့်ရှင်းစင်ကြယ်သော ရှပ်အကျီများကိုလည်း လူနာလေးရာကို ပီတိဖြစ်ဖွယ် ပေးပြီးပြီ။ အဆက်မပြတ် ရောက်လာသည့် ဒဏ်ရာရ လူနာတွေကို ပြုစုနေရသော်လည်း ဆယ်ရက်အတွင်းမှာပင် အဆောက်အအုံ အသီးသီး၌ စားဖိုဆောင်တွေ ဆောက်ပြီးခဲ့ပြီ။ လူနာတွေ ယခင် စားသောက်ရသည်ထက် ပို၍ အရသာရှိသော အစားအစာတွေ ချက်ကျွေးနိုင်ရန် လှေကားတစ်ခုမှာ ဘွိုင်လာအိုး သုံးခုစီ ထားပေးပြီးပြီ။ ယခင်ကမူ ချက်ပြုတ်ရေးအတွက် ကြေးကရားအိုး အကြီးကြီးတွေကို သုံးသည်။ အသားနှင့် ဟင်းသီးဟင်းရွက်တွေကို ဤကရားအိုးကြီးတွေထဲမှာ ရောကျိုပြီး စားစရာတွေကို မပြုပြင်ဘဲ ဝေပုံကျ ကျွေးသည်။ လုပ်ပုံလုပ်နည်းတွေက ဖရိုဖရဲ။ စီမံခန့်ခွဲမှု အလွဲတွေကို နေရာတိုင်းမှာ တွေ့မြင်နေရသည်။ အသားတွေက မကြာခဏ ချက်ပြုတ်ချိန်ထက် များစွာနောက်ကျမှ ရောက်လာတတ်ပြီး ကြွက်တွေ၊ ကူးစက်ရောဂါပိုးတွေ ရှိသည့် နေရာတွေမှာ ညသိပ်ထားသည်။ ရိက္ခာတွေ မီးဖိုချောင်ထဲ ရောက်သောအခါ ပိုက်ကွန်တွေထဲ ချည်ထား၊ ဖြစ်ကတတ်ဆန်း မှတ်သားထားပြီး ကြေးကရားအိုးကြီးထဲ ပစ်ထည့်၍ နာရီဝက် ဖြစ်စေ၊ လေးနာရီကြာ ဖြစ်စေ ထမင်းချက်တွေက ချက်ချင်သလောက် အချိန်ပေးပြီး ချက်ပြုတ်ကြတော့သည်။

လူမမာ သို့မဟုတ် ဒဏ်ရာရသူတွေကို ချက်ကျွေးသည့် အစားအစာ အမျိုးအစားကို ဂရုမစိုက်ပေ။ အရိုးတစ်ခု၊ အဆီ သို့မဟုတ် အရွတ်တစ်ဖတ်ဖြင့်သာလျှင် ဝေဒနာ ခံစားနေရသော စစ်သားက ကျေနပ်လိုက်ရသည်။ ဖလောရင့်က အရသာလည်း ရှိ၊ အာဟာရလည်း ဖြစ်အောင် အရိုးနှင့် အသား တွဲ၍ကျွေးရန် ကြိုးစားသည်။ သို့ရာတွင် ဤကဲ့သို့ပြုလုပ်ရန် ကျွေးမွေးရေး စည်းမျဉ်းအသစ် လိုအပ်မည်ဟု သူမထံ အကြောင်းကြား

သည်။ အချိန်နှင့်စွမ်းအင်က အလွန် တန်ဖိုးရှိနေသည်ဖြစ်ရာ ဤကဲ့သို့သော "ကြိုးနီစနစ်" ကို တိုက်ဖျက်ဖို့ လိုအပ်ခဲ့ပြီ။ သို့ဖြစ်၍ ရဲ၀့် ထက်မြက်သော သူနာပြုက အခြေအနေတွေ တိုးတက်လာရန် သူနည်းသူ့ဟန်နှင့် ဆက်လုပ်သည်။

လေးမိုင်လောက် ရှည်လျားသော လူနာတန်းရှိ လူနာတွေထံ စားစရာ ပို့ဖို့ အချိန် သုံးနာရီလောက် လိုအပ်သည်။ အိပ်ရာဘေးသို့ ယူဆောင်လာသည့် အစားအစာတွေမှာ အက်စကီမိုတို့၏ အစ်ဂလူးနှင်းခဲအိမ်ထဲမှာ (၂၄) နာရီလောက် သိမ်းထားသည့်ပမာ မကြာခဏ အေးစက်နေသည်။

"ကျွန်မတို့ နို့တစ်စက်မှ မြင်တောင် မမြင်ရဘူး" ဟု သူနာပြုဆရာမလေး တစ်ယောက်က အိမ်သို့ စာရေးသည်။ "ပေါင်မုန့်တွေက အရမ်း ချဉ်နေတယ်။ ထောပတ်တွေက အညစ်ပတ်ဆုံးပဲ။ အသားတွေက အစားအစာနဲ့ မတူဘဲ စိုထိုင်းထိုင်း တိရစ္ဆာန်သားရေနဲ့ တူတယ်။ အာလူးတွေကိုတော့ ပြင်သစ်ကနေ ရောက်လာတဲ့အထိ ကျွန်မတို့ စောင့်နေရတယ်။"

အခြား သူနာပြုတစ်ယောက်က ပြောသည်။ 'ဆယ့်တစ်ယောက်က အားပြတ်ပြီး ညဘက်မှာ သေသွားတယ်။ တတ်သမျှ၊ မှတ်သမျှနဲ့ ပြောရရင်တော့ အာဟာရဓာတ်သာ ရနိုင်မယ်ဆိုရင် သူတို့ မသေနိုင်ဘူး။ သူတို့ အာဟာရရှိတဲ့ အစားအစာကို စားသင့်တယ်ဆိုတာ ကျွန်မ သိတယ်'

မကြာခင်မှာ ဖလောရင့်က သူမ၏ ဉာဏ်စွမ်းဖြင့် လူမမာအတွက် ဓာတ်စာ သို့မဟုတ် သူနာပြု၏ စားဖိုဆောင်ကို စီစဉ်ပေးလိုက်သည်။ ထိုစားဖိုဆောင်မှ ကြက်သား၊ အမဲသားနှင့် ဟင်းရွက်ရော ဟင်းချို၊ အာဒါလွတ်ဥ၊ ဂျယ်လီနှင့် အခြား စားကောင်းသောက်ဖွယ်တွေကို လူနာများထံ အချိန်တိုတိုဖြင့် အရောက်ပို့ပေးသည်။ ဤရိက္ခာ အများစုကို ပြင်သစ်ရှိ သူမ၏ ကိုယ်ပိုင် ရန်ပုံငွေဖြင့် ဝယ်သည်။ အလွန်စိုးရိမ်ဖွယ်ရာ လိုအပ်ချက်များနှင့် ပတ်သက်သည့် သတင်းစကားများကို အင်္ဂလန်မှ ကြားရသောအခါ ငွေကြေးနှင့်ရိက္ခာ အထောက်အပံ့များ တဖွဲဖွဲ ရောက်လာတော့သည်။

ဆေးရုံရောက်သည့် မနက်မှာ အာဒါလွတ်ဥ စားရသည့် ဒဏ်ရာရစစ်သားတစ်ယောက်က ပြောသည်။

'တော်မီ ... ကောင်လေးရေ ... ဒီနေ့ မင်းရဲ့အစာအိမ်ထဲ ရောက်မယ့် စားစရာက အဲဒါအားလုံးပဲ။ အဲဒါတွေ စားရတာ ကံကောင်းတယ်လို့

တွေးလိုက်စမ်းပါ။ ဒါပေမဲ့ နှစ်နာရီကြာပြီးတဲ့နောက် ဘုရားသခင်ရဲ့ "နတ်သမီး" လေးတွေ ကြက်သားဟင်းချိုရည်နည်းနည်း သောက်ဖို့ ငါ့ကို လာမတောင်းပန်ရင်တော့ ... ဟုတ်တယ်၊ ငါသောက်လိုက်ပါတယ်။ စောစောပိုင်း ညစာ ဖြစ်မှာပဲလို့ တွေးပြီးတော့ပေါ့။ နောက် ဘာဖြစ်ဦးမလဲ ဆိုတာ မသိခင်မှာပဲ အလှည့်ကျ သူနာပြုက ဂျယ်လီတစ်တုံးနဲ့ ရောက်လာပြန်တယ်။ တစ်နေ့လုံး အချိန်ခြားပြီး "အာဟာရဓာတ် နည်းနည်းပါတဲ့ စားစရာ" လို့ ခေါ်တဲ့ ဟာတွေကို ငါ့ဆီ ယူလာပေးတယ်။

'ညချမ်းမှာ မစ္စ နိုက်တင်ဂေးလ် ရောက်လာပြီး ငါ့ကို ကြည့်ပြောတယ်။ "ရှင် သက်သာလာပြီလို့ မျှော်လင့်ပါတယ်" တဲ့။ ငါကလည်း "မဒမ်၊ ကျွန်တော် တိုက်ကြက်ဖတစ်ကောင်လို ကျန်းမာနေပြီ" လို့ပဲ ပြန်ပြောနိုင်တယ်။ ဒါပေမဲ့ ပိုယဉ်ကျေးတဲ့ စကားတစ်ခွန်း၊ နှစ်ခွန်းလောက် ထွက်ဖို့ ကြိုးစားခဲ့တယ်'

ဖလောရင့်၏ နောက်ထပ်ပြဿနာမှာ ဆေးရုံ၌ လျှော်ဖွပ်ရေးကိစ္စ ဖြစ်သည်။ ဤကဏ္ဍမှာလည်း စီမံခန့်ခွဲမှု အလွဲအမှားနှင့် အားနည်းချက်တို့က သိသိသာသာကြီး ပေါ်လွင်နေသည်။ သူမ ရောက်ရှိသည့်အချိန်မှာ ဒဏ်ရာရသူ တစ်ထောင်၊ တစ်ထောင်ကျော်ကျော်အတွက် တစ်လလျှင် ရှပ်အင်္ကျီ (၆) ထည်သာ လျှော်သည်။ ဤကိစ္စနှင့် ပတ်သက်၍ အကြောင်းပြချက်တစ်ခုမှာ သူတို့ရှပ်အင်္ကျီတွေကို လျှော်ဖွပ်ဖို့ ပေးလိုက်လျှင် အခိုးခံရတတ်သည် ဟူသောအချက် ဖြစ်သည်။ သို့ဖြစ်၍ အနီးအနားမှာ နေထိုင်သည့် စစ်သားများ၏ ဇနီးများကို အဝတ်အစား လျှော်ဖွပ်ပေးရန် မဖျောင်းဖျနိုင်ခဲ့လျှင် သူတို့က ဖုန်အလိမ်းလိမ်းကပ်နေသော အဝတ်အစားတွေ ဝတ်ရတာကို ပိုနှစ်သက်ကြသည်။ သိပ်မဝေးသည့် အနာဂတ်မှာ အဝတ်အစားတွေကို လျှော်ပေးလိမ့်မည်ဟု မျှော်လင့်နေကြသည်။

ရောဂါပိုးတွေ ကူးစက်နေသည့် အဝတ်အစားတွေ၊ အိပ်ရာ အသုံးအဆောင်တွေကို ဒဏ်ရာရသူတွေ ဝတ်ထားပြီးသည့် အဝတ်အစားတွေနှင့် သီးခြား ခွဲမထားသည်ကိုလည်း ဖလောရင့် တွေ့ရှိသည်။ ထို့ပြင် အိပ်ရာခင်း စောင်တွေကို ရေအေးနှင့်သာ စိမ်၍ လျှော်သဖြင့် ကပ်ပါးပိုးကောင်တွေ မသေနိုင်သည်ကိုလည်း သူမ တွေ့ရှိခဲ့သည်။

သူမ၏ ကိုယ်ပိုင်ငွေနှင့် ထည့်ဝင်လှူဒါန်းငွေ ပေါင်းစပ်လျက် ထို

နေရာအနီးတွင် အိမ်တစ်လုံး ငှားရမ်းလိုက်သည်။ အိမ်ထဲတွင် ဘွိုင်လာ တပ်ဆင်ပြီး စစ်သည်များ၏ ဖနီးများကို အခပေး ငှားရမ်းကာ တစ်ပတ် အတွင်း ဆေးရုံလျှော်ဖွပ်လုပ်ငန်း စတင် ဆောင်ရွက်နိုင်ခဲ့သည်။

သူတို့သင်္ဘော ကမ်းခြေကို လှမ်းမြင်သည့်နေရာသို့ ရောက်သော အခါ သူနာပြုတစ်ယောက်က ဖလောရင့်ထံ အပြေးလာပြောသည်။ 'အို ... မစ္စ နိုက်တင်ဂေးလ်ရယ်၊ ကြိုးနီစနစ်ကြောင့် နှောင့်နှေးကြန့်ကြာမှုတွေ မဖြစ်ပါစေနဲ့နော်။ ကျွန်မတို့ သနားစရာ လူတွေဆီကို ချက်ချင်းသွားပြီး ပြုစုကြရအောင်' ထိုစကားကို ဖလောရင့်က 'အဝတ်လျှော်တဲ့ စည်ပိုင်းအတွက် အသန်မာဆုံးသူတွေ လိုအပ်လိမ့်မယ်' ဟု အသိရခက်စွာ ပြန်ပြောလိုက် သည်။ ခုတော့ သူတို့ အဝတ်လျှော်စည်ပိုင်းသို့ သွားကြရပြီ။

ဦးနှောက်ခြောက်စရာ ပြဿနာတစ်ခုမှာ လူနာတွေ၏ အဝတ်အစား နှင့် အိပ်ရာခင်းတို့ကို လျှော်ဖွပ်ထားစဉ် ခွဲခြားသိအောင် ဘယ်လို ခွဲထား ရမလဲ ဆိုသော ကိစ္စပင်။ သူမ၏ ကိုယ်ပိုင်ငွေကြေးဖြင့် ဖြေရှင်းရန် လိုအပ် နေပြန်သဖြင့် ရှပ်အင်္ကျီ တစ်သောင်း ဝယ်ယူ ဖြည့်တင်းပေးလိုက်သည်။ အဝတ်အစားတွေ ဆိုးဆိုးဝါးဝါး လိုအပ်ရခြင်း၏ အကြောင်းရင်းတစ်ချက် မှာ စစ်သားတွေက ကျောပိုးအိတ်တွေ မယူဘဲ သင်္ဘောဆိုက်သည်နှင့် ခရီး မီးယားသို့ ချီတက်ရသောကြောင့် ဖြစ်သည်။ ဤသို့ ဖြစ်ရခြင်းမှာ ဆီဘက် စတိုပိုလ်[၁] ရက်ပိုင်းအတွင်း ကျဆုံးလိမ့်မည်ဟု တွက်ဆထားသောကြောင့် ဖြစ်သည်။ သို့ဖြစ်၍ စစ်သားတွေ ဒဏ်ရာရသောအခါ သူတို့ကိုယ်ပေါ်က အဝတ်အစားမှတစ်ပါး ဘာမျှ မရှိတော့ပေ။ အဝတ်အစားတွေက ပြောပြ နိုင်တာထက် ပို၍ စုတ်ပြတ်နေသည်။ ညစ်ပတ်သင့်တာထက် ပို၍ ညစ်ပတ် နေသည်။ သွေးတွေ ရွှဲနစ်နေသည်။ ကပ်ပါးပိုးတွေ ကူးစက်နေသည်။ အမှန် အားဖြင့် ဤအဝတ်အစားတွေမှာ မီးရှို့ပစ်ဖို့သာ ကောင်းတော့သည်ကို ဖလောရင့် တွေ့မြင်နေသည်။

ဖလောရင့်က လျှော်ဖွပ်ဖို့အတွက် လိုအပ်သည့်ပစ္စည်းတွေ တိုးတက် အောင်၊ မီးဖိုချောင်ကို ပိုမိုစီမံခန့်ခွဲ စည်းရုံးနိုင်အောင် မမောနိုင် မပန်းနိုင် လုပ်ဆောင်နေစဉ်မှာပင် လူနာဆောင်တွေဆီ အမြဲလျှောက်သွားပြီး ပုံမှန် တာဝန်တွေကို ဆောင်ရွက်သည်။ ဤအလုပ်များမှာ သာမန်လူတွေ လုပ်

၁။ Sebastopol

ဆောင်နိုင်တာထက် ပိုနေသည်။ သို့ရာတွင် ဖလောရင့်က ဘယ်တာဝန်အတွက်မဆို အချိန်နှင့် အင်အားတွေ ရှိနေသည်။ စစ်ဝန်ကြီးထံ စာရေးရာတွင်– "သူနာပြုလုပ်ငန်း ဆိုတာ ကျွန်မကို မဖြစ်မနေခိုင်းတဲ့ အရေးမကြီးဆုံး လုပ်ငန်းတစ်ခုပါ" ဟု ဆိုထားသည်။

သူနာပြုလုပ်ငန်းနှင့် ပတ်သက်၍ ဖလောရင့်၏ သဘောထား မည်သို့ပင် ရှိစေ၊ နာမကျန်းသူနှင့် ဒဏ်ရာရသူတွေ အတွက်တော့ ကောင်းကင်ဘုံမှ ကောင်းချီးခံစားရခြင်းပင် ဖြစ်သည်။ သို့ဖြစ်၍ ဒူးထောက်လျက် ဒဏ်ရာတွေကို ပတ်တီးစည်းပေးခြင်း၊ သေအံ့မူးမူး လူတွေကို နှစ်သိမ့်ပေးခြင်းဖြင့် အချိန်နာရီများစွာ အသုံးချသည်။ ဒဏ်ရာရသူတွေကို နေရာချထားပေးရန် စီစဉ်ညွှန်ကြားခြင်း၊ ရိက္ခာတွေ ခွဲဝေပေးခြင်း၊ သူနာပြုများအားကြီးကြပ်ခြင်း၊ ခွဲစိတ်ကုသရာမှာ ကူညီပေးခြင်းဖြင့် တစ်ချက်ကလေးမျှအနားမယူဘဲ တစ်နေ့လျှင် နာရီ (၂၀) အလုပ်လုပ်သည်ကို အားလုံး သိကြသည်။ သူမ၏ စိတ်ရှည်မှု၊ အားပေးတိုက်တွန်းမှုက လူနာကို မကြာခဏသတ္တိအသစ်တွေ ဖြစ်ပေါ်ဖြည့်စွမ်းစေသည်။

အရေးကြီးသော ခွဲစိတ်မှုများတွင် သူမ ကူညီပေးခဲ့သည့် ဆရာဝန်ကသူမ၏ ဖြူရော်ရော် မျက်နှာနှင့် စိတ်ရှည်သည်းခံမှုကို ပြသည့် နှုတ်ခမ်းတင်းတင်းစေ့ထားပုံတို့ကို ဂရုပြုမိသည်။ ဒဏ်ရာရ လူငယ်လေး၏ မျက်လုံးနှင့် သူမ၏မျက်လုံး ဆုံတွေ့ပုံကိုလည်း တွေ့မြင်သည်။ သနားကရုဏာအပြည့်ဖြင့် တုံ့ပြန်နေသော လျှပ်တစ်ပြက်အကြည့်၊ ယုံကြည်စိတ်ချအောင်ညင်သာသိမ်မွေ့စွာ ပြောဆိုသည့် အသံတွေကို ဆရာဝန် သတိတရ ဖြစ်နေသည်။

သမားတော်က 'ဘယ်လို အရေးကြီးတဲ့ ခွဲစိတ်မှုမျိုး ဖြစ်ဖြစ် သူမရဲ့ဂရုစိုက်မှုနဲ့ လွတ်တဲ့ဟာကွက် မရှိဘူး။ အရေးကြီးတဲ့ ခွဲစိတ်မှုဆိုတာ သူမစောင့်ရှောက်ပြုစုတဲ့ အလုပ်ပဲ' ဟု ပြောသည်။

တစ်ခါသားမှာ ဆရာဝန်က မျှော်လင့်ချက် မရှိတော့ဘူးဟု ပြောထားသည့် လူနာငါးယောက်ကို သူမ တွေ့သည်။ သို့ရာတွင် သူနာပြုတစ်ယောက်၏ အကူအညီဖြင့် ဖလောရင့်က တစ်ညလုံး လူနာတွေကို ပြုစု၊ ဇွန်းဖြင့်အစားအစာ ခွံ့ပေး၊ ဒဏ်ရာတွေ ဆေးကြောပေး၊ ဝေဒနာ သက်သာအောင်လုပ်ပေးသည်။ မနက်ရောက်သောအခါ လိုအပ်သော ခွဲစိတ်ကုသမှုကို ခံနိုင်

ရည် ရှိသွားတော့သည်။ တစ်ခါမှာ စစ်သားတစ်ယောက်၏လက် ဖြတ်ပစ်ရတော့မည့် အခြေအနေကို သူမ တွေ့ရသည်။ သို့ရာတွင် ဤလက်ကို ကုသနိုင်မည်ဟု ယုံကြည်သဖြင့် ခွဲစိတ်မှုကို ဆိုင်းငံ့ထားရန် သူမက တောင်းဆိုလိုက်သည်။ သူမက ထိုကောင်လေးကို စိတ်ရှည်လက်ရှည် ပြုစုကုသပေးရာ နောက်ဆုံးမှာ သူမ၏ လူနာကို ကယ်တင်နိုင်ခဲ့သည်။ ဤသို့ဖြင့် ရုပ်ပျက်ဆင်းပျက် ဖြစ်နေသည့် စစ်သားလေးကို ဘဝတစ်လျှောက်လုံး လက်တစ်ဖက်ပြတ်ဖြင့် နေရမည့် အခြေအနေမှ ကယ်တင်နိုင်ခဲ့သည်။

ဝမ်းရောဂါနှင့် ပလိပ်ရောဂါသည်တွေ ရောက်လာသောအခါ ရောဂါ၏ နောက်ဆုံးအဆင့် ရောက်နေတာတောင်မှ လူနာတွေနှင့်အတူ အလျှော့မပေးစတမ်း အလုပ်လုပ်သည်။ ရောဂါက ပြင်းထန်လေလေ၊ ဝေဒနာ ခံစားနေရသည့် စစ်သည်အပေါ် ကိုယ်ကိုကိုင်းညွတ်လျက် တတ်နိုင်သမျှ နည်းမျိုးစုံဖြင့် လူနာအား နှစ်သိမ့်ပြုစုပေးနေသည်ကို တွေ့ရမှာ သေချာလေလေပင်။

စစ်သားတွေက သူမကို ပုဂ္ဂိုလ်ရေးအရ ကိုးကွယ်ကြသည်။ စင်္ကြံလမ်းမှာ သူမ ဖြတ်သန်းသွားစဉ် သူမအရိပ် သူတို့အိပ်ရာတွေအပေါ် ကျရောက်လာသောအခါ စစ်သားတွေက ထိုအရိပ်ကို ကြည်ညိုလေးမြတ်စွာ နမ်းရှုပ်ကြသည်။ သူမ အိပ်ရာတစ်တန်းမှ တစ်တန်းသို့ လှည့်သွားသောအခါ (ထိုအိပ်ရာတန်းက လေးမိုင်ခရီးလောက် ရှိသည်) စစ်သားတွေက သူမကို ဘုရင်မ တစ်ပါးပမာ အလေးပြု အရိုအသေ ပေးကြသည်။

စစ်သားအားလုံး၏ ခံစားချက်ကို ဖော်ပြသည့်အနေဖြင့် စစ်သားတစ်ယောက်က– 'ဘုရင်မကြီး နတ်ရွာစံချိန်နီးရင် သူမကို ဘုရင်မ တင်မြှောက် သင့်တယ်' ဟု ပြောသည်။

စကူတာရီသို့ ရောက်ခဲ့သည့် ပါလီမန်အမတ် တစ်ဦးက 'အမိုးပွင့်သွားပြီး သူမ ကောင်းကင်ဘုံကို ထင်ထင်ရှားရှား တက်သွားပြီလို့ စစ်သားတွေကို ပြောပြရင် နည်းနည်းလေးမှ အံ့သြကြမှာ မဟုတ်ဘူး' ဟု ပြောပြသည်။

ညသန်းခေါင်ချိန် နီးသောအခါ အားလုံး ငြိမ်သက်တိတ်ဆိတ်နေချိန်တွင် ဖလောရင့်က မီးအိမ်ကို လက်မှာဆွဲလျက် လူနာဆောင်တွေကို နောက်ဆုံးအကြိမ် လှည့်လည်ကြည့်ရှုသည်။ သူမက သူတို့အားလုံးကို

ချစ်ခင်သည်။ ဘုရားသခင်နှင့် အင်္ဂလန်က သူမ၏ ပြုစုစောင့်ရှောက်မှုထံ ယုံကြည်စွာ အပ်နှံထားသူ အားလုံးကို သူမ ချစ်ခင်သည်ပင်။

'အဆုံးမရှိတဲ့ လမ်းလျှောက်ခြင်း ဖြစ်ပုံရတယ်' ဟု သူမနှင့်အတူ လိုက်ပါသည့် မိတ်ဆွေတစ်ယောက်က သတင်းပို့သည်။

"…. ကျွန်တော်တို့ ဖြည်းဖြည်းချင်း လျှောက်လာစဉ်မှာ တိတ်ဆိတ်မှုက အလွန်နက်ရှိုင်းတယ်။ မချိမဆံ့ ခံစားနေရတဲ့ လူနာတွေဆီက ညည်းသံ၊ အော်သံလေး တစ်ချက်တောင်မှ ကျွန်တော်တို့နားထဲ ဝင်မလာဘူး။ အလင်းရောင် မှိန်မှိန်လေးက ဟိုမှာဒီမှာ လင်းနေတယ်။ မစ္စ နိုက်တင်ဂေးလ်က သူမရဲ့ မီးအိမ်လေးကို ကိုင်ထားတယ်။ မီးအိမ်ကလေးကို ချထားပြီးမှ လူနာတစ်ယောက်ယောက်ကို ငုံ့ကြည့်တယ်။ စစ်သားတွေအပေါ် သူမရဲ့ ပြုမူဆက်ဆံပုံကို ကျွန်တော် အလွန် ကြည်ညိုလေးစားတယ်။ သိပ်ကြီးကို ကြင်နာယုယတာပဲ"

ညစဉ်ညတိုင်း ဤကဲ့သို့ လှည့်လည်ကြည့်ရှုသည်ကို အမေရိကန် ကဗျာဆရာ လောင်းဖဲလိုး[၁] က သူ၏ နာမည်ကျော်ကဗျာတွင် ကမ္ပည်းတင်ခဲ့သည်။ ဖလောရင့်ကို "မီးအိမ်ရှင်" ဟု တင်စား ဖွဲ့ဆိုထားလေသည်။

*ကြည့်စမ်း၊ ဝေဒနာ ဖိစီးနေတဲ့ ကာလမှာ*
*မီးအိမ်ရှင် အမျိုးသမီးတစ်ယောက် ငါတွေ့မြင်ရ*
*ခပ်ရေးရေး အမှောင်ကို ဖြတ်သန်းလျက်*
*တစ်ခန်းမှတစ်ခန်း ကူးလူး သွားလာ နေရဲ့။*
*တဖြည်းဖြည်း … အတိသုခဘုံကို အိပ်မက်သည့်ပမာ*
*စကားသံမဲ့ ဝေဒနာသည် လှည့်ကာ နမ်းနေမိ*
*သူမ အရိပ် ကျရောက်ချိန်*
*အမှောင် နံရံပေါ်မှာ …လေ။*

သူမနှင့် သူနာပြုအဖွဲ့တို့ စကူတာရီသို့ ရောက်ရှိ၍ နှစ်လမပြည့်မီ ၁၈၅၄ ခုနှစ် ခရစ္စမတ်ရက်မှာ ညစ်ပတ်ပေရေခြင်း၊ ဆာလောင်ငတ်မွတ်ခြင်းနှင့် အထီးကျန်ခြင်းကို ဖြစ်ပေါ်ခဲ့သည့် နေရာတွင် သန့်ရှင်းစင်ကြယ်ခြင်း၊ အာဟာရပြည့်ဝသော အစားအစာနှင့် "ပြုစုခံ" သူ တစ်ယောက်ကို အားပေးရန် ရောက်ရှိနေခြင်းတို့သည် နေရာယူထားပေပြီ။ ဖလောရင့်

၁။ Longfellow

နိုက်တင်ဂေးလ်က အားပေးနှစ်သိမ့်ရန်အတွက် သနားကြင်နာသည့် လက်နှင့် နှလုံးသား၊ သေမင်း၏ အရိပ်ထဲမှာ တောက်ပနေသော အလင်းရောင်တို့ကို ယူဆောင်လာခဲ့ပေသည်။

စစ်သားတို့၏ ဇနီးများကို ဆေးရုံ လျှော်ဖွပ်ရေးလုပ်ရန် ငှားရမ်းသောအခါ ဤအမျိုးသမီးတို့၏ ကြောက်မက်ဖွယ်ရာ အတိဒုက္ခကို ဖလောရင့်တွေ့ရှိသွားသည်။ အချို့သော ဇနီးသည်များကို နိုင်ငံရပ်ခြားသို့ ခင်ပွန်းသည်တွေ အမှုထမ်းရာတွင် အတူလိုက်ပါခွင့် ပေးထားသည်။ အကယ်၍ အကြောင်းတစ်စုံတစ်ရာကြောင့် သူတို့ ကွာရှင်းကြလျှင် သူတို့ကို စောင့်ရှောက်မည့်သူ တစ်ယောက်မျှ မရှိတော့ပေ။ ဇနီးသည်တွေ၊ ချစ်သူတွေ အတော်များများက စစ်တပ်နောက်သို့ လိုက်လာကြသည်။ အမှန်အားဖြင့် သူတို့အတွက် စားစရာ၊ နေစရာ ထောက်ပံ့ပေးထားခြင်း မရှိခဲ့။ ဖလောရင့် တွေ့ရှိသည့် ဤအမျိုးသမီးများမှာ များသောအားဖြင့် လေးစားစရာကောင်းပြီး သူတို့သည် ကျဉ်းမြောင်းမှောင်မည်းသော အခန်းတွေမှာ၊ စစ်တန်းလျား ဆေးရုံ၏ ထောင့်ခန်းတွေမှာ နေနေကြရသည်။

သူတို့ အဝတ်အစားတွေမှာ စုတ်ပြတ်နေပြီး ဖိနပ်စီးစရာ၊ ခေါင်းဆောင်းစရာ တစ်ခုမျှတောင် မရှိကြပေ။ တချို့က မည်းမှောင်နေသော မြေအောက်ခန်းတွေမှာ နေရာရကြသည်။ သူတို့ နေထိုင်ရတာက လူတွေနှင့် မတူဘဲ ကြွက်တွေနှင့် ပိုတူနေသည်။ မဝရေစာ စားရသည်။ သူတို့၏ လူမမာတွေကို ပြုစုရင်း ကလေးငယ်လေးတွေကို ကမ္ဘာလောကထဲ ခေါ်ဆောင် လာကြသည်။

ဤအမျိုးသမီးများ၏ ဝမ်းနည်းဖွယ် အတိဒုက္ခက ဖလောရင့်၏ နှလုံးသားကို လာရောက်စေ့ဆော် ရိုက်ခတ်ပေးနေသည်။ သူမ၏ ကိုယ်ပိုင်ရိက္ခာထဲက စားစရာတွေကို သူတို့ထံ ပို့ပေးသည်။ မစ္စစ် ဘရေ့စ်ဘရစ်ချ်က သူတို့၏ အခြေအနေ ကောင်းမွန်တိုးတက်လာအောင် စတင် လုပ်ဆောင်ပေးသည်။ နောက်ဆုံးမှာ အိမ်တစ်လုံး ရရှိသွားသည်။ အမျိုးသမီးတွေက အိမ်သန့်ရှင်းရေးလုပ်ပြီး ဖလောရင့်က သူမ ကိုယ်ပိုင်ငွေဖြင့် ပရိဘောဂတွေ ဖြည့်ဆည်းပေးသည်။ သူတို့၏ လူနာများအတွက် အဆောင်တစ်ခုကို လျှော်ဖွပ်လုပ်ငန်းလုပ်သည့် နေရာ၏ အပေါ်ဘက်မှာ ဖွင့်လှစ်ပေးလိုက်သည်။ ကွန်စတန်တီနိုပယ်၌ အမျိုးသမီးများအတွက် အလုပ်အကိုင် ရှာဖွေ

ပေးသည်။ ကလေးများအတွက် ကျောင်းတစ်ကျောင်း စတင် ဖွင့်လှစ်ပေးသည်။

ခင်ပွန်းသည်နှင့်အတူ စကူတာရီသို့ လိုက်ပါလာသည့် လေဒီ အယ်လီစီယာ ဘလက်ဝုဒ်[၁] က သူမ ဘာဆောင်ရွက်ပေးရမည်လဲ ဟု မေးသည်။ ဖလောရင့်က ပြန်ပြောသည်။ 'အခု ဒီတန်းလျားထဲမှာ အကြီးအကျယ် ဒုက္ခရောက်နေတဲ့ အမျိုးသမီး (၂၀၀) လောက် နေနေရတယ်။ သူတို့တွေ အစုတ်စုတ် အပြတ်ပြတ် ဖြစ်နေတယ်။ ရောဂါပိုးတွေလည်း ကျရောက်နေတယ်။ သူတို့ကြောင့် ကျွန်မ နှလုံးသားမှာ သွေးတွေ ယိုစီးနေတယ်။ ဒါပေမဲ့ ကျွန်မအလုပ်က စစ်သားတွေအတွက် လုပ်ဆောင်ရမှာ။ သူတို့ဇနီးတွေအတွက် မဟုတ်ဘူး။ သူတို့ကို ကြည့်ရှုစောင့်ရှောက်ဖို့ ရှင် တာဝန်ယူနိုင်မလား'

လေဒီ ဘလက်ဝုဒ်က ချက်ချင်းပင် တာဝန်ယူလိုက်သည်။ အသေးစိတ် ကိစ္စတွေကို စစ်ဆေးကြည့်ရှု မနေတော့ပေ။

ဆေးရုံတွင် သူမ၏ ကျွမ်းကျင်လိမ္မာမှုကို စိန်ခေါ်နေသည့် အရာများစွာရှိကြောင်း ဖလောရင့် တွေ့ရှိသည်။ ခွဲစိတ်ကုသမှု များစွာကို လူနာဆောင် အတွင်းမှာသာ လုပ်ဆောင်သည်ကို သူမ သတိပြု လေ့လာမိသည်။ သူမက ကန့်လန့်ကာများ တပ်ဆင်ပေးလိုက်သည်။ ဤသို့ဖြင့် ရဲဘော်ရဲဘက်တွေ၏ နာကျင်ခံစားမှုတွေကို မြင်တွေ့ရခြင်းဖြင့် အခြားလူနာများအား စိတ်ဖိစီးမှုမှ ကင်းဝေးအောင် လုပ်ပေးခဲ့သည်။

သူမက ပြောသည်။

'မနက်ဖြန် ခြေလက်တွေ ဖြတ်ထုတ်ကုသခံရမယ့် လူနာတစ်ယောက်က ဒီနေ့ သူ့ရဲဘော် ခွဲစိတ်ကု ဓားချက်အောက်မှ သေသွားတာကို မြင်တဲ့အခါ သူ့ကို ဖိအားပေးသလို ဖြစ်ပြီး အသက်ရှင်ဖို့ အခွင့်အလမ်း နည်းပါးအောင် လုပ်လိုက်တာပဲ။ ခွဲစိတ်ကုသရင်းနဲ့ အသက်ဆုံးရှုံးရတာတွေက အင်မတန် ကြောက်စရာကောင်းတယ်'

ထိုအချိန်က မေ့ဆေး၊ ထုံဆေးများကို သုံးစွဲရမှန်း မသိသေးသဖြင့် ဝေဒနာ ခံစားမှုက ကြောက်မက်ဖွယ် ပြင်းထန်လွန်းလှသည်။ ဦးခေါင်းပိုင်းဆိုင်ရာ ဆရာဝန်က ကလိုရိုဖောင်းမေ့ဆေး သုံးစွဲခြင်းကို ဆန့်ကျင်၍ ထုတ်ဖော် ပြောသည်။ 'ဓားတစ်လက်ရဲ့ ချက်ချာပါးနပ်မှုက အင်အားကြီးမားတဲ့၊

၁။ Lady Alicia Blackwood

စိတ်ကို နိုးကြားတက်ကြွစေတဲ့ အရာပဲ။ သူ့ကို တိတ်ဆိတ်ငြိမ်သက်စွာနဲ့ ဂူထဲ ဝင်သွားတာကို မြင်ရတာထက်စာရင် အားနဲ့အင်နဲ့ အသံကုန်အော်တာကို ကြားရတာက ပိုကောင်းတာပေါ့'

ဖလောရင့်က လူနာဆောင်ထဲရှိ စစ်သားတွေကို စာရေးကိရိယာနှင့် စာပို့ခများ ထောက်ပံ့ပေးရန် ဆုံးဖြတ်ပြီး၊ တတ်နိုင်လျှင် အိမ်သို့ စာရေးရန် တိုက်တွန်းသည်။ ဤသို့ဖြင့် သူတို့၏ စိတ်ပင်ပန်းမှုတွေ၊ စိုးရိမ်စိတ်တွေ သက်သာသွားစေသည်။ ဖလောရင့်က စစ်သားများ၏ မိသားစုများထံ စာတွေ အများကြီး ရေးပို့သည့်အပြင် ကိုယ်တိုင် စာရေး အကြောင်းမကြားနိုင်သည့် စစ်သားများကိုယ်စား သူနာပြုများကိုလည်း စာရေးခိုင်းသည်။ စစ်သားတစ်ယောက် သေဆုံးသောအခါ ဖလောရင့်က ထိုသူကွယ်လွန်ပုံကို အသေးစိတ်ရေးပြီး မိသားစုထံ အကြောင်းကြားပေးသည်။

စစ်သားများ၏ အခြေအနေ ပိုမိုတိုးတက် ကောင်းမွန်ဖို့ဆိုလျှင် ဖလောရင့်၏ တက်ကြွသော စိတ်ဓာတ်က ဘယ်တော့မျှ မောပန်းငြီးငွေ့သည် မရှိပေ။ စစ်သားများ သူတို့လစာကို အိမ်ပြန်ပို့နိုင်ရန် ငွေလွှဲစာပို့ဌာန တစ်ခုကို တည်ထောင်ပေးသည်။ ဤသို့အားဖြင့် ငွေထောင်ပေါင်းများစွာသည် နောက်ဆုံးမှာ သူတို့မိသားစုထံ ရောက်ရှိသွားတော့သည်။ ထိုသို့ မဟုတ်လျှင် ထိုငွေတွေကို အလဟဿ ဖြုန်းတီးပစ်လိုက်မည်သာ ဖြစ်သည်။ ဘားခန်းများ၊ အခြားအရက်ဆိုင်များ၏ ဒုစရိုက်မျိုးစုံက ရန်ဖြစ်တိုက်ခိုက်ချင်စိတ်ကို နှိုးဆွပေးသဖြင့် သူမက ၎င်းကို ဟန့်ချက်ထိန်းရန် ကော်ဖီဆိုင်များ စတင်ဖွင့်လှစ်ပေးလိုက်သည်။ သူမသည် စုပေါင်းဝန်ဆောင်မှုအဖွဲ့အစည်း[၁] အတွင်း ခေတ်မီအရည်အသွေးတူ ပစ္စည်းကို ရှာဖွေ ဖော်ထုတ်သည့် လှုပ်ရှားမှု၏ ခေါင်းဆောင် ဖြစ်လာသည်။ စာဖတ်ခန်းတွေ၊ အပန်းဖြေ လှုပ်ရှားမှုတွေ၊ စစ်သားများအတွက် စာသင်ခန်းတွေကို တည်ထောင် ပေးသည်။

သူနာပြုများ၏ မိသားစုတွေ နောက်မှာ ကျန်ရစ်ခဲ့သည်ကိုလည်း သူမ မေ့မထားပေ။ သို့ရာတွင် သူတို့၏ လူမှုဘဝ ဖူလုံရေးနှင့် ပတ်သက်၍ တိုက်တွန်းသည့် စာများကိုလည်း သူငယ်ချင်းများထံ အမြဲတမ်း ရေးသည်။ ဖလောရင့်၏ အမေက ပြောသည်။ 'ဖလော်က သူနာပြုတွေရဲ့ မိသားစု

---

၁။ USO = United Service Organization

အကြောင်း ဟိုတုန်းကလည်း အမြဲရေးတယ်။ မကြာခင်ကလည်း ရေးတယ်။ သူတို့တွေအတွက် အတော်ကို စိတ်ပူနေပုံ ရတယ်။ သူက တခြားအကြောင်းအရာတွေကိုတော့ ရေးခဲ့တယ်'

သူမက စာတွေ အများကြီး ရေးနိုင်သူ ဖြစ်သည်။ သူမက ပြောသည်။ 'ကျွန်မ တစ်နေ့လုံး လူနာပြုစုတယ်၊ တစ်ညလုံး စာတွေ ရေးတယ်' သူမ၏ အခြားခက်ခဲသော အလုပ်တစ်ခုမှာ ရိက္ခာများ၊ သူမ သဒ္ဓါစိတ်ဖြင့် ထောက်ပံ့ပေးသည့် ပစ္စည်းများနှင့် မိတ်ဆွေတွေက သီးခြားရည်ရွယ်ချက်ဖြင့် လှူဒါန်းသည့် ပစ္စည်းများကို ဝေခြမ်းပေးရေးကိစ္စ ဖြစ်သည်။

"ကျွန်မက ကုန်မျိုးစုံ ရောင်းတဲ့သူလို ဖြစ်နေတယ်" ဟု စစ်ဝန်ကြီးထံ သူမ စာရေးသည်။

ခြေအိတ်တွေ၊ ရှပ်အင်္ကျီတွေ၊ ဓားနဲ့ ခက်ရင်းတွေ၊ သစ်သားဇွန်းတွေ၊ ရေချိုးစည်တွေ၊ စားပွဲနဲ့ ပုံစံဖြည့်စာရွက်တွေ၊ ဂေါ်ဖီထုပ်နဲ့ မုန်လာဥတွေ၊ ခွဲစိတ်ခန်းသုံး စားပွဲတွေ၊ မျက်နှာသုတ်ပဝါနဲ့ ဆပ်ပြာတွေ၊ ခေါင်းအုံး သေးသေးလေးတွေ၊ ဘီးစိပ်တွေ၊ သန်းသတ်ဆေး၊ အိပ်ရာသုံး မစင်အိုးတွေ၊ သစ်သားခေါင်းအုံးတွေ ... မျိုးစုံပါပဲ။ ကျွန်မရဲ့ နားခိုဆောင်ဓာတ်ပုံကို ရှင့်ဆီ ပို့ပေးမယ်။ အဲဒီအထဲကို တိရစ္ဆာန်ရိုင်းတွေ ဝင်လိုက်ထွက်လိုက်နဲ့။ 'တိရစ္ဆာန်ရိုင်း' ဆိုတာ ကပ်ပါးပိုးကောင်တွေကို ပြောတာနော်။

ထိုအချိန်မှာ ရောက်ရှိနေသည့် ဝန်ကြီးတစ်ဦးဖြစ်သူ ဆစ်ဒနီအော့စ်ဘွန်း[၁] က "စစ္စတာများ၏ မျှော်စင်" ဟု သူ အမည်ပေးထားသော ဖလောရင့်နှင့် သူမ၏အဖွဲ့တို့ နေထိုင်သည့် တန်းလျားများအကြောင်းကို ဖော်ပြထားသည်။

တံခါးပေါက်မှ ဝင်လိုက်သည်နှင့် ရှုပ်ထွေးသော၊ စိတ်ဝင်စားဖွယ် ကောင်းသော မြင်ကွင်းကို ချက်ချင်း တွေ့မြင်ရသည်။ တစ်ဖက်မှာ တံခါးနှစ်ပေါက် သုံးပေါက် တပ်ထားသည့် အခန်းကျယ်ကြီး။ အခြားတစ်ဖက်မှာ တံခါးပေါက်တစ်ခုနှင့် ခန်းမကျယ်ကို ဆက်ထားသည့် သူနာပြု အတော်များများ အိပ်သော အခန်းတစ်ခု ရှိသည်။ အခန်းကျယ်ကြီး၏ တစ်ဖက်ရှိ ကြမ်းပြင်တွင် စတိုပစ္စည်းတွေ၊ ရှပ်အင်္ကျီ ဘောထုပ်

---

၁။ Sidney Osborne

ကြီးတွေ၊ ခြေအိတ်တွေ၊ အပေါ်ရုံ အင်္ကျီရှည်တွေနှင့် ဖလန်နယ်တွေ ပြည့်နှက်နေသည်။

စေတနာ့ဝန်ထမ်း တစ်ယောက်ကလည်း ဤကဲ့သို့ ရေးထားသည်။

ဤအခန်းမှ နေ၍ အာဒါလွတ်ဥ၊ သာဂူ၊ နို့ထမင်း၊ ဂျယ်လီ၊ အမဲစွပ်ပြုတ်နှင့် ရောက်သံပရာ ဖျော်ရည်တို့ ဖြန့်ဝေပေးသည်။ အကျ စစ်သားတွေက တံခါးဝမှာ တရားဝင်စားသောက်ခွင့် လက်မှတ်တွေ ကိုင်၍ စောင့်နေကြရသည်။ ကျွန်တော်တို့က ဤနေရာကို 'ဆူညံပူညံ မျှော်စင်' ဟု နာမည်ပေးထားသည်။ နေ့လယ်ရောက်ပြီဆိုလျှင် ပစ္စည်း တွေ အားလုံး၊ လူတွေအားလုံး ထိုနေရာသို့ ရောက်ရှိနေကြပြီ ဖြစ်သည်။ သေတ္တာတွေ၊ ပါဆယ်ထုပ်တွေ၊ အိပ်ရာခင်းအထုပ်တွေ၊ ရုပ်အင်္ကျီနှင့် အိပ်ရာခင်းအဟောင်းတွေ၊ သကြား၊ ပေါင်မုန့်၊ ကရားအိုးတွေ၊ လက်ကိုင် တပ် ဒယ်တွေ၊ စာအုပ်ပုံတွေ၊ အမျိုးသမီးတွေ၊ သီလရှင်တွေ၊ သူနာပြု တွေ၊ စစ်သားတွေ၊ တူရကီ၊ ဂရိ၊ ပြင်သစ်နှင့် အီတာလျံ အမှုထမ်းတွေ၊ အရာရှိတွေ၊ မစ္စ နိုက်တင်ဂေးလ်ကို စောင့်မျှော်နေကြသည်။ အားလုံးက ကိုယ့်ဘာသာစကားဖြင့် စကားပြောနေကြသည်။

ကသောင်းကနင်း ပြုမူဆောင်ရွက်မှု၊ အလွန်ကြောက်မက်ဖွယ် ဝေဒနာ ခံစားမှုတို့ ရှိသော်လည်း တစ်ခါတစ်ရံ ရယ်စရာ အခြေအနေများနှင့်လည်း ကြုံတွေ့ရတတ်သည်။ တစ်နေ့မှာ သူနာပြုတစ်ယောက်က ဖလောရင့်ကို ထုတ်ပြောသည်။ 'ကျွန်မ ထွက်လာတာက မဒမ်ရယ် ... နည်းမျိုးစုံနဲ့ လွန်လွန် ကဲကဲ အခွင့်အရေးယူ ခံရတာ မှန်သမျှကို အလျှော့ပေးဖို့ ကြိုတင် မျှော်လင့် ထားခဲ့တာပါ၊ ဒါပေမဲ့ အလျှော့မပေးနိုင်တဲ့ ကိစ္စတချို့ ရှိတယ်။ ဦးထုပ် ပျော့တွေလေ ... မဒမ် ...။ အဲဒါတွေက ခေါင်းတစ်ခေါင်းနဲ့ တော်ပေမဲ့ တချို့ဟာတွေက တခြားခေါင်းနဲ့မှ တော်တယ်။ မဒမ်ရယ် ... ဦးထုပ်ကိစ္စ တွေက ကျွန်မ စကူတာရီကို သူနာပြုစုဖို့ ထွက်လာတာလောက် ကြီးကျယ် မယ် ဆိုတာ သိခဲ့ရင် ကျွန်မ လိုက်မလာပါဘူး မဒမ်ရယ်' ဒဏ်ရာရသူများ ၏ ဝေဒနာကို သက်သာပြေပျောက်စေရန် ဆောင်ရွက်နေသည် ဆိုသော အလေးအနက်စိတ်ဖြင့် ဤမိန်းကလေး၏ အခက်အခဲကို ထုံးစံအတိုင်း ပါးနပ်လိမ္မာစွာ ကြိုးစား ဖြေရှင်းပေးလိုက်သည်။

အမြင်အားဖြင့် အတောမသတ်နိုင်သည့် ဤတာဝန်များကို ဆောင်

ရွက်ခြင်းဖြင့် သူမ၏ အချိန်အားလုံးကို အသုံးချနေသည်တော့ မဟုတ်ပေ။ ပရမ်းပတာ အခြေအနေများကို ဖြစ်စေသည့် စနစ်ကို ပြန်လည်ပြုပြင်ရန်၊ ပြန်လည်စည်းရုံးရန်မှာလည်း သူမ၏ ပခုံးပေါ် ကျရောက်နေသည့် ပို၍ လေးလံသောတာဝန် ဖြစ်သည်။ ကိုယ်စားလှယ်လုပ်ငန်းနှင့် ဌာနဆိုင်ရာ တို့၏ကြားမှာ မကြာခဏ ပွတ်တိုက်မှုဖြစ်စေသည့် အကြောင်းရင်းကို သူမ သိသည်။ လိုအပ်သော ပြုပြင်မှုတစ်ခု စတင် မပြဋ္ဌာန်းမီ အောက်ပါ အကြီးအကဲများ၊ သို့မဟုတ် ဌာနဆိုင်ရာများက လုပ်ငန်းများစွာကို အရေးယူဆောင်ရွက်ရမည် ဖြစ်သည်။ အတွင်းဝန်ချုပ်၊ စစ်ရုံးနှင့် စစ်ရေးအတွင်းဝန်၊ ဘုရင့်သက်တော်စောင့်တပ်ဖွဲ့၊ ဥပဒေဌာန၊ စားနပ်ရိက္ခာ ထောက်ပံ့ရေးဌာန၊ ပို့ဆောင်ဆက်သွယ်ရေးဌာန၊ စစ်ဘက်ဆိုင်ရာ ဆေးဌာနနှင့် ငွေတိုက်ဌာန။

ဥပမာအားဖြင့် အဆက်မပြတ် ရောက်လာတတ်သည့် ဒဏ်ရာရသူရာပေါင်းများစွာကို ပြုစုစောင့်ရှောက်ရန်အတွက် အသုံးမပြုသော၊ သို့မဟုတ် ယိုယွင်းပျက်စီးနေသော လူနာဆောင်၊ သို့မဟုတ် အဆောက်အအုံများကို အလျင်အမြန် ပြုပြင်ရန် လိုအပ်နေကြောင်း ဖလောရင့် တွေ့ရှိလျှင် ပထမဦးစွာ အသုံးစရိတ်ကို လန်ဒန် ဆေးဘက်ဆိုင်ရာ ဘုတ်အဖွဲ့က တရားဝင်ခွင့်ပြုရမည်။ ဤခွင့်ပြုမိန့်ကို ဘုရင့်သက်တော်စောင့် တပ်ဖွဲ့သို့ တင်ပြ။ ထို့နောက် ဥပဒေဌာန၊ နောက်ဆုံးမှာ ငွေတိုက်ဌာနသို့ တင်ပြရသည်။ ဤဌာနများက တောင်းဆိုချက်ကို ထောက်ခံရမည်။ ဤသို့ဖြင့် လုပ်ငန်းတစ်ခု မစတင်မီ သီတင်းပတ်ပေါင်းများစွာ ကြာမြင့်နေတော့သည်။

နောက်ဆုံး ကြံရာမရသဖြင့် ဤကိစ္စကို သူ့လက်၊ သူ့ခြေဖြင့် ဆောင်ရွက်ရန် ဆုံးဖြတ်လိုက်ရသည်။ ဤသို့ဖြင့် သူမသည် ဤဌာနများကြား၌ ဆက်ဆံရေးအရာရှိ ဖြစ်နေတော့သည်။ သူမက အလုပ်သမားများကို ကိုယ်တိုင် ငှားရမ်း၊ ကိုယ်တိုင် လုပ်ခပေးသည်။ ဘုတ်အဖွဲ့များက အမိန့်စာကို တစ်ဌာနမှ တစ်ဌာန၊ အောက်ခြေဝန်ထမ်းမှ အထက်အရာရှိသို့ လက်ပြောင်းလက်လွှဲ လုပ်နေချိန်တွင် သူမက အလုပ်ပြီးသွားပြီ ဖြစ်၍ ဒဏ်ရာရသူတွေ မရောက်မီပင် နေရာထိုင်ခင်းတွေ အဆင်သင့် ဖြစ်နေပေပြီ။

တစ်ခါတွင် ရုပ်အင်္ကျီများ အဆောတလျင် လိုအပ်နေသည်။ လုပ်

ရည် ကိုင်ရည်ရှိသည့် ဖလောရင့်က စတိုခန်းထဲမှာ မဖွင့်ဖောက်ရသေးသည့် ရုပ်အင်္ကျီ ၂၇,၀၀၀ ကို တွေ့သည်။ ဘုတ်ထိုင်၍ အဝတ်အစားများဖြန့်ဝေရန် အမိန့်မရမချင်း သူမက အထုပ်တွေဖြေ၍ မဖြစ်ပေ။ ဘုတ်ထိုင်၍ ဆောင်ရွက်ရန် ဆင့်ခေါ်သောအခါ အဖွဲ့ဝင် အများစုက အဝေး ရောက်နေသည်ကို တွေ့ရသည်။ ဤသို့ဖြင့် ဖလောရင့်၏ ကိုယ်ပိုင်ငွေဖြင့် ဖြည့်စွက်ပေးသည့် အင်္ကျီများမှ လွဲ၍ ရက်သတ္တပတ် (၃) ပတ်အထိ ရုပ်အင်္ကျီများ မရရှိကြပေ။ ဤသည်မှာ အိုးနင်းခွက်နင်း ဖြစ်နေသော လုပ်ပိုင်ခွင့်အာဏာ၏ နမူနာတစ်ခုသာ ရှိသေးသည်။ ဤကဲ့သို့သော နမူနာတွေက နေ့စဉ် ဖြစ်ပျက်နေသည်။ သူမက ဝန်တိုမစ္ဆေရစိတ်ရှိသော ဌာနဆိုင်ရာအကြီးအကဲများ အကြောင်းကို သက်သေသက္ကာယဖြင့် ဖွင့်ချ တင်ပြပြီး လုပ်ပိုင်ခွင့်အာဏာ ရအောင် အပတ်တကုတ် ကြိုးစားသည်။

ဌာနအားလုံးအနက် အကူစစ်သားများကို ကြီးကြပ်သည့် ဌာနက ပရမ်းပတာ အနိုင်ဆုံး ဖြစ်သည်။ ဤအကူစစ်သားများမှာ များသော အားဖြင့် စစ်တပ်မှာ ရာထူးအဆင့်ဆင့်ရှိသော နာလန်ထ လူမမာများ ဖြစ်သည်။ ကျန်းမာလာသည်နှင့် ပြန်၍ စစ်မှုထမ်းရမည် ဖြစ်သည်။ သို့ဖြစ်၍ သူတို့က အလုပ်ကို ကောင်းကောင်းလုပ်သော်လည်း အသိပညာ ပိုရအောင်လုပ်ဖို့ စိတ်မဝင်စား။ သူတို့ကို သတ်မှတ်ပေးထားသည့် တာဝန်ကို ဖြစ်စေ၊ လုပ်ငန်းနှင့် ဆက်စပ်နေသော လှုပ်ရှားဆောင်ရွက်မှုများကို ဖြစ်စေ ပိုမိုကျွမ်းကျင်တတ်မြောက်အောင် ကြိုးစားရန် စိတ်မဝင်စားကြပေ။

များသောအားဖြင့် သူတို့တာဝန်မှာ ရိက္ခာပစ္စည်းတွေကို ထိန်းသိမ်းရန်နှင့် ဖြန့်ဝေပေးရန် ဖြစ်သည်။ သို့ရာတွင် ထိုရိက္ခာပစ္စည်းတွေကို ဘယ်မှာ ရှာရမှန်း မသိပေ။ တစ်ခါက အစွန်းချွတ်ဆေး လိုအပ်သောကြောင့် တောင်းသည်ကို သုံးကြိမ်တိုင်တိုင် 'မရှိတော့ဘူး' ဟု ပြောသည်။ ဖလောရင့်က စေ့စေ့စပ်စပ်ရှာရန် မရမက ပြောသည်။ နောက်ဆုံး၌ ပေါင်ချိန် (၉၀) ကို တစ်နေရာတည်း၌ အလွယ်တကူ တွေ့ရှိအောင် စနစ်တကျ ထားသည်ကို သူမ တွေ့လိုက်ရသည်။

အကူစစ်သားများနှင့် ပတ်သက်၍ လမ်းမှန်ရောက်ရန်၊ ကုစားရန် ဆောင်ရွက်သည့် သူမ၏ အစီရင်ခံစာတွင် အကြံပြုထားသည်မှာ–

အကူ စစ်သားကောင်းများ ဖြစ်သော နာလန်ထများအား သူတို့

လုပ်ငန်းကို လေ့လာ သင်ယူပြီးလျှင်ပြီးချင်း ခရိုင်းမီးယားသို့ မစေလွှတ်လျှင်၊ စစ်ဦးစီးချုပ်က တပ်ရင်းအသီးသီးရှိ အရာရှိ အရာခံများကို ပန်ကြား၍ တပ်ရင်းအသီးသီးမှ ဆေးရုံအကူစစ်သား၊ သို့မဟုတ် အသုံးမပြုသော ဂိုဒေါင်တစ်ခုမှ အကူစစ်သား ဆယ်ယောက်စီ ရွေးချယ်နိုင်းလျှင် (လူငယ်စစ်သားများ မဟုတ်ဘဲ အကျင့်စာရိတ္တ ကောင်းသူများထဲမှ ရွေးချယ်လျှင်) ကျွမ်းကျင်ထိရောက်သော တပ်မကြီးတစ်ခု ဖွဲ့စည်းရန် အတွက် မျှော်လင့်ချက် ပေးပါလိမ့်မည်။ အကူစစ်သားများကို လစာကောင်းကောင်း ပေး၊ ကောင်းကောင်း ကျွေး၍ နေရေးထိုင်ရေး ကောင်းစွာစီစဉ်ပေးသင့်ပါသည်။ သူတို့မှာ ယခုအခါ အလုပ်ကို မတန်တဆ လုပ်ရပြီး အစားဆင်းရဲ၊ အနေဆင်းရဲ ဖြစ်နေပါသည်။

အင်္ဂလန်မှ သင်္ဘောဖြင့် ပို့လိုက်သော ထောက်ပံ့ပစ္စည်း ရိက္ခာများ၏ ပြဿနာကြောင့် ဖလောရင့် စိတ်သောက ဖြစ်ရသည်၊ စီမံအုပ်ချုပ်မှု လွဲမှားခြင်းကြောင့် ဒုက္ခရောက်ရသဖြင့် တည့်မတ်ပြုပြင်ရန် စီမံချက်များ စတင်လုပ်ဆောင်ဖို့ ဆုံးဖြတ်လိုက်သည်။ ဥပမာအားဖြင့် ဆေးရုံသုံး ခုတင်တွေ ရောက်လာသည်။ သို့ရာတွင် ခုတင် ခြေထောက်တွေကို ခရိုင်းမီးယားသို့ ပို့လိုက်သည်။ လိုအပ်နေသော သိုလှောင်ဆေးပစ္စည်းများကို မကြာခဏ ခဲယမ်းမီးကျောက် အပုံတွေအောက်မှာ ထုပ်ပိုး သိမ်းဆည်းထားကြသည်။ ထိုအခါ မလိုအပ်သည့် ခဲယမ်းမီးကျောက်များကို ဖယ်ရှားပြီးမှသာလျှင် ဆေးပစ္စည်းထုပ်တွေကို ဖွင့်နိုင်သည်။ တစ်ခါတွင် ဘွတ်ဖိနပ်များ ရောက်လာသည်။ ဘွတ်ဖိနပ်တွေ အားလုံးက ဘယ်ဘက်တွေချည်း ဖြစ်နေသည်။

"ကမ်းစပ်တွင် ကုန်လှောင်ရုံများ မရှိပါ။ သင်္ဘော ကုန်တင်ကုန်ချက ဈေးကြီး၍ နှေးကွေးသည်" ဟု ပြည်ထဲရေးရုံး အာဏာပိုင်များထံ စာရေးသည်။ ဤအခက်အခဲကို ဖြေရှင်းရန် အစိုးရ ကုန်လှောင်ရုံများ ဆောက်သင့်ကြောင်း အကြံပေးသည်။

စကူတာရီမှာရော ကွန်စတန်တီနိုပယ်မှာပါ ထောက်ပံ့ပစ္စည်း ရိက္ခာများကို လက်ခံရန်၊ ဖြန့်ဖြူးရန် ရုံးမရှိပေ။ သို့ဖြစ်၍ ဆေးရုံအတွက် ပစ္စည်းများ ကုန်သင်္ဘောများဖြင့် ရောက်လာလျှင် ထိုပစ္စည်းများမှာ တူရကီအကောက်ခွန်ရုံး၌ မလိုအပ်ဘဲ ကြန့်ကြာနေတတ်သည်။ ထိုပစ္စည်းများ

ဖြန့်ဝေသောအခါ အရောရော အထွေးထွေးနှင့် အခက်အခဲ ကြုံရပြီး နှောင့်နှေး ကြန့်ကြာသဖြင့် စိတ်ကုန်စရာ ဖြစ်ရတော့သည်။ သို့ဖြစ်၍ ထောက်ပံ့ပစ္စည်း များစွာသည် ပျောက်ဆုံး၊ ပျက်စီး၊ ဖျက်ဆီးခံရ ဖြစ်သွားသည်။ ဤအခြေအနေကို သူမက ရေးမှတ်ထားသည်။ "အကောက်ခွန်ရုံးဟာ အောက်ခြေမရှိတဲ့ တွင်းကြီးပဲ။ ပစ်ချလိုက်ရင် ဘာမှ ပြန်ထွက်မလာတော့တဲ့ ဌာနပဲ။"

ကြီးကြပ်ရေး အဖွဲ့တစ်ခုဖွဲ့ရန် စီစဉ်နေစဉ်မှာပင် ထောက်ပံ့ပစ္စည်း အမျိုးမျိုးကို ယင်းတို့၏ သဘာဝ၊ ပို့ဆောင်ရမည့် နေရာကို ထည့်သွင်းမစဉ်းစားဘဲ ကုန်းပေါ်ချပြီး အတူတကွ သိုလှောင်ထားသည်ဆိုသော အချက်ကို သူမ တွေ့ရှိသည်။ သင်္ဘောတွေက အရေးတကြီး လိုအပ်နေသော ပစ္စည်းရိက္ခာများကို စကူတာရီ၌ မချသေးဘဲ ဘာလာကလာဗာနှင့် စကူတာရီကို သုံးခေါက်လောက် အသွား-အပြန် ပြေးဆွဲနေကြသေးသည်။

ဤရိက္ခာပစ္စည်းများကို ချက်ချင်း မချသည့်ကိစ္စ၊ လိုအပ်သည့်နေရာမှာ မချသည့်ကိစ္စနှင့် ပတ်သက်၍ သူမက စစ်ဝန်ကြီး ဆစ်ဒနီဟားဘတ်ထံ စာရေးသည်။

"အင်္ဂလိပ် လူမျိုးတွေက စကူတာရီကို တည်းခိုစားသောက်ဆိုင်ရှိတဲ့ နေရာတစ်ခုလို၊ အငှားလိုက် ရထားလုံးလို၊ ထောက်ပံ့ ဖြည့်ဆည်းရမယ့် အိမ်လို ထင်မြင် ယူဆနေကြတယ်။ မနေ့တုန်းက သကြား (၂၅) စည် ကုန်းပေါ် ချဖို့ နွား (၄) ကောင်၊ လူနှစ်ယောက်နဲ့ လုပ်တာ အချိန် (၆) နာရီ ကြာတယ်။ ... လယ်သမားတွေ သုံးတဲ့ မြင်းတွေ၊ မြည်းတွေက လွဲလို့ ဝန်တင်မြင်းတွေ၊ မြည်းတွေ မရှိဘူး။ ... တစ်ပတ်မှာ (၄) ရက်ကျွန်မတို့ ကွန်စတင်တီနိုပယ်နဲ့ အဆက်အသွယ် မရဘူး။ တစ်မိုင်နဲ့ (၂) ဖာလုံ ဝေးတဲ့ အခြားဆိပ်ကမ်း တစ်ခုက လွဲလို့ပေါ့။ အဲဒီဆိပ်ကမ်း သွားဖို့ လမ်းခရီးက ဖြတ်သန်းဖို့ အတော်ခက်တယ်။"

ဒဏ်ရာရ စစ်သားများ စကူတာရီသို့ ရောက်လာသည့် အခြေအနေနှင့် ပတ်သက်၍ အဓိက ပြဿနာမှာ သင့်တင့်လျောက်ပတ်သော အဝတ်အစားများ မရှိခြင်းပင် ဖြစ်သည်။ "ဒီကို ပြန်လာတဲ့ စစ်သားတွေရဲ့ အခြေအနေက နှင်းခဲကိုက်ဝေဒနာ ဖြစ်နေတယ်။ အဝတ်အစား မဲ့လုနီးပါး ဖြစ်နေတယ်။ စုတ်ပြတ်နေတယ်" ဟု ဖလောရင့်က ရေးထားသည်။ ဤပြဿနာ

နှင့် ပတ်သက်၍ သူနာပြု တစ်ယောက်ကလည်း စာရေး၍ ပြောပြထားသေးသည်။

ရှေ့တန်းက ရောက်လာတဲ့ စစ်သားတွေက ခရိုင်းမီးယားရဲ့ ပြင်းထန်တဲ့ နှင်းခဲဒဏ်ကို ကာကွယ်ဖို့ ပိတ်သား ရှပ်အင်္ကျီပါးပါးလေးတွေပဲ ဝတ်ထားရတယ်။ သူတို့ကို လူနာတင် ထမ်းစင်နဲ့ သယ်လာတဲ့အခါ အဝတ်အစားတွေ စုတ်ပြဲကုန်တယ်။ တချို့လူတွေကျတော့ အသားနဲ့ အဝတ်အစား တွဲပြီး စေးကပ်နေတယ်။ ခြေထောက်ကျပြန်တော့ ဘွတ်ဖိနပ်က အစိတ်စိတ်အမြွာမြွာ ပြတ်ထွက်နေတယ်။ အဲဒီကနေ အသားစတွေလည်း ထွက်နေတယ်။ မနက်ဆိုရင် အရွတ်နဲ့ အရိုးတွေကို ဒီအတိုင်း လှစ်ပြထားတယ်။

စစ်သားတွေအတွက် အဝတ်အစား ရရန် ဖလောရင့်က တောင်းဆိုခဲ့သည်။ 'စစ်သားတွေကို နွေးထွေးတဲ့ အဝတ်အစားတွေ မပေးဘူးဆိုရင် နပိုလီယန်[၁] ရဲ့ ရုရှားချီတက်ပွဲမျိုး ဒီမှာ ထပ်ဖြစ်လိမ့်မယ်' ဟု သူမက သတိပေးသည်။

သူမ၏ အလုပ်မှာရော၊ ဌာနနှင့် အရာရှိများနှင့် ဆက်စပ်နေသည့် အလုပ်မှာရော လုပ်ငန်း၏ အင်္ဂါရပ်တိုင်းမှာ သူမက အသေးစိတ် ထက်မြက်သော အမြင် ရှိသည်။ လိုအပ်သော ပြုပြင်မှုများကို အောင်မြင်ပြီးမြောက်အောင် လုပ်ဆောင်ရန် နည်းလမ်းများကိုလည်း မမောနိုင် မပန်းနိုင် ရှာဖွေနေသည်။ သူမ ရောက်ရှိပြီး လအနည်းငယ် အတွင်းမှာ လက်ရှိဖြစ်ပျက်နေသော စီမံအုပ်ချုပ်မှု လွဲမှားခြင်း၏ အနိဋ္ဌာရုံများကို သင့်လျော်ရာ လမ်းကြောင်းမှ ရှည်ရှည်လျားလျား တင်ပြ အစီရင်ခံပြီး၊ ချက်ချင်းကုစားရမည့် လုပ်ငန်းစဉ်များကို အကြံပေးခဲ့သည်။

စီစဉ်ဆောင်ရွက်မှု မရှိခြင်းကြောင့် ဖြစ်စေ၊ လျော့ကန်သော လုပ်ပိုင်ခွင့် မရှိခြင်းကြောင့် ဖြစ်စေ ဖြစ်လာသည့် ပြဿနာကို သူမက မဖြေရှင်းဘဲ ထားခဲ့သည် မရှိပေ။ သင့်လျော်သော အရေးယူ ဆောင်ရွက်မှုကို အလျင်အမြန် တောင်းဆိုခဲ့သည်သာ ဖြစ်သည်။

ခွဲစိတ်ကုသသည့် နေရာမှာ ကူညီရ၍ လူနာဆောင်မှာ နေ့ရောညပါ အလုပ်များသော်လည်း စီစဉ်ဆောင်ရွက်မှုနှင့် ထောက်ပံ့ပစ္စည်း ရိက္ခာတို့

---

၁။ Napoleon

နှင့် ပတ်သက်သည့် ရင်မောစရာ ပြဿနာများကို သူမက အမိအရ လက်ခံထားသည်။ အရေးယူဆောင်ရွက်ရန် တောင်းဆိုသည့်စာများ၊ လိုအပ်သော ပြောင်းလဲမှုများအတွက် အစီအစဉ်များ တင်ပြသည့် စာများကို အင်္ဂလန်ရှိ အာဏာပိုင်များထံ တရစပ် ရေးသားပေးပို့သည်။

စစ်ဝန်ကြီးလည်း ဖြစ်၊ ဖလောရင့်၏ ရင်းနှီးသော မိတ်ဆွေလည်း ဖြစ်သည့် ဆာ ဆစ်ဒနီဟားဘတ်က ရဲရင့်သော သူနာပြုဆရာမလေးထံမှ စာတွေ တသီတတန်းကြီး မကြာခဏ ရသည်။ သူမက ဌာနဆိုင်ရာ အကြီးအကဲထံ အကြံဉာဏ်တွေ တင်ပြရုံမျှသာမက စကူတာရီ၏ ပရမ်းပတာ ကိစ္စများ ပြေလည်ရန် အမိန့်ထုတ် ကူညီပေးနိုင်သည့် အရာရှိများထံသို့လည်း အနူးအညွတ် မေတ္တာရပ်ခံသည်။ ဝေဖန်ပြစ်တင်ခြင်း၊ လှည့်ပတ်ပြောဆိုခြင်း၊ ခြိမ်းခြောက်ခြင်း နည်းမျိုးစုံဖြင့် သင့်လျော်သော ကုစားရေး အမိန့်စာများကို ပက်ကျိသွားသလို မနှောင့်နှေးဘဲ ရရှိအောင် တောင်းဆိုသည်။

သူမ၏ တစ်ခုတည်းသော ရည်ရွယ်ချက်မှာ "အကြီးအကဲ" ၏ အမိန့်အာဏာအရ သူမ ပြုစုနေရသည့် အင်္ဂလန်၏ ဒဏ်ရာရ သားကောင်းများအတွက် လိုအပ်သော သက်သာမှုကို ဆောင်ကြဉ်းပေးရန် ဖြစ်သည်။ ဖွဲ့ကောင်းကောင်းဖြင့် မရမနေ တောင်းဆိုသည့် သူမ၏ အစီရင်ခံစာများ၊ စာများ၏ အကျိုးကျေးဇူးကြောင့် သူမ၏ အလုပ်တာဝန်များကို စုံစမ်းစစ်ဆေးရန် "ကျန်းမာရေးဆိုင်ရာ ကော်မရှင်" ကို ၁၈၅၅ ခု အစောပိုင်းတွင် ဖွဲ့စည်း တာဝန်ပေးခဲ့သည်။ ဤကော်မရှင်က အခြေအနေများမှာ သူမ တင်ပြသည့်အတိုင်း ဖြစ်နေသည်ကို တွေ့ရှိသောအခါ ဒဏ်ရာရ စစ်သားများ အခြေအနေ ကောင်းမွန်တိုးတက်ရေးအတွက် စက်ယန္တရား တစ်ခုပမာ အလျင်အမြန် စတင် ဆောင်ရွက်တော့သည်။

## အခန်း [ ၇ ]

## ပေါ်ပြူလာ အမျိုးသမီး သူရဲကောင်း

သူမ၏ လုပ်ပုံကိုင်ပုံက ဒဏ်ရာရ စစ်သားများ၏ နှလုံးသားထဲသို့ လွှမ်းမိုးသွားသည်။ တစ်ခါတုန်းက အစုတ်စုတ် အပြတ်ပြတ်နှင့် ချေးမြည့်မတတ် လျစ်လျူရှု ခံရသူတွေက ယခုအခါ စာနာထောက်ထားသော၊ လိမ္မာပါးနပ်သော လက်များ၏ ဂရုတစိုက် စောင့်ရှောက်ခြင်းကို ခံနေရပြီ ဖြစ်သည်။ သူနာပြုများ၏ လုပ်ငန်း အောင်မြင်သဖြင့် နေရာအနှံ့မှ ရွှန်းရွှန်းဝေအောင် ချီးကျူးဂုဏ်ပြုမှုများကို လက်ခံရရှိသည်။ သူမ၏ ဦးဆောင်မှုအောက်ရှိ အမျိုးသမီးများအား တစ်နည်းမဟုတ် တစ်နည်း စိတ်ထိခိုက်စေမည့် အကြံပြုချက် အသေးအဖွဲ့ကိုပင် ဖလောရင့် မကျေနပ်ပေ။

သို့ရာတွင် ဆာဟားဘတ်က သူမမှာ အကူအညီ လိုအပ်သည်ဟု ဆုံးဖြတ်ပြီး ဖလောရင့်ကို အသိမပေးဘဲ နောက်ထပ် သူနာပြု (၄၆) ယောက် စေလွှတ်လိုက်သည်။ သူတို့ ရောက်ရှိလာသည့်အတွက် ခေါင်းဆောင်၏ စိတ်နှလုံးကို စိတ်ပျက် အားလျော့သွားစေသည်။ အဘယ့်ကြောင့်ဆိုသော် စစ်ဝန်ကြီးက လုပ်ပိုင်ခွင့်စည်းကို ကျော်ပြီး သူ့ဆန္ဒဖြင့် သူမ၏ လုပ်ပိုင်ခွင့်ကို သတ်မှတ် ပြဋ္ဌာန်းလိုက်သည်ဟု ခံစားရသောကြောင့် ဖြစ်သည်။ သို့ဖြစ်၍ ဤကိစ္စနှင့် ပတ်သက်ပြီး ဝန်ကြီးထံ စာရေးသည်။

ကျွန်မ နှလုံးသားမှာ အလွန်တန်ဖိုးထားတဲ့၊ အလွန်မြတ်နိုးတဲ့ ကိစ္စကို ရှင်က စွန့်ပယ်လိုက်တာပဲ။ အများတကာရဲ့ အသံတွေကြောင့် ရှင်ကိုယ်တိုင် ရေးခဲ့တဲ့ စကားလုံးတွေကို စွန့်ပယ်လိုက်တာပဲ။ ရှင်က တော့ ကျွန်မ နုတ်ထွက်သင့်တယ်လို့ ခံစားနေရမှာပေါ့။ အခြေအနေ

တွေက ကျွန်မ အောင်မြင်အောင် မလုပ်ဆောင်နိုင်တဲ့ ကိစ္စကို တာဝန်ပေးထားတယ်လို့ သွယ်ဝိုက် ညွှန်းဆိုလိုက်တာပေါ့။ ဒီသနားစရာ ခြေဦးတည့်ရာ သွားနေသူတွေအတွက် တစ်စုံတစ်ရာ အတိုင်းအတာအထိ လုပ်ဆောင်ပေးပြီးတဲ့ အချိန်အထိ ကျွန်မ ဒီနေရာမှာ ဆက်လက် ရပ်တည် နေဦးမှာပဲ ...။

ဆယ့်တစ်ရက်ကြာ အတွေ့အကြုံရဲ့အဆုံး ကျွန်မမှာ နောက်ထပ် အမျိုးသမီးတွေ လိုအပ်တယ် ဆိုတဲ့ အင်မတန် မိုက်မဲတဲ့ စိတ်ကူး ရှိခဲ့ရင် ရှင့်လို နိုင်ငံခေါင်းဆောင်တစ်ယောက် အနေနဲ့ 'ခင်ဗျားရဲ့လုပ်ငန်းစဉ် ပိုကောင်းလာတဲ့အထိ စောင့်ပါဦး' လို့ မပြောသင့်ဘူးလား။ ဒါပေမဲ့ ကျွန်မက ဒီလိုတောင်းဆိုမှုမျိုး မလုပ်ပါဘူး။

ဖလောရင့်က သူမ၏ မကျေနပ်မှုကို အကျိုးသင့် အကြောင်းသင့် ရှင်းပြသည်။ အဘယ့်ကြောင့်ဆိုသော် သူနာပြုများကို သူမ၏ ခွင့်ပြုချက်၊ သို့မဟုတ် အကြံပေးချက်ဖြင့်သာလျှင် စေလွှတ်ရမည်သာမက ဤကိစ္စကို သူမထံ တင်ပြရမည့်အစား အခြားသော ဌာနဆိုင်ရာများကို တင်ပြရန် ညွှန်ကြားထားသောကြောင့် ဖြစ်သည်။ ဤလုပ်ဆောင်ချက်က သူမ၏ လုပ်ပိုင်ခွင့်ကို လျှော့ချလိုက်ခြင်း ဖြစ်သည်။ ထို့ပြင် သူမ၏နယ်ပယ်က အခွင့်အာဏာအားလုံး တစ်ဦးတစ်ယောက်ထံမှာသာ ဗဟိုပြုထားသင့်ကြောင်း သူမ သိထားသည်။ ဤလုပ်ဆောင်ချက်က သူမ ပင်ပင်ပန်းပန်း ခက်ခက်ခဲခဲ တည်ဆောက်ထားသည့် စနစ်ကို ဖျက်ဆီးပစ်ခြင်းနှင့် တူညီသော လုပ်ရပ်ကို လုပ်ဆောင်ရန် လမ်းဖွင့်ပေးလိုက်သလို ဖြစ်နေသည်။

ထို့ပြင် ထပ်ဖြည့်လိုက်သော သူနာပြုများ ရောက်လာခြင်းသည် အသေးအမွှား အခက်အခဲ များစွာကို ဖြစ်စေသည်။ ဤကိစ္စနှင့် ပတ်သက်၍ ဘရေ့စ်ဘရစ်ချ်က ရေးထားသည်။ "သူနာပြု ၄၆ ယောက်က ကျွန်တော်တို့ အပေါ်ကို ကျိုင်းကောင် တစ်အုပ်ကြီး ကျလာသလိုပဲ။ သူတို့ကို ဘယ်မှာ နေနိုင်းမလဲ၊ ဘယ်မှာ ကျွေးမလဲ၊ ဘယ်မှာ နေရာပေးမလဲ ဆိုတာ ခက်ခဲတယ်။ သူတို့ကို ဘယ်လို စောင့်ရှောက်မလဲ ဆိုတာ စဉ်းစားလို့တောင် မရဘူး။"

ဖလောရင့်က သူနာပြုတစ်ယောက်အဖြစ် ကျွမ်းကျင်လိမ္မာစွာ လုပ်ဆောင်နေသည့် သူမ၏ တာဝန်ဝတ္တရားများကို နှောင့်ယှက်ဖို့ဆိုလျှင်

အသေးအဖွဲ့ကလေးကိုတောင် ခွင့်ပြုမည့်သူ မဟုတ်ပေ။ အဓိက အရေးကြီးသည့် ကိစ္စမှာ ဒဏ်ရာရ စစ်သားများ ဖြစ်သည်။ သူမ၏ မူဝါဒကို ပြောင်းလဲလိုက်ပြီး လိုအပ်သလို ပြန်လည်ညှိနှိုင်း လုပ်ဆောင်ရာတွင် သူမ၏ ရှိသမျှအင်အားကို ပို၍သုံးလိုက်သည်။ အချို့ သူနာပြုတွေကို အခြားဆေးရုံများဆီ ပို့ပြီး၊ အချို့ကို ဘာလာကလာဗာ အထိပင် ပို့လိုက်သည်။ သို့ရာတွင် နောက်ဆုံး၌ စစ်ရှိန်မြင့်လာပြီး သူနာပြုတွေ ပို၍ လိုအပ်လာသောကြောင့် သူတို့အားလုံး ဆေးရုံ၏ အနေအထားနှင့် အံဝင်ခွင်ကျ ဖြစ်သွားသည်။ ပဋိပက္ခများ ပြီးဆုံးချိန်တွင် သူမ၏ လက်အောက်၌ လိမ္မာကျွမ်းကျင်သော သူနာပြု (၁၂၅) ယောက် ရှိနေပြီ ဖြစ်သည်။

စကူတာရီ လုပ်ငန်းက ယခုအခါ ကောင်းမွန်စွာ တိုးတက်နေပြီ ဖြစ်သည်။ အသေအပျောက်နှုန်းကလည်း သိသိသာသာ ကျဆင်းသွားပြီ။ နွေဦးရာသီ ရောက်သောအခါ လူနာအရေအတွက် လျော့ကျသွားသည်။ ဆီဘက်စတိုပိုလ်မြို့ကို ဝိုင်းဝန်းပိတ်ဆို့ပြီး သဲကြီးမဲကြီး တစ်ဟုန်ထိုး တိုက်စစ်ဆင်သည့် အချိန်တွင် ဒဏ်ရာရသူတွေ တိုးပွားလာဦးမည်ကို ဖလောရင့်သိသည်။ စကူတာရီသို့ ပင်လယ်ရေကြောင်း ခရီးဖြင့် ခက်ခက်ခဲခဲ သယ်ဆောင်ရသည်ကို ရှောင်ကြဉ်ရန်အတွက် ဖြစ်နိုင်လျှင် ဒဏ်ရာရသူတွေကို ဘာလာကလာဗာသို့ ပို့ဆောင်မည် ဖြစ်သောကြောင့် သူမက စစ်သားများအတွက် စီစဉ်ပေးထားသည့် ဘာလာကလာဗာရှိ ဆေးရုံများကို ကြည့်ရှုစစ်ဆေးရန် စိတ်အား ထက်သန်နေသည်။

ခရိုင်းမီးယားတွင် တပ်ရင်း ဆေးရုံများအပြင် အထွေထွေရောဂါကုဆေးရုံလေးခု ရှိသည်။ ဘာလာကလာဗာရှိ အထွေထွေဆေးရုံ၊ ရဲတိုက်ဆေးရုံ၊ အထွေထွေ ဆေးရုံ၏ အပေါ်ဘက် ဂျန်နိုအိစ်[၁] ကုန်းမြင့်ပေါ်ရှိ တဲများ အပါအဝင် စိန့်ဂျော့[၂] ဘုန်းကြီးကျောင်းဆေးရုံနှင့် ကုန်းလမ်းပို့ဆောင်ရေး၏ ဆေးရုံများ ဖြစ်ပြီး ထိုဆေးရုံများသို့ သူမ သွားရောက်ချင်သည်။ ၂ မေ ၁၈၅၅ တွင် ဖလောရင့် ခရိုင်းမီးယားသို့ ခရီးထွက်လာသည်။ ဆေးရုံအသီးသီးသို့ သွားရောက်ပြီး ဒဏ်ရာရသူများကို ပြုစုစောင့်ရှောက်ရန် စီစဉ်ပေးသည်။

မေ (၅) ရက် နေ့စွဲဖြင့် သူမ ရေးမှတ်ထားသည်မှာ–

၁။ Genoese ၂။ St. George

မီးသင်္ဘောဖြင့် ဘော့စ်ဖရပ်စ်[၁] ရေလက်ကြားကို ဆန်တက်၍ ပင်လယ်နက်ကို ဖြတ်သွားသည့်ခရီးမှာ သူနာပြု လေးယောက်၊ ထမင်းချက် နှစ်ယောက်၊ အကူ ကောင်လေး တစ်ယောက်တို့ အတူလိုက်ပါလာသည်။ တပ်ရင်း ဆေးရုံများကို စစ်ဆေးပြုပြင်ပေးရန် ခရင်မ် တာတာရီ[၂] သို့ ရောက်သည်။ ရောဘတ်လိုး သို့မဟုတ် ရောဘတ်စလိုး[၃] သင်္ဘောက အလွန်နှေးကွေးလှသဖြင့် လူနာ (၄၂၀) ကို သယ်ဆောင်ကာ တပ်ရင်းများရှိ နာလန်ထ လူနာဆောင်များသို့ ပြန်အပို့တွင် ထပ်၍ ပစ်ခတ်ခံရသည်။

ဖလောရင့်၏ ပထမဆုံး ခရီးစဉ်မှာ တပ်ရင်း တပ်ဖွဲ့များ၏ တပ်မှူး လော့ဒ် ရဂ္ဂလန်[၄] ထံသို့ ဖြစ်သည်။ သူမက ဤခရီးကို မြင်းစီး၍ သွားရသည်။ သူမ စီးလာသည့် မြင်းတန်းက အာရုံစိုက်၍ ကြည့်စရာတွေကို အများကြီး တွေ့ရသည်။ လမ်းများကို ကွေ့ကာပတ်ကာဖြင့် သွားရသည့် ခရီးစဉ်တစ်လျှောက်တွင် လားတွေ၊ အမြောက်တွေ၊ ခြေလျင်စစ်သားတွေ၊ ယာဉ်အပျက်အစီးတွေ၊ ကြောက်လန့်တကြား ပတတ်ရပ်နေသည့် မြင်းတွေနှင့် ပြည့်နှက်နေသည်ကို တွေ့ရသည်။ သို့ရာတွင် စစ်သားတွေက သူတို့၏ စစ်ရေးတာဝန်များကို တက်တက်ကြွကြွ ထမ်းဆောင်နေသည်ကို တွေ့ရှိရသည့် အခွင့်အရေး ရသဖြင့် ဖလောရင့် ကျေးဇူးတင်မိသည်။

"ကတုတ်ကျင်းထဲ (၇) ရက် နေရတာမှာ (၅) ညက ထူးထူးခြားခြား အလုပ်လုပ်ရတယ်" ဟု ရက်အနည်းငယ် ကြာပြီးနောက် ဝင်ဆာရဲတိုက်[၅] သို့ နောက်ဆုံးပေးပို့သည့် စာထဲတွင် ဖော်ပြထားသည်။

> ကတုတ်ကျင်းထဲမှာ ၃၆ နာရီ ဆက်တိုက် ထူးထူးခြားခြား အလုပ်လုပ်ရတယ်။ တစ်ဝက်က လဲလျောင်းနေတယ်။ ၄၈ နာရီလုံးလုံး ဝက်သားဆားနယ် အစိမ်းကို သကြားဖြူး၊ ရမ်နဲ့ ဘီစကစ်က လွဲလို့ တခြားဘာမှ စားစရာ မရှိဘူး။ ကိုယ့်ရိက္ခာ ကိုယ်ချက်ဖို့၊ ချက်နိုင်မယ်လို့လည်း မထင်လို့ သူသုံးမယ့် လောင်စာဆီကို ပင်ပန်းနေတဲ့ စစ်သားက မရှာနိုင်တော့ ဘယ်ဟာကိုမှ ပူပူနွေးနွေး ချက်မစားရဘူး။ အဲဒီအခြေအနေတွေ ကြားထဲမှာ ထူးခြားတာက စစ်တပ်ဟာ သူတို့ရဲ့ သတ္တိနဲ့ စိတ်ရှည်

---

၁။ **Bosphorus** ၂။ **Crim Tartary** ၃။ ***Robert Lowe* or *Robert Slow***
၄။ **Lord Raglan** ၅။ **Windsor Castle**

သည်းခံမှုကို ထိန်းသိမ်းထားနိုင်တယ်။ အခုအချိန်မှာ စိတ်အားတက်ကြွနေကြတယ်။ လူငယ်တွေထက်တောင် လူကြီးတွေက ပိုတက်ကြွတယ်။ သူတို့ကို ကတုတ်ကျင်းထဲ ပြန်ဝင်ခိုင်းနေရတယ်။ မြင်ရတဲ့ မြင်ကွင်းတွေက ရင်သပ်ရှုမောဖွယ်၊ အံ့မခန်းဖွယ်ရာပါပဲ။

ကတုတ်ကျင်းများသို့ သွားခြင်းနှင့် တပ်မှူးထံသို့ တရားဝင် သွားခြင်းများ ပြုလုပ်ပြီးနောက် ရဲစွမ်းသတ္တိရှိသော သူနာပြုဆရာမက ဆေးရုံများကို လှည့်လည်စစ်ဆေးသည်။ ရက်ပေါင်း အတော်ကြာကြာ ဆက်လက်ခရီးသွားပြီး တဲအသစ်များ ဆောက်လုပ်ရန် အကြံပေးသည်။ အထူး ဓာတ်စာချက်ရန် စားဖိုဆောင်များ စီစဉ်ပေးသည်။ သူနာပြုများ သူတို့တာဝန်ကို ကျွမ်းကျွမ်းကျင်ကျင် ဆောင်ရွက်နိုင်မှု ရှိ မရှိ ကြည့်ရှုစစ်ဆေးသည်။ သူမ၏ စကူတာရီ အခြေစိုက်စခန်းမှာ ကဲ့သို့ပင် ဤနေရာမှာလည်း ကူးစက်ရောဂါ ဖြစ်ပွားမှာကို မကြောက်မရွံ့ဘဲ အဖျားရောဂါ စွဲကပ်နေသည့် စစ်သားများကို ပြုစုပေးသည်။

တစ်ညနေ သူမ နေထိုင်ရာ အဆောင်သို့ အပြန်တွင် ထူးထူးခြားခြားပင်ပန်းနွမ်းလျသဖြင့် သူမ ညည်းတွားနေသည်။ မနက်ရောက်သောအခါ သူမသည် ခရိုင်းမီးယန်း အဖျားရောဂါ[၁] ၏ သားကောင်ဖြစ်နေသည်ကို တွေ့ရသည်။ စစ်သားများက ဤကိစ္စကို ကြမ္မာဆိုး ကျရောက်ပြီဟု ရှုမြင်ကြသည်။ သို့ရာတွင် ၎င်းသည် ဘုရားသခင် စီစဉ်ညွှန်ကြားသော ကြည့်ရှုစောင့်ရှောက်မှု ဖြစ်ပေသည်။ အဘယ့်ကြောင့်ဆိုသော် အမျိုးသမီး သူနာပြုအဖွဲ့ကို စီစဉ်ညွှန်ကြားသည့် ဖလောရင့်၏ အလုပ်ကို အခြားသူများအား ဆက်၍ လုပ်ကိုင်စေသည်။ စင်စစ်အားဖြင့် သူမ၏ တိုင်းပြည်တွင် အောင်မြင်စွာ စွမ်းဆောင်ပေးနိုင်ရန် ပို၍ကြီးမြတ်သော လုပ်ငန်းတစ်ခု ကျန်ရှိနေသောကြောင့်ပင်။ ဂျန်နီအိစ် တောင်ကုန်းပေါ်ရှိ ရဲတိုက်ဆေးရုံသို့ သူမကို ချက်ချင်းခေါ်ဆောင်သွားသည်။ ဤဆေးရုံက "အသက်ဆုံးရှုံးရန် အလွန်နီးကပ်နေသော" ရောဂါဖြစ်ကြောင်း ထုတ်ဖော်ပြောသည်။

အစိုးရ အရာရှိကြီးများနှင့် စစ်တပ်အသိုင်းအဝိုင်းအတွင်း အကြီးအကျယ် စိုးရိမ်သွားကြသဖြင့် ဖလောရင့် ဖျားနာသည့်သတင်းက အလျင်အမြန် ပျံ့နှံ့သွားသည်။ နိုက်တင်ဂေးလ် မိသားစုတို့ ယခုအခါ သူတို့၏

၁။ Crimean fever

နာမည်ကျော် ဖလောရင့်အတွက် အမှန်အကန် ဂုဏ်ယူဝင့်ကြွားနေကြပြီဖြစ်ပြီး၊ သောကကို လျော့ပါးစေသည့် ဘုရားသခင်၏ လက်က သူတို့သမီး၏ အပေါ်မှာ တည်ရှိပါစေကြောင်း စိတ်ခွန်အား ပြင်းပြစွာ ဆုတောင်းပေးနေကြသည်။

လာရောက် ကြည့်ရှုလေ့လာသူ တစ်ယောက်က ပြောပြသည်။ 'စစ်သားတွေက နံရံမှာ မျက်နှာအပ်ပြီး ငိုကြွေးကြတယ်' သူတို့ အချစ်ခင်ရဆုံး မိတ်ဆွေက သိသိသာသာ အန္တရာယ် ကျရောက်နေသောကြောင့်ပင်။ သူမနေရာမှာ ဝမ်းသာအားရ အစားထိုး ခံစားပေးချင်သူ၊ သူမအတွက် အသက်ကို ပေးစွန့်ချင်သူတွေ တစ်ယောက်မက ရှိသည်။ ဤပြဿနာကို အချိန်မီ ကျော်လွှားနိုင်ခဲ့သည်။ လော့ဒ်ရဂ္ဂလန်က ဤသတင်းကို အင်္ဂလန်သို့ ပို့ပေးသည်။ ဘုရင်မကြီးထံ သတင်းစာတွေက တရားဝင် အကြောင်းကြားစာများ ရေးပို့ကြသည်။ "ထူးချွန်ထက်မြက်သော၊ တန်ဖိုးကြီးမားသော ပုဂ္ဂိုလ် မစ္စ နိုက်တင်ဂေးလ် ဘေးရန်ကင်းရှင်းကြောင်း ကြားသိရသဖြင့် အမှန်ပင် ကျေးဇူးတင်မိပါသည်။" ဟု ဘုရင်မကြီးက ရေးထားသည်။

ဖလောရင့် နာလန်ထလာသောအခါ သူမကို ကုသသည့် ဆရာဝန်များက ထူထူထောင်ထောင်ဖြစ်အောင် အင်္ဂလန်သို့ ပြန်၍ နားနေရန် အကြံပေးသည်။ ဤကိစ္စကို သူမက ငြင်းပယ်လိုက်သည်။ သူမက ရှေ့တန်းစစ်မျက်နှာမှ အလုပ်သမားဖြစ်ကြောင်း၊ ကိုယ့်အိမ်ကိုယ့်ရာမှာ အေးအေးလူလူ ထိုင်နေသည့် မိန်းကလေး မဟုတ်ကြောင်း အခိုင်အမာ ပြောသည်။ သူမ၏ လုပ်ငန်းကို ပြန်လည် သုံးသပ်ကြည့်သောအခါ စနစ်တကျ စီစဉ်ထားပြီး ထိထိရောက်ရောက် ကျွမ်းကျွမ်းကျင်ကျင် လုပ်ဆောင်နေကြောင်း သူမ မြင်တွေ့သည်။ သူမသည် လုပ်ငန်း၏ အခြေခံကို ကောင်းကောင်းချပေးပြီးပြီ။ သို့ရာတွင် လွှတ်ပေး၍ မဖြစ်သေးဟု ဆုံးဖြတ်ချက် ချလိုက်သည်။ မကြာမီ သူမကို စကူတာရီသို့ ပြန်ပို့ပေးရန် တောင်းဆိုသည်။ စကူတာရီက သူမကို မြိုင်မြိုင်ဆိုင်ဆိုင် ကြိုဆိုသည်။ အရာရှိ၊ အရာခံတွေ သင်္ဘောဆိပ်မှာ သူမကို လာကြိုကြသည်။ သူမကို သင်္ဘောပေါ်မှ လူနာတင်ထမ်းစင်ဖြင့် သယ်ယူသည့်အခါ စစ်သားတွေက ဤအဖိုးတန် ခန္ဓာကိုယ်ကို ကူ၍သယ်ရန် အလုအယက် ဖြစ်နေကြသည်။

ဖလောရင့်နှင့်အတူ အိမ်ပြန်လာသည့် အုပ်စုထဲမှ တစ်ယောက်က

'တိုက်ပွဲကာလ အတွင်းက အဖြစ်အပျက်တွေကို ဘာမှ သတိမရပါဘူး။ ရိုးရိုးလေးနဲ့ ခမ်းနားကြီးကျယ်လှတဲ့ လူတန်းကြီးကို မြင်ရတာ အရမ်းကို ကျေနပ်ဝမ်းသာ အားရစရာပဲလို့ ခံစားရတယ်' ဟု ပြောသည်။

သူမ ထူထူထောင်ထောင်ဖြစ်ဖို့ အတော်ကြာသည်။ နောက်ပိုင်းတွင် သူမ အင်အားပြန်ဖြည့်ရန် စကူတာရီမှ သရာပီရာ[၁] သို့ ပြောင်းရွှေ့သည်။ တစ်ခါတစ်ရံ သူမ အားနည်းလွန်းသဖြင့် တီးတိုးသာသာ လေသံမျှဖြင့် မနည်း ပြောနေရသည်။ သူမ၏ မိသားစုတွေ၊ မိတ်ဆွေ သူငယ်ချင်းတွေ၊ အထူးသဖြင့် ဆာ ဆစ်ဒနီ ဟားဘတ်တို့က သူမကို အင်္ဂလန် ပြန်လာရန် တောင်းပန်ကြသည်။ မဖြစ်မနေ တောင်းဆိုကြသည်။ သို့ရာတွင် သူမက တစ်ပြားသားမျှ အလျှော့မပေးဘဲ ငြင်းပယ်သည်။ အဘယ့်ကြောင့်ဆိုသော် ဤအောင်ပွဲ ရှုခင်းများ၏ အလယ်မှာ သူမ၏ တာဝန်ဝတ္တရား ဝန်ထုပ် ဝန်ပိုးတွေကို ပခုံးထမ်း သယ်ဆောင်ရန် နောက်ဆုံးမှာ ခွန်အားတွေ ပြန်လည် ရရှိလာမည်ဟု ယုံကြည်သောကြောင့် ဖြစ်သည်။ သူမ၏ နာမကျန်းမှု၊ ပြန်လည် ကျန်းမာလာမှုအတွက် အင်္ဂလိပ်လူထု၏ တုံ့ပြန်မှုက မည်မျှ နက်ရှိုင်းသည်ကို ပြသနေသည်။ ထို့ပြင် သူမ၏ မြင့်မြတ်သော စိတ်ဓာတ်၊ တစ်စုံတစ်ယောက်၊ အကြောင်းအရာတစ်ခုအပေါ် စိတ်ဝင်တစားဖြင့် အလေး အနက်ထားသည့် သူမ၏ သစ္စာတရား၊ ကိုယ်ကျိုးစွန့် အနစ်နာခံသည့် ကိုယ်ရည်ကိုယ်သွေးကို တစ်ကမ္ဘာလုံးသို့ လှံ့ဆော်ပေးသည့် စံနမူနာတို့ကို ကမ္ဘာ့ပြည်သူတွေက အသိအမှတ်ပြု ကြိုဆိုကြသည်။

သူမ၏ အစ်မက သူငယ်ချင်းတစ်ယောက်ထံ စာရေးသည်။

> လူတိုင်းရဲ့ ရင်ထဲက ခံစားချက်က ကျယ်ပြန့်နက်ရှိုင်းလွန်းလို့ ငါ ပြောပြနိုင်တာထက် ပိုပြီး ငါတို့ကို ရိုက်ခတ်နေတယ်။ သူတို့ဘဝမှာ တစ်ခါမှ ခံစားချက်မရှိတဲ့၊ မျက်နှာနီစပ်စပ် ဝပြဲပြဲနဲ့ မြေခွေးလိုက် မုဆိုးအို ကြီးတွေနဲ့တူတဲ့ မြေပိုင်ရှင်ကြီးတွေတောင် မျက်ဝန်းမှာ မျက်ရည်အပြည့် နဲ့ ရောက်လာကြတယ်။ အမိက အခွင့်အရေး ရဖို့အတွက် မျက်လုံးအစုံ နဲ့ ကြည့်နေတတ်တဲ့ စိတ်ဓာတ် ကျဉ်းကျဉ်းမြောင်းမြောင်း လယ်သမား တွေလည်း သဘောထား ပျော့ပျောင်းသွားကြတယ်။ ကပွဲ၊ တေးဂီတပွဲ

၁။ Therapia

က လွဲလို့ ဘာမှနားမလည်တဲ့ ဂုဏ်သရေရှိ အမျိုးသမီးငယ်တွေလည်း ဗွေးနွေးထွေးထွေး ဖြစ်သွားကြတယ်။

စာအုပ်ရောင်းတဲ့ သူက ပြောတယ်။ ကြည်းတပ် ဗိုလ်ချုပ်ကြီး နေရာ၊ ရေတပ်ဗိုလ်ချုပ်ကြီး နေရာမှာ လူစားထိုးလို့ ရတယ်။ မစ္စ နိုက်တင်ဂေးလ် နေရာမှာ အစားထိုးနိုင်မယ့်သူ တစ်ယောက်မှ မရှိနိုင်ဘူး တဲ့။ သင်္ဘောပိုင်ရှင်တစ်ယောက်က သင်္ဘောအသစ် တစ်စင်းကို သူမနာမည် ပေးချင်တယ်လို့ ပြောတယ်။ လေဒီ ဒန့်စနီ[၁] က သူတော်စင်မ ဂျုံးအော့ဖ် အာ့ခ်[၂] ဟာ ဖလောရင့်နဲ့ ယှဉ်လိုက်ရင် အရေးပါသူ မဟုတ်တော့ဘူး လို့ ပြောတယ်။ လေဒီ ဘိုင်ရွန်[၃] က ပြောတယ်။ သူမ နေမကောင်း ဖြစ်တာက သူမရဲ့လုပ်ငန်းကို ပိုတောင် တိုးတက်စေဦးမယ်။ ကိစ္စအဝဝဟာ ဘုရားသခင်ရဲ့ အထောက်အပံ့နဲ့ လုပ်ဆောင်သူတွေအတွက် ဖြစ်ရမယ်။

နေ့စဉ်နေ့တိုင်းပင် သူမ၏ ဂုဏ်သတင်းက ခြံစည်းရိုးတွေကို ကျော်လွှားကာ ဆင်းရဲနွမ်းပါးကျသော အိမ်များဆီသို့ အလျှင်အမြန် ရောက်ရှိ ပျံ့နှံ့နေသည်။ ရဲတိုက်များနှင့် ဘုရင်မ၏ နန်းတော်အထိပင် ပျံ့နှံ့ရောက်ရှိသွားသည်။ နေရာအနှံ့အပြား လူတန်းစား အမျိုးမျိုးဆီမှ တန်ဖိုးထား အသိအမှတ်ပြုသည့် ထုတ်ဖော်ပြောဆို ရေးသားမှုတွေ အလျှံပယ် ရောက်လာသည်။ ဖလောရင့် နိုက်တင်ဂေးလ်သည် ကျေးလက်အိမ်ငယ်၊ အလုပ်ရုံ၊ လမ်းကြိုလမ်းကြားနှင့် လမ်းမကျယ်တိုင်းရှိ ပြည်သူတို့၏ သူရဲကောင်း အမျိုးသမီး ဖြစ်လာသည်။ ပုံနှိပ်သူတွေက "မီးအိမ်ရှင်[၄]" ကို ဂုဏ်ပြုဖွဲ့ဆိုသည့် ကဗျာတွေ၊ သစ်ထွင်းပန်းချီတွေ၊ လက်ကမ်းစာစောင်တွေကို အပြေးအလွှား ထုတ်ဝေဖြန့်ချိကြသည်။ ကဗျာတစ်ပုဒ်မှာ လူကြိုက်များသဖြင့် နှစ်ပေါင်းများစွာ ရင်ထဲ စွဲကျန်ရစ်နေသည်။

*ရှေ့သို့ချီလေ သားတို့ရေ*
*မင်းတို့ နှလုံးခုန် မရပ်ပါစေနဲ့။*
*မင်းတို့ရှေ့မှောက်*
*ချစ်စဖွယ် နိုက်တင်ဂေးလ် တစ်ယောက်*
*အရောက်လာကာ အားပေးနေလေရဲ့။ ။*

---

၁။ Lady Dunsany ၂။ Joan of Arc ၃။ Lady Byron
၄။ "The Lady with the Lamp"

နိုင်ငံမှာ ဩဇာသက်ရောက်မှု အရှိဆုံး သတင်းစာတွေ၊ မဂ္ဂဇင်းတွေနှင့် အသေးအဖွဲ့ ကျေးလက်ဂျာနယ်တွေကပင်လျှင် သူမ၏ ဂုဏ်သတင်းကို ချီးကျူးဖွဲ့ဆိုသည့် ကဗျာတွေ အလျှံပယ် ဖော်ပြပေးနေသည်။ သူမအကြောင်း ရေးဖွဲ့သည့် ကဗျာတွေ ဆုချီးမြှင့်ခံရသည်။ သူမကို တမ်းတဖွဲ့ဆိုသည့် သီချင်းတွေ ရေပန်းစားနေသည်။ "မိန်းမပျို၏ အပြုံး"၊ "ခေါင်းအုံးပေါ်က အရိပ်"၊ "အရှေ့ရဲ့ ငွေကြယ်ပွင့်" နှင့် ဒါဇင်ပေါင်း များစွာသောသီချင်းတွေ။ စာရေးစက္ကူပေါ်မှာ သူမ၏ရုပ်ပုံတွေ ထည့်ထားသည်။ သက်ရှိသက်မဲ့ အရာအမျိုးမျိုး ဆက်သွယ်ရာမှာ သူမနာမည်ကို အသုံးပြုသည်။ ပြိုင်မြင်းတွေ၏ နာမည်ကိုပင်လျှင် သူမနာမည် ပေးထားသည်။ ကုန်သည်တွေက သူတို့ စက္ကူအိတ်တွေပေါ်မှာ နာမည်ကျော် သူနာပြုဆရာမလေး၏ ပုံတူပန်းချီနှင့် ကိုယ်ရေးရာဇဝင်အကျဉ်း ပုံကြမ်းများကို ပုံနှိပ်ထားကြသည်။ လူတွေက သူမအပေါ် အလေးအနက်ထားမှုကို နည်းလမ်းအသစ်ဖြင့် ပြသရန် အမြဲမပြတ် ကြိုးစားနေကြသည်။

ပါသီက သာမန်ပြည်သူများနှင့် ဘွဲ့ထူး၊ ဂုဏ်ထူးရှင်များ အပါအဝင် အင်္ဂလိပ်လူမျိုးတို့၏ ထပ်တူထပ်မျှ သဘောထားကို ရေးသားဖော်ပြထားသည်။ "လူတွေက နင့်ကို အရမ်းကို ကြင်နာယုယစိတ်နဲ့ ချစ်ကြတယ်။ အဲဒီစိတ်က ငါ့နှလုံးသားဆီကို ရောက်သွားတယ်။"

ဖလောရင့်က အစ်မဖြစ်သူထံ စာရေးသည်။

စစ်မှန်တဲ့ ကြင်နာသနားမှုဟာ အရေးမပါဘူးလို့ ငါ မခံစားရပါဘူး။ ဒါပေမဲ့ ဒီစွန့်စားခန်းအတွက် ပေးအပ်ခံရတဲ့ ထင်ပေါ်ကျော်ကြားမှုကိုတော့ ငါ နာနာကျင်ကျင် ခံစားရတယ်။ အစပဲရှိသေးတဲ့၊ သေးငယ်တဲ့၊ ရိုးရှင်းတဲ့ ဆင်းရဲဒုက္ခ အခက်အခဲ၊ တိတ်တိတ်ဆိတ်ဆိတ်နဲ့ တဖြည်းဖြည်း ဆက်လက်တိုးမြှင့်ပြီး ရုန်းကန်ကြိုးစားမှု၊ အဲဒါတွေက လုပ်ငန်းတစ်ခုကို အမှန်တကယ် ရှင်သန်ကြီးထွားစေတဲ့ အခြေအနေပဲ။ အချိန်ကာလက အဲဒီအချက်နဲ့ ပတ်သက်တဲ့ ကယ်တင်ရှင် ယေရှုသခင်ရဲ့ သင်ခန်းစာကို ပြောင်းလဲပြုပြင်ပစ်မှာ မဟုတ်ဘူး။

မေတ္တာတရားနှင့် ကြည်ညိုလေးစားမှုကို ဖော်ပြချက်တွေက ကဗျာ၊ သီချင်း၊ ပုံတူပန်းချီကား၊ စက္ကူအိတ်၊ ပြိုင်မြင်းတွေမှာ ဖော်ပြခြင်းထက်

ပို၍ ထာဝရ တည်မြဲနေမည့် ပုံစံအဖြစ် လက်ခံထားကြသည်။ မွေးရပ်မြေက သူမ ပြန်လည်ကျန်းမာလာကြောင်း သတင်းနှင့် စစ်ပွဲနိုင်သည်အထိ ရှေ့တန်းမှာ ဆက်နေဦးမည်ဆိုသော ဆုံးဖြတ်ချက်ကို ကြားသိရသောအခါ သူမ၏ ဘဝကို မြှုပ်နှံမှုနှင့် ဆောင်ရွက်ချက်များကို အမှတ်တရ ဖြစ်စေရန်အတွက် အထိမ်းအမှတ် လုပ်ဆောင်ရန် လူထုနည်းဖြင့် လှူပ်ရှားမှုတစ်ခု ချက်ချင်း စတင်ကြသည်။ တချို့က ကိုယ်ပိုင် လက်ဆောင်တစ်ခုဖြင့် ထောက်ခံအားပေးသည်။ ဤကိစ္စကို "မီးအိမ်ရှင်" နှစ်သက်မည် မဟုတ်ကြောင်း သိသည့် လေဒီဟားဘတ်က ဤအထိမ်းအမှတ် လုပ်သည့် ကိစ္စနှင့် ပတ်သက်၍ ဖလောရင့်၏ သဘောထားကို တောင်းခံရန် သူမထံ စာရေးသည်။

ဤတောင်းဆိုချက်ကို ပြန်ကြားရာတွင် သူမ၏ ပင်ကိုစရိုက်အတိုင်း တုံ့တိုးပင် ပြောလိုက်သည်။

'ကျွန်မ ဒီမှာထိုင်ပြီး အစီအစဉ်တွေ ချပေးရုံကလွဲလို့ ဘာမှ လုပ်စရာ မရှိဘူးလို့ လူတွေက ထင်နေပုံ ရတယ်။ ဒီကိစ္စမှာ လူထုက ကျွန်မရဲ့ ဆောင်ရွက်မှု၊ ဆုံးဖြတ်ချက်တွေကို အသိအမှတ် ပြုချင်တယ်ဆိုရင် အဲဒီ ဆောင်ရွက်မှု၊ ဆုံးဖြတ်ချက်တွေကို အနှောင်အဖွဲ့ ကင်းကင်းနဲ့ လုပ်ဆောင် စေရမှာပေါ့'

ကိုင်ဇာဝါ့သ် အဖွဲ့အစည်းနှင့်တူသော အင်စတီကျူးရှင်း တစ်ခု ထူထောင်ရန် တစ်စုံတစ်ယောက်က အကြံပေးသည်။ သို့ရာတွင် ဖလောရင့်က စီမံချက်တစ်ခု တင်သွင်းရန် ငြင်းလိုက်သည်။ သို့ရာတွင် ဤစိတ်ကူးသည် အလွယ်တကူ နုတ်ပယ်မပစ်နိုင်လောက်အောင် လူကြိုက်များသော စိတ်ကူးအဖြစ် နက်ရှိုင်းစွာ အမြစ်တွယ်နေသည်။ သို့ဖြစ်၍ စစ်ဝန်ကြီး ဆာဟားဘတ် အပါအဝင် ဩဇာအာဏာရှိသော ပုဂ္ဂိုလ်များက ကော်မတီ တစ်ရပ် ဖွဲ့စည်းလိုက်သည်။ ဤကော်မတီက ဖလောရင့် ဦးဆောင်သည့် ကောင်စီတစ်ခု လက်အောက်၌ သူနာပြုသင်တန်းကျောင်း ဖွင့်လှစ်တည်ထောင်ရန် ရန်ပုံငွေ ကောက်ခံဖို့ ဆုံးဖြတ်လိုက်သည်။ ၂၈ နိုဝင်ဘာ ၁၈၅၅ ၌ လူထုစည်းဝေးပွဲ ကျင်းပမည်ဟု ကြေညာသည်။ စစ်ဖုန်ရှိ ဆေးရုံများ၌ သူမ၏ ဆောင်ရွက်မှုများကို ဗြိတိသျှ ဓနသဟာယက ကျေးဇူးတင် အသိအမှတ်ပြုသည့် အနေဖြင့် ယေဘုယျ သဘောထားပေးရန် ကြေညာလိုက်

သည်။ တော်ဝင်မိသားစုက ကောင်းချီးပေးကြောင်း ပြသသည့်အနေဖြင့် ကိန်းဘရစ်ချ် နယ်စားကြီး[၁] က လူထုစည်းဝေးပွဲကို ဦးစီးကျင်းပသည်။

"မင်းအမေရဲ့ ဘဝမှာ စိတ်ဝင်စားစရာ အကောင်းဆုံးနေ့ပဲ" ဟု မစ္စစ်နိုက်တင်ဂေးလ်က ခရိုင်းမီယားရှိ သမီးထံ စာရေးသည်။ "မင်းရဲ့ ဂုဏ်သတင်း ကျော်ကြားမှုက တို့အားလုံးထက် ပိုပြီး အရေးကြီးမှာ မဟုတ်ပါဘူး။ ဒါပေမဲ့ တို့အတွက် ဂုဏ်ယူစရာ နေ့တစ်နေ့ ဖြစ်တယ်လို့ ခံစားရတော့ ဝမ်းသာတယ်။ ကိန်းဘရစ်ချ် နယ်စားကြီး သဘာပတိအဖြစ် ဆောင်ရွက်ပြီး ရိုးရိုးရှင်းရှင်း ခံ့ခံ့ညားညား မိန့်ခွန်းပြောတယ်။ ဆစ်ဒနီ ဟားဘတ်ရဲ့ မိန့်ခွန်းကိုလည်း လူတိုင်း သဘောကျကြတယ်။ အားဂိုင်လ် နယ်စားကြီး လော့ဒ် စတန်လီ[၂] နဲ့ ဆာဂျေ ပါကင်တန်[၃] တို့က စကားပြော သိပ်ကောင်းတယ်။ မော့တန်မင်းစ်[၄] ကလည်း သိပ်ထိမိတယ်။ လော့ဒ် လင်းစဒေါင်း[၅] ကလည်း သူ့ရဲ့ အအောင်မြင်ဆုံးနေ့ရက်တွေလိုပဲ အပြောကောင်းတယ်။"

စစ်ဝန်ကြီးက စစ်သားများထံမှ ရေးသည့်စာကို ဖတ်ပြသည်။ ထိုစာများထဲတွင် စစ်သားတွေက သူမ၏ လုပ်ဆောင်ချက်နှင့် ပတ်သက်၍ သူတို့ ခံစားချက်များကို ဖော်ပြထားပြီး စိတ်ပျက်အားငယ်နေသည့် သူတို့ဘဝကို များစွာ အကျိုးကျေးဇူးပြုကြောင်း ရေးသားထားသည်။ မော့တန်မင်းစ်က သူ့ရှေ့မှာ ထူးခြားပြောင်မြောက်စွာ ပြောသွားသည့် မြင်ကွင်းနှင့် သိသိသာသာ ခြားနားစွာ ပြောသွားသည်။ 'မြင့်မြတ်တဲ့ အမျိုးသမီးက ခရင်တာတာရီ[၆] ရဲ့ ပင်လယ်နက် ကမ်းခြေကနေ နေခင်းထိုင်သာ မရှိတဲ့ ပင်လယ်ရေပြင်ကို ငုံ့ကြည့်ရင်း ဝေဒနာ ခံစားနေရတဲ့ လူသားတွေအတွက် ဆောင်ရွက်ပေးဖို့ သူ့ကိုယ်သူ မြှုပ်နှံထားပါတယ်'

ဤချီးမွမ်းမှုတွေက တစ်စုံတစ်ရာဖြစ်မည် ဆိုလျှင်လည်း ဖလောရင့်အတွက်တော့ အသေးအဖွဲ့မျှသာပင်။ သူမ၏ အမြင့်မားဆုံး ဆန္ဒက သူမ၏ "သခင်" ကို လုံ့လဝီရိယရှိစွာ ထမ်းဆောင်ပေးရန်နှင့် သူမ ကိုယ်စားပြု ဆောင်ရွက်ရသည့်ကိစ္စ တိုးတက်အောင်မြင်သည့်အတွက် ဘုရားသခင်

၁။ Duke of Cambridge
၂။ Lord Stanley, the Duke of Argyle
၃။ Sir J.Pakington
၄။ Moncton Milnes
၅။ Lord Lansdawne
၆။ Crim Tartary

၏ အသိအမှတ်ပြု ခံရဖို့ ကြိုးပမ်းရန် ဖြစ်သည်။ သို့ရာတွင် သူမ၏ ခံစားချက်များကို မိဘများထံ ရေးသည့် စာတစ်စောင်တွင် ဖော်ပြထားသည်။

ကျွန်မရဲ့ နာမည်နဲ့ ဘုရားသခင်နဲ့ လူသားတို့အတွက် ကျွန်မ တတ်နိုင်သမျှ လုပ်ဆောင်ခဲ့တာတွေက အဖေ၊ အမေတို့ကို ဝမ်းသာ ပျော်ရွှင်စေမယ် ဆိုရင် အဲဒါဟာ ကျွန်မအတွက်လည်း တကယ့် ပျော်ရွှင်မှု ပါပဲ။ ကျွန်မရဲ့ ဂုဏ်သတင်းတွေက လုပ်ငန်းမှာ ကျွန်မကို အကျိုးပြုတဲ့ အရာတွေ မဟုတ်ပါဘူး။ ဒါပေမဲ့ အဖေ၊ အမေတို့ ကျေနပ်တယ် ဆိုရင် လုံလောက်ပါပြီ။ အခုတော့ ကျွန်မ နာမည်ကို ထိန်းသိမ်းရပါမယ်။ သမီးရဲ့ နာမည်ခေါ်သံ ကြားရတဲ့အခါ၊ သူမရဲ့ အလုပ်က စာနာထောက်ထားမှုတွေကို အတူတကွ ဖြစ်စေတယ်လို့ ခံစားရတဲ့အခါ အဖေ၊ အမေတို့ကို စိတ်ကျေနပ်မှု ရစေတဲ့ အကြီးမားဆုံး တုံ့ပြန်မှုလို့ ခံစားနေပါ့မယ်။ နောက်ဆုံးတော့ ဘဝဆိုတာ ချိုမြိန်ပါတယ်။

လူထုတွေ့ဆုံပွဲ၏ ရလဒ်အဖြစ် နိုက်တင်ဂေးလ် ရန်ပုံငွေတစ်ရပ်ကို ထူထောင်ပေးလိုက်သည်။ ဤရန်ပုံငွေဖြင့် သင်တန်းများပေးရန်၊ လစာရသူ မရသူ သူနာပြုများ၏ အာဟာရနှင့် ကာကွယ်မှု ပေးရန်အတွက် ဖလောရင့်အနေဖြင့် အင်စတီကျူတစ်ခုကို တည်ထောင်ထိန်းကွပ်နိုင်ရန် ဖြစ်သည်။ ဤကဲ့သို့ ထူးထူးခြားခြား ဂုဏ်ပြုမှုကို အသိအမှတ်ပြုသည့် အနေဖြင့် သူမက ဆာဆစ်ဒနီထံ စာရေးသည်။

သူနာပြု လေ့ကျင့်ရေးကျောင်း တစ်ခုကို တာဝန်ယူဖို့ သင်တောင်းဆိုတဲ့စာကို ကျွန်မ ပြန်ကြားလိုက်ရပါတယ်။ ပထမဦးစွာ အနူးအညွတ် တောင်းပန်စကား ဆိုရပါမယ်။ ဒီစီမံကိန်းကို စတင် ဖော်ဆောင်သူတွေ၊ ထောက်ပံ့သူတွေက ကျွန်မကို စာနာမှု၊ ယုံကြည်မှုနဲ့ အလေးဂရုပြုတဲ့အတွက် ကျွန်မ ခံစားရတာတွေကို ပြောမပြတတ်နိုင်အောင် ပါပဲ။ ဆန်းသစ်ရှုပ်ထွေးတဲ့၊ ဒီကိစ္စကို ဆုံးဖြတ်ချက်ချသူ များစွာနဲ့ ဝေးကွာလှမ်းတဲ့ လုပ်ငန်းတစ်ခုကို ဆောင်ရွက်ဖို့ကိစ္စမှာ အဓိပ္ပာယ်ကောက်လွဲစွာနဲ့ နားလည်မှုလွဲစွာနဲ့ ကျွန်မကို ဖော်ထုတ်တဲ့အတွက် အခုလို စာနာမှု၊ အသိအမှတ်ပြုမှုတွေနဲ့ ခိုင်ခိုင်မာမာ ထောက်ခံအားပေးခြင်းဟာ တကယ်တော့ အလုပ်တွေ၊ အခက်အခဲတွေ အားလုံးကြားက ကျွန်မကို အိမ်ပြန်ခေါ်ဖို့ လုပ်တာပါပဲ။ လွှမ်းမိုးလွန်းလှပါတယ်။

ဒါပေမဲ့ ကျွန်မ ဆက်ပြောရပါမယ်။ ကျွန်မ အခုလုပ်နေတဲ့ အလုပ်က ဘယ်သူ့ကိုမှ စွန့်ပစ်ထားခဲ့လို့ မရတဲ့ အလုပ်ပါ။ ကျွန်မ ဒီမှာ လုပ်စရာရှိတာတွေ မပြီးသေးဘူးလို့ ထင်မြင်ထားတာ ကြာပါပြီ။ ဒါ့ကြောင့် ကော်မတီကို ပြောပေးဖို့ သင့်ကို အနူးအညွတ် တောင်းပန်ပါရစေ။ သူတို့ရဲ့ အဆိုပြုချက်ကို လက်ခံပါတယ်။ ကျွန်မအနေနဲ့ ဆောင်ရွက်နေတာတွေ ဘယ်အချိန် အပြီးသတ်မယ် ဆိုတာ လုံးဝ မသေချာသေးပါဘူး။ အဲဒါကို သူတို့အနေနဲ့ နားလည်နိုင်မယ် ဆိုရင် ကျွန်မ လုပ်ပါ့မယ်။

ရန်ပုံငွေထောက်ပံ့ရေး လူထုစည်းဝေးပွဲများကို ဗြိတိသျှအင်ပါယာတစ်ဝန်းလုံး၌ ကျင်းပသည်။ ထောက်ပံ့ငွေတွေ ထည့်ဝင်ကြသည်။ ရှေ့တန်းရောက် စစ်သားများက လက်ဆောင်များ ရက်ရက်ရောရော ပေးပို့ကြသည်။ ကမ္ဘာကျော် ဆို့ဒင်အဆိုကျော် ဂျင်နီလင်းဒ်[၁] က ကပြဖျော်ဖြေပွဲတစ်ခု ပြုလုပ်ရာ၊ ဤပွဲမှ ဒေါ်လာ တစ်သောင်းခန့် ရရှိသည်။ တွေ့ဆုံပွဲ တစ်ခု၌ လော့ဒ်စတန်လီက မိန့်ခွန်းပြောရာတွင် ဖလောရင့်၏လုပ်ငန်း ပြီးမြောက်အောင်မြင်ပြီ ဖြစ်ကြောင်း အကျဉ်းချုပ် ရှင်းရှင်းလင်းလင်း ပြောပြသည်။

သူက ပြောသည်။

'အင်္ဂလန်နိုင်ငံ တစ်ဝန်းလုံးက မြို့တွေ၊ ကျေးလက်တွေ၊ တောရွာတွေက စစ်ပွဲမှာ ကျဆုံးသွားတဲ့ သူတွေအတွက် ကြေကွဲဝမ်းနည်းနေချိန်မှာ သူတို့ရဲ့ နောက်ဆုံးအချိန်ကို ယုံကြည်စိတ်ချစွာ စောင့်ကြည့်မခံရသူ၊ အဆိုးဝါးဆုံး ဝေဒနာကို ပြုစုစောင့်ရှောက်မှုနဲ့ အားပေးနှစ်သိမ့်မှု မခံရသူ တစ်ယောက်မှ မရှိဘူး။ ဘယ်လိုယောကျ်ားမျိုးမှ၊ တချို့မိန်းမတွေတောင်မှ မပြသနိုင်တဲ့ ကြင်နာယုယမှု၊ ကျွမ်းကျင်မှုတွေနဲ့ အားပေးနှစ်သိမ့်ခဲ့တယ်။

'ကျွန်တော်တို့ အသိအမှတ် မပြုဘဲနဲ့ ကျော်လွှားသွားစေနိုင်တဲ့ စစ်မှန်တဲ့ သူရဲကောင်းလုပ်ရပ်ဆိုတာ အများကြီး မရှိပါဘူး။ .... အကျဉ်းထောင် ပြုပြင်ရေးကို လုပ်ဆောင်တဲ့ ဟောင်းဝဲ့ဒ်က လွဲရင် လွန်ခဲ့တဲ့ နှစ်ပေါင်း တစ်ရာအတွင်း ဒီကျွန်းမှာ၊ ဒါမှမဟုတ် ဥရောပမှာ မစ္စ နိုက်တင်ဂေးလ် အပြင် ဘယ်သူမှ မရှိဘူးဆိုတာ ကျွန်တော် သိတယ်။ သူမဟာ ဖြစ်လာမယ့် အန္တရာယ်တွေကို ဆန္ဒအလျောက် ရင်ဆိုင်ခဲ့တယ်။ ရွံရှာဖွယ် ကိစ္စတွေကို ကြင်နာမှုနဲ့ တာဝန်ယူ လုပ်ဆောင်ပေးခဲ့တယ်။ ဘုရားသခင်အပေါ်

[၁] Jenny Lind

စစ်မှန်တဲ့ တာဝန်ကျေပွန်မှု စိတ်ဓာတ်၊ လူသားတွေအပေါ် စာနာသနား စိတ်နဲ့ ကြီးကျယ်ထိုက်တန်တဲ့ လုပ်ရပ်ကို လုပ်ဆောင်ပေးခဲ့တယ်'

ဝိတိုရိယ ဘုရင်မက ဖလောရင့်၏ ရဲရင့်ပြောင်မြောက်သော လုပ်ရပ်များကို သူမကိုယ်တိုင် ကျေးဇူးတင်ကြောင်း ပြသလိုသဖြင့်၊ လူထုစည်းဝေးပွဲ အပြီး မကြာမီ ဖလောရင့်ထံ စာရေးကာ ကျောက်မျက်ရတနာ စီခြယ်ထားသည့် ဂုဏ်ထူးဆောင် အလှတန်ဆာတစ်ခု ပေးပို့လိုက်သည်။

ဘုရင်မကြီး၏ စာထဲတွင်–

ဤကြီးကျယ်လှသော သွေးချောင်းစီး စစ်ပွဲအတွင်း သင် ပြသခဲ့သော စိတ်ဓာတ်မြင့်မြတ်မှုကို ကျွန်ုပ် သတိပြုမိပါသည်။ ခရစ်ယာန်ဘာသာ သက်ဝင်ယုံကြည်မှုကိုလည်း လက်ခံပါသည်။ သင်၏ ဆောင်ရွက်ချက်များသည် ကျွန်ုပ် ချစ်ခင်သော၊ သတ္တိပြောင်သော စစ်သားများနှင့် လုံးဝ တူညီသည့်အတွက် ကျွန်ုပ်၏ လေးစားမှုက မည်မျှခွေးထွေးကြောင်း သင့်အား အနည်းငယ်မျှ ထပ်မံ ပြောလိုပါသည်။ ဝေဒနာ ခံစားမှုများအား အလွန် သနားကြင်နာစွာဖြင့် သက်သာပြေပျောက်အောင် ပြုစုပေးနိုင်သည့် အခွင့်အရေးတစ်ခု သင် ရရှိသည်ဟု ကျွန်ုပ် ယုံကြည်သကဲ့သို့ သင်လည်း လက်ခံပါလိမ့်မည်။ သို့ဖြစ်၍ ဤစာနှင့်အတူ သင်၏ ကြီးကျယ်မွန်မြတ်သော လုပ်ရပ်ကို အမှတ်တရ ဖြစ်စေသည့် သင်္ကေတ အမှတ်တံဆိပ်အဖြစ် ရင်ထိုးတစ်ခုကို ပေးပို့လိုက်ပါသည်။ သင့်နိုင်ငံဥသျှောင် ဘုရင်မ၏ အမြင့်ဆုံး တန်ဖိုးထား ကျေးဇူးတင် အသိအမှတ်ပြုသော အမှတ်လက္ခဏာအဖြစ် ဝတ်ဆင်လိမ့်မည်ဟု ကျွန်ုပ် မျှော်လင့်ပါသည်။

အသင် ဤနိုင်ငံ၏ ကမ်းခြေသို့ ပြန်ရောက်သောအခါ ကျွန်ုပ်တို့ မိန်းမသားများအတွက် အလွန် ထွန်းတောက်သော စံနမူနာ တစ်ခုကို ပြသပေးသူ တစ်ယောက်အား ရင်းနှီးကျွမ်းဝင်ရမည်ဆိုလျှင် ကျွန်ုပ် အနေဖြင့် အကြီးအကျယ် ကျေနပ်နှစ်သက်မှု ရမည် ဖြစ်ပါသည်။

ကွန်းဆော့ မင်းသား[၁] ဒီဇိုင်းဖော်ထားသည့် ကျောက်မျက်ရတနာမှာ ရင်ထိုးထက် တံဆိပ်နှင့် ပို၍တူသည်။ စိန့်ဂျော့၏ လက်ဝါးကပ်တိုင်[၂] နှင့် တော်ဝင်အမှတ်အသား ပါသည်။ စိန်စီထားသည့် သရဖူကို ထိပ်မှာ

၁။ Prince Consort ၂။ St. George's Cross

ထပ်ဆင့်တပ်ထားသည်။ "ကရုဏာရှင်များအား ဘုရားသခင် ကောင်းချီးပေးပါစေ" ဟူသော စာသားကို တံဆိပ်ပေါ်တွင် ပတ်ဝိုင်း၍ ထွင်းထားသည်။ "ခရိုင်းမီးယား" ဆိုသော စကားလုံးကလည်း ပေါ်လွင်နေသည်။ ရင်ထိုး၏ နောက်ဘက်တွင် **"မစ္စ ဖလောရင့် နိုက်တင်ဂေးလ်သို့။ ဘုရင်မ၏ ရဲရင့်သော စစ်သားများအား၊ သစ္စာရှိမှု၊ အလေးထားမှုအတွက် ကျေးဇူးတရားနှင့် လေးစားမှု အမှတ်လက္ခဏာ။ မှ ဝိတိုရိယ အာရ်-၁၈၅၅"** ဟူ၍ ရေးထွင်းထားသည်။

ကျေးဇူးတင် အသိအမှတ်ပြုခြင်း၊ ဂုဏ်ပြုခြင်း လက်ဆောင်များ သူမထံ တဖွဲဖွဲ ရောက်နေစဉ်မှာ ဖလောရင့်က သူမ၏အလုပ်ကို မနားမနေ ဆက်လုပ်နေသည်။ ၈ စက်တင်ဘာ ၁၈၅၅ တွင် ဆီဘက်စတိုပိုလ် ကျသွားသည်။ ဆေးရုံတွေ ပြည့်လျှံသွားပြီး သချိုင်းဂူအသစ်တွေ အများကြီးဖြစ်လာသည်။ အောက်တိုဘာ (၈) တွင် ဖလောရင့် စကူတာရီမှ ဘာလာကလာဗာသို့ ထွက်ခွာလာခဲ့သည်။ နောက်လတွင် စစ်သားများ ဝမ်းရောဂါကပ် ဆိုက်သဖြင့် ပင်မစခန်းသို့ အမြန် ပြန်လာရသည်။ ၂၁ မတ် ၁၈၅၆ တွင် သူမကိုယ်တိုင် ကြီးကြပ်ရန် အဆောတလျင် တောင်းဆိုသည့် အခြေအနေများကြောင့် ဘာလာကလာဗာသို့ နောက်တစ်ကြိမ် ပြန်လာရသည်။ စစ်ကြီး ပြီးဆုံးချိန်အထိ ဘာလာကလာဗာမှာ သူမ ရှိနေခဲ့သည်။

ဝမ်းနည်းစရာတွေ တနင့်တပိုးနှင့် ကြုံတွေ့ရသည့် ဤလများအတွင်း စစ်နှင့်ပတ်သက်၍ အခက်ခဲဆုံး အလုပ်များကို ဖလောရင့် လုပ်ဆောင်သည်။ ခရိုင်းမီးယန်း ဆေးရုံများသည် အခြားဆေးရုံများနှင့် အတော်လှမ်းသဖြင့် ဖလောရင့်သည် မကြာခဏ တစ်နေကုန် မြင်းစီး၍ အအေးတောထဲ တိုး၊ ကြမ်းတမ်းခက်ခဲသည့် လမ်းတွေကို ဖြတ်သန်းပြီး ဆေးရုံတစ်ရုံပြီး တစ်ရုံ ကူးသန်းနေရသည်။ တစ်ခါတစ်ရံ မကြာခဏ ဖွေဖောက်တတ်သည့် စစ်သုံးလားများ ဆွဲသော လှည်းဖြင့် အတင်းတိုးဇွေ့ သွားရသည်။ ရန်လိုတတ်သည့် တပ်ကြပ်ကြီး၏ ဒေါသကြောင့် လများမကြာမီ လှည်းမှာ ချွတ်ခြုံကျသွားတော့သည်။ လမ်းများကို မြင်းဖြင့်၊ လှည်းဖြင့် သွား၍ မရသော အခါ ဖလောရင့်က ခြေကျင်လျှောက်သည်။ ဒဏ်ရာရသူများအား ပြုစုရမည့် သူမ၏ ရည်ရွယ်ချက်ကို မည်သည့်အရာကမျှ တုန်လှုပ်သွားအောင် မလုပ်နိုင်။ တားဆီး၍ မရနိုင်ပေ။

သူမနှင့်အတူ လိုက်ပါသူ တစ်ယောက်က ပြောသည်။ 'ညဘက် အဲဒီနေရာ (ဆေးရုံ) တွေက ပြန်လာရတာ အင်မတန် အန္တရာယ်များတဲ့ အတွေ့အကြုံပဲ။ အတော်ကြီး မပြေမပြစ်တဲ့ ကျောက်လမ်းတွေကို ဖြတ်သွားရတာ။ မြေပြင်ပေါ်မှာ နှင်းတွေ ကျနေပြီဆိုရင် ပိုတောင် အန္တရာယ်ကြီးသေးတယ်။ နှင်းတွေ သိပ်သိပ်သည်းသည်း ကျနေချိန်၊ ဆေးရုံနားက မှုန်ဝါးဝါး ကျောက်တောင်ထိပ်မှာ နာရီအတော်ကြာကြာ ရပ်ပြီး ညွှန်ကြားနေတာ တွေ့ခဲ့ရတယ်'

ဆေးရုံအားလုံးရှိ သူနာပြုလုပ်ငန်းများကို သူမ တာဝန်ယူ ကြီးကြပ်သည်။ စာဖတ်ခန်းများ ဆောက်ပေးသည်။ ဆေးရုံများအနီး၌ ရေပေးဝေရေးကို တိုးတက်အောင်လုပ်သည်။ ဆောင်းအအေးဒဏ် ခံနိုင်ရန် တဲများကို သက္ကလတ်ကြမ်းများဖြင့် အုပ်ပေးသည်။ တိုးပွားလာသော ဒုက္ခသည်များကို ပြုစုရန် စားဖိုဆောင်များကို လုံလောက်အောင် ထပ်ဆောက်ပေးသည်။

"ငါးရာကျော် ခြောက်ရာလောက်ရှိတဲ့ လူနာတွေအတွက် ဖြည့်စွက်အစားအစာကို ကျွန်မတို့ ချက်ရတယ်" ဟု စစ်ဝန်ကြီး၏ ဇနီးထံ သူမ စာရေးသည်။

ဒဏ်ရာရ အရာရှိတွေအတွက် အစားအစာကို ကျွန်မတို့ကိုယ်တိုင် ပစ္စည်းထားတဲ့ ရုံထဲမှာ ချက်တယ်။ နောက်ထပ် စားဖိုဆောင်တစ်ခု မေလမှာ ဆောက်ပေးမယ်လို့ ကတိပေးထားတာ မရသေးဘူး။ ဒီတစ်ခါလည်း အောက်တိုဘာမှာ ကျွန်မကိုယ်တိုင် ဆောက်လိုက်ရတယ်။ အဲဒီကာလအတွင်းမှာ မကျန်းမာတဲ့ အရာရှိတွေ ရရှိစားသုံးရတဲ့ ကြက်ဥ၊ ထောပတ်၊ ဂျယ်လီ၊ ဘီယာနဲ့ အော်ဒီကလုန်းတွေကို မစွစ် ဆမ်မျူယယ်စမစ်၊ ဒါမှမဟုတ် ကျွန်မရဲ့ ကိုယ်ပိုင်ပိုက်ဆံနဲ့ ထောက်ပံ့ပေးခဲ့ရတယ်။ နိုဝင်ဘာ (၄) ရက်မှာ နောက်ထပ် စားဖိုဆောင်ကို ဖွင့်လှစ်ပေးလိုက်တယ်။

စကူတာရီ၌ အဆင့်မြင့် အရာရှိ အာဏာပိုင်များ၏ ဆန့်ကျင်မှု၊ နားလည်မှု လွဲမှားခြင်းတွေကို တသီတတန်းကြီး ကျော်ဖြတ် တိုက်ခိုက်နိုင်သော်လည်း ဤပဋိပက္ခသည် ခရိုင်းမီးယား၌ ပို၍ ပြင်းထန်လာကာ သူမ၏လုပ်ငန်းအား ပို၍ ဝန်ပိစေသည်ကို တွေ့ရသည်။ ဤနေရာ၌ မနာလိုဝန်တိုမှု၊ ဥပေက္ခာပြုမှု၊ အထင်သေးမှုတွေ ကြုံတွေ့ရပြီး၊ "သူမ အတွေးအခေါ်တွေက ကြောင်နေပြီ" ဟု မှတ်ချက်ချ ခံရသည်။

'ဂျုန်းအော့ဖ်အာ့ခ်လို ကျွန်မကို မပူလောင်စေတဲ့ အရာရှိ တစ်ယောက်မှ မရှိဘူး။ တတ်နိုင်လို့ကတော့ ...' ဟု သူမက သူငယ်ချင်းတစ်ယောက်ကို ပြောပြသည်။ ဤကဲ့သို့ သိမ်းကျုံးပြောသည့် အမြင်မျိုး ဖြစ်စေရသည့် အကြောင်းမှာ သူမ၏ မိတ်ဆွေများထဲ၌ အဆင့်အမြင့်ဆုံး ရာထူးလက်ကိုင်ရှိသည့် ပုဂ္ဂိုလ်များ ပါဝင်နေသောကြောင့်ပင်။ သို့ရာတွင် ခရိုင်းမီးယားကျဆုံးရခြင်းမှာ တာဝန်ရှိ အရာရှိများ၏ အားနည်းချက်၊ လွဲမှားသော စီမံအုပ်ချုပ်မှုနှင့် ခေါင်းမာမှုတို့ကြောင့် ဖြစ်ကြောင်း သူမက ဒဏ်ရာရ စစ်သားများကြားမှာ ထုတ်ဖော် ပြောဆိုလိုက်သောကြောင့် တစ်ခါတစ်ရံ ရာထူးကျလုနီးပါး ဖြစ်စေသည့်အတွက် သူမ၏ ပစ်ပစ်ခါခါ ဝေဖန်မှုကို သူတို့က မခံချိမခံသာ ဖြစ်နေသည်။

ဖလောရင့်က ဆာဟားဘတ်ကို ပြောပြသည်။

'ဒေါက်တာ ဟောလ်[၁] က ကျွန်မကို ခရိုင်းမီးယာကနေ အပြီးအပိုင် ထွက်သွားအောင်လုပ်ဖို့ ကြိုးစားနေတယ်'

အဆိုပါ ဆရာဝန်သည် ခရိုင်းမီးယန်း စစ်နယ်မြေတွင် အဓိက ကျသော ဆေးဘက်ဆိုင်ရာ အရာရှိဖြစ်ပြီး၊ သူမ မကြောက်မလန့် ဖော်ထုတ်သည့် အလွန်ဆိုးဝါးသော ကျန်းမာရေး အခြေအနေများတွင် တစ်စိတ်တစ်ပိုင်း တာဝန်ရှိသူ ဖြစ်သည်။ သူက သူမကို သဘောမတွေ့။ သူမ၏ လုပ်ငန်းအရည်အသွေးကိုလည်း လက်မခံပေ။ အစားအစာ ထောက်ပံ့ရေးနှင့် ဝေငှရေးရုံးခွဲ၏ လုပ်ဆောင်ချက်သည် ဝေဖန်ရလောက်အောင်ပင် လိုအပ်ချက်တွေ ရှိနေသည်ကို သူမ တွေ့ရှိပြီး ထိုကိစ္စကို ပေါ်ပေါ်တင်တင် ထုတ်ဖော်ပြောသည်။

"ကျွန်မတို့ ရိက္ခာတွေ မရတာ ဆယ်ရက်ရှိပြီ" ဟု စစ်ပွဲပြီးရန် ၆ ရက် အလို ၂၄ မတ် ၁၈၅၆ တွင် ရေးထားသည်။

> လော့ဒ် ကာဒီဂန်[၂] က သူ့မြင်းတွေ နှစ်ပတ်အကြာမှာ သေသွားတာ တွေ့တော့ အံ့အားသင့်နေတယ်။ မြင်းတွေ အစာမစားရလို့ပဲ။ သူက ပြောတယ်။ 'မြင်းတွေက သေဖို့ ရွေးချယ်ခဲ့တာပဲ။ အင်မတန်ခေါင်းမာတဲ့ တိရစ္ဆာန်တွေပဲ' တဲ့။ စစ်ဆေးရေး အရာရှိချုပ်နဲ့ ရိက္ခာပေးသွင်းသူတွေက အမျိုးသမီးတွေကို ရိက္ခာမကျွေးရင် မြင်းတွေလို အကြာကြီး နေနိုင်

၁။ Dr. Hall ၂။ Lord Cardigan

မလား ဆိုတာ မြင်ချင်နေကြတယ်။ ကျွန်မရဲ့ စောင့်ရှောက်မှု ခံရတဲ့ သူတွေက အေးစက်တာတွေ၊ ငတ်မွတ်တာတွေ မခံစားရဘူး။ ကျွမ်းကျင်တဲ့ စီစဉ်မှုတွေ ရတယ်။ ချက်ပြုတ်ပြီးသား အစားအစာတွေ စားရတယ်။ သူတို့ စရောက်တဲ့ အချိန်ကတည်းက ဆေးရုံနှစ်ခုလုံးမှာ နောက်ထပ်ရောက်လာသူ ၂၆၀ စာအတွက် အိမ်ရာတွေ စီစဉ်ပေးနိုင်တယ်။ အဲဒီအတွက် ဘုရားသခင်ကို ကျေးဇူးတင်ပါတယ်။ ...

ဒါပေမဲ့ ကျွန်မ နှစ်ခုစလုံး ခံစားရပြီးပြီ။ ... အဲဒီဆယ်ရက် အတောအတွင်းမှာ ကျွန်မရဲ့ ကိုယ်ပိုင်သီးသန့် အသုံးစရိတ်နဲ့၊ ကျွန်မရဲ့ ကိုယ်ပိုင်သီးသန့် ကြိုးပမ်းအားထုတ်မှုနဲ့ အဲဒီအမျိုးသမီးတွေကို အစားကျွေးပြီးပြီ။ နွေးထွေးအောင် လုပ်ပေးပြီးပြီ။ ကျွန်မရဲ့မြင်းနဲ့ ညကိုးနာရီ၊ ဆယ်နာရီ အထိ ဘယ်တော့မှ အပြင်မထွက်ဘူး။ အဲဒီ အချွန်အတက် တောင်ကုန်းတွေအပေါ် လမ်းလျှောက်မသွားနိုင်အောင် မှောင်လွန်းတဲ့ အချိန်မျိုးက လွဲလို့ပေါ့။ အဲဒါတောင် ခြေကျင်သွားစရာရှိရင် မီးအိမ်နဲ့ သွားတာ။ အဲဒီ ပိုအရေးကြီးတဲ့ နေ့ရက်တွေ အတောအတွင်းမှာ သေချာပေါက်စားစရာ လုံးဝ မရှိခဲ့ဘူး။ ရေ ... နည်းနည်း သောက်ရတာက လွဲလို့။ ဒါပေမဲ့ ကျွန်မ တစ်ခုခု စတင်ရမယ့်အချိန် ရောက်လာပါပြီ။ ကျွန်မရဲ့ အမျိုးသမီးတွေ ငတ်လည်း မငတ်ဘူး။ ဝေဒနာလည်း မခံစားရဘူး။

ဆန့်ကျင်မှုတွေ၊ အခက်အခဲတွေ ရှိသော်လည်း နာမကျန်းသူများအား ဆက်လက်၍ ကြင်နာစွာ ပြုစုစောင့်ရှောက်သည်။ စစ်အရာရှိတွေ ပူးပေါင်းဆောင်ရွက်မှု မရှိသည့် ဆင်းရဲဒုက္ခနှင့် ရာသီဥတုဒဏ်ကြောင့် ဖလောရင့် အားပြတ်သွားသဖြင့် စစ်ပွဲမပြီးခင် သီတင်းပတ်အနည်းငယ်အလိုမှာ သေဖို့ နီးကပ်နေပြီဟု စိုးရိမ်ပူပန်လျက် သူမ၏ အသုဘအတွက် အစီအစဉ်တွေ ပြုလုပ်နေသည်။ သို့ရာတွင် သူမ၏ နောက်ဆုံးအတွေးက စစ်တပ်အတွက်ပင်။ တောင်းဆိုချက် အမျိုးမျိုးကို အတိအကျ ပြောပြီးနောက် သူမက ဆက်ပြောသည်။

'ကျွန်မ အလေးဂရုထားခဲ့တဲ့၊ အထင်ကြီး လေးစားတဲ့ မြင့်မြတ်တဲ့ တပ်မတော်အတွက် သက်သေပြဖို့ နောက်ထပ် တစ်စုံတစ်ရာ လုပ်ဆောင်နိုင်ပါစေလို့ ဆန္ဒပြုပါတယ်။ တကယ်လို့ စစ်ဦးစီးမှူးက ကျွန်မ နှုတ်ဆက်ခဲ့တဲ့ အကြောင်းနဲ့ ကျွန်မတို့ အတူနေ၊ အတူခံစား၊ အတူ အလုပ်လုပ်ခဲ့

ကြတဲ့ အချိန်တွေကို သတိရကြောင်း အမိန့်ပြန်တမ်းမှာ ထည့်သွင်း ကြေညာပေးမယ်ဆိုရင် ကျွန်မ သူ့ကို ကျေးဇူးတင်မှာပါ'

သို့ရာတွင် ဖလောရင့် သေဖို့ ဆိုသည်မှာ ဘုရားသခင်၏ဆန္ဒ မဟုတ်ပေ။ သူမ ဝင်ရောက်ရမည့် အခြားနယ်ပယ်တွေ ရှိနေသေးသည်။ သူမနှင့် အတူနေထိုင်ခဲ့သူတွေ၊ သူမက အကျိုးရှိစွာ ဆောင်ရွက်ပေးခဲ့သူတွေက သူမကို အသိအမှတ် မပြု၊ တန်ဖိုးမထားသော်လည်း သူမ၏ လုပ်ဆောင်မှုတွေက နှစ်များစွာအတွင်း ချီးကျူးစရာတွေ ဖြစ်လာသည်။ အခြားသော အင်အား သို့မဟုတ် ကိုယ်ရည်ကိုယ်သွေးတွေ ပေါင်းစည်းခြင်းထက် ယမ်းမှုန့်ကို တွေ့ရှိခြင်းကြောင့် ဖြစ်လာသည့် အပျက်အစီးနှင့် ဒဏ်ရာဒဏ်ချက်တွေကို သူနာပြုအတတ်ပညာ နယ်ပယ်တွင် သူမ၏ အောင်မြင်မှုက ထေမိပေသည်။ လူနာတင် သင်္ဘောတွေ၊ ဆေးရုံသုံး လေယာဉ်ပျံတွေပေါ်မှာ၊ အုန်းပင်တွေအောက်၌ တည်ဆောက်ထားသည့် တောတွင်း ဆေးရုံတွေမှာ သူမ ဖွင့်လှစ်ခဲ့သည့် ဝန်ဆောင်မှုလုပ်ငန်းမှ သူနာပြု ထောင်ပေါင်းများစွာတို့ ရေတံခွန်ပမာ အဆက်မပြတ် စီးဆင်းနေပေသည်။

၃၀ မတ် ၁၈၅၆ တွင် စစ်ပွဲပြီးဆုံးသွားသည်။ သို့ရာတွင် ဆေးရုံများမှာ လုပ်ကိုင်စရာတွေ များစွာ ရှိနေသေးသဖြင့် သူမကို အိမ်ပြန်ခေါ်ရန် စစ်သင်္ဘော စေလွှတ်လိုက်သည့် ဇူလိုင်လအထိ ကျန်ရစ်နေခဲ့သည်။ နိုင်ငံတော်က သူမကို လက်ကမ်းကြိုဆိုရန် အသင့်ဖြစ်နေသည်။ ကြိုဆိုရေးအတွက် အစီအစဉ် လုပ်ကြသည်။ အောင်ပွဲခံ မုခ်ဦးတွေ တည်ဆောက်ကြသည်။ မြို့တော်ဝန်တွေက မိန့်ခွန်းတွေ ပြင်ဆင်ကြသည်။ သူမ စီးသည့် ရထားလုံးကို နိုင်ငံ၏ အထက်တန်းလွှာ လူတန်းစားက ဆွဲသင့်ကြောင်း၊ တီးဝိုင်းများဖြင့် ကြိုဆိုသင့်ကြောင်း တချို့က တောင်းဆိုကြသည်။ အမှန်အားဖြင့် ဘုရားသခင်နှင့် လူထုကို တာဝန်ထမ်းဆောင်ခဲ့သည့် ဤမြင့်မြတ်သော အမျိုးသမီးအတွက် လေးစားကြည်ညိုမှုကို ပြသရန်၊ ဂုဏ်ပြုရန် အစီအစဉ်တွေ အများအပြား ပြုလုပ်ထားပေသည်။

သို့ရာတွင် ဖလောရင့်၏ အစီအစဉ်က သူမကို ဂုဏ်ပြုဖို့ရန် ကြိုးပမ်းနေသည့် လူထု၏ဆန္ဒနှင့် တစ်ထပ်တည်း မကျပေ။ နာမည်အတုကို အသုံးပြု၍ ခရစ်တော်လို နှိမ့်ချသည့် သူနာပြုဆရာမလေးက မီးသင်္ဘောငယ်လေး တစ်စင်းကို စီး၊ ပါရီရှိ သာမန်ဟိုတယ်တစ်လုံးမှာ တစ်ညအိပ်၊ လန်ဒန်

ရှိ သီလရှင်ကျောင်း တစ်ခုမှာ နာရီအနည်းငယ်ကြာကြာ နေ၊ လီယာဟာ့စ်သို့ အညတရ တစ်ယောက်လို ရထားစီး၊ ဘူတာရုံမှ ပင်ပန်းနွမ်းနယ်စွာ လမ်းလျှောက်လာပြီး ၇ ဩဂုတ် ၁၈၅၆ တွင် နောက်ဖေးတံခါးမှ အိမ်ထဲသို့ ဝင်လာသည်။ ဘုရားသခင်၏ အမိန့်အရ ဆောင်ရွက်ခဲ့ပြီးပြီ ဖြစ်၍ ယခုအခါ ကမ္ဘာတစ်ဝန်းလုံး သူမ၏ ကောင်းကျိုးများကို ခံစားနေရပေပြီ။

## အခန်း [ ၈ ]

## လက်တွေ့ ပြုပြင်ရေးသမား

အင်္ဂလန်သို့ ရုပ်ဖျက်၍ ပြန်လာခဲ့သော်လည်း သီးသီးသန့်သန့် အေးအေး ဆေးဆေး နေလိုသည့်၊ လူအများ အာရုံစိုက်ခြင်းကို ရှောင်ကြဉ်လိုသည့် ဖလောရင့်၏ဆန္ဒ မပြည့်ဝခဲ့ပေ။ စကူတာရီ၌ သူမ လုပ်ဆောင်ခဲ့သည့် လုပ်ငန်းက သူမကို နိုင်ငံကျော် ပုဂ္ဂိုလ်တစ်ယောက် ဖြစ်စေသည်။ နိုင်ငံတော်က သူမထံမှ စကားတွေ ကြားချင်သည်။ သူမကို တွေ့မြင်ချင်သည်။ ဤဆန္ဒမှာ ဆင်းရဲနိမ့်ကျဆုံး တဲပုတ်တွေထဲက လူထုမှသည် အင်ပါယာနန်းတော်အထိ လူထု၏ဆန္ဒ ဖြစ်သည်။ အများအတွက် သူမ၏ စွန့်လွှတ်အနစ်နာခံမှုက အတွက်မဆန်သည့်အပြင် ထိရောက်မှုရှိသောကြောင့် သူမ၏ နိုင်ငံသူ နိုင်ငံသားတွေက ခရိုင်းမီးယားသို့ သူမ မရောက်မီအချိန်က တိုက်ပွဲဝင် စစ်သားများ၏ ကျန်းမာရေးကို အန္တရာယ် ဖြစ်စေခဲ့သည့် ဆိုးဆိုးဝါးဝါး အမှားကို ပြုပြင်ပေးရန်အတွက် သူမ၏လုပ်ငန်း အသေးစိတ်ကို သိရှိရန် တောင်းဆိုကြသည်။

သူမ၏ စကားအတိုင်း ပြောရမည်ဆိုလျှင် စကူတာရီ၌ သူမ၏ လုပ်အားမှာ နောက်ပိုင်း အောင်မြင်ပြီးမြောက်ခဲ့သည့် အရာတွေနှင့် နှိုင်းယှဉ်လျှင် "ကလေးကစားစရာ" ဖြစ်နေပေသည်။ သူမ၏ ခန္ဓာကိုယ်က အနားယူဖို့၊ အားပြန်ဖြည့်ဖို့ မေတ္တာရပ်ခံသည်။ သူမ၏ စိတ်ပင်ပန်းမှုက စိတ်ကို ဖြေလျှော့ပေးရန် မရမနေ တောင်းဆိုသည်။ သို့ရာတွင် စစ်တပ် ဆေးဘက်ဆိုင်ရာ လုပ်ငန်းကို အဆောတလျင် ပြောင်းလဲမှုများ လုပ်ရမည် ဖြစ်သောကြောင့် သူမ အိမ်မှာ အေးအေးဆေးဆေး မနေနိုင်ပေ။ သူမ ပုံရိပ်တွေကို

မြင်ခဲ့ပြီ။ သို့ဖြစ်၍ ပန်းတိုင်သို့ရောက်ရှိရန် လိုအပ်သည့် စွန့်လွှတ် အနစ်နာ ခံမှု တစ်ခုခု ပြုလုပ်ရန် ဆန္ဒရှိနေသည်။

ဖလောရင့်က သူနာပြုလုပ်ငန်းကို မက်မောတောင့်တသည်။ သူနာပြု လုပ်ငန်းကို အသက်မွေးဝမ်းကျောင်း လုပ်ငန်းအဖြစ် တည်ဆောက်ရန် ကြိုးပမ်းသည်။ ၎င်းမှာ သူနာပြုများအတွက် လေ့ကျင့်ရေးကျောင်းတစ်ခု တည်ဆောက်ပေးရန် အလွန်စိတ်ဝင်စားနေသော လူထုက အားပေးတိုက်တွန်း သည့် ရည်မှန်းချက်တစ်ခု ဖြစ်သည်။ သို့ရာတွင် သူမ အနေဖြင့် ပထမဦးစွာ သူမ၏စိတ်ကို လျှော့ထားရမည် ဖြစ်ကြောင်း သိသည်။ ပြုပြင်ရေးသမား တစ်ယောက်၏ ဖွဲ့စိတ်ဖြင့် စစ်ဘက်ဆိုင်ရာ ဆေးနှင့်ဆိုင်သော အစီအစဉ် ကို ပြန်လည်စုစည်းဖို့ သူမ၏ စွမ်းအင်အားလုံးကို ပစ်ပုံထားလိုက်သည်။

"စစ်တပ်နဲ့ ပတ်သက်လို့ ကျွန်မလို ဘယ်သူမှ ခံစားနိုင်မှာ မဟုတ် ဘူး" ဟု မိတ်ဆွေတစ်ယောက်ထံ ရေးသည့် စာထဲတွင် ပြောထားသည်။

> ကျွန်မတို့နဲ့ စကားပြောတဲ့ အဲဒီလူတွေက ကျွန်မတို့ အဝေးရောက် နေတုန်းမှာ သူတို့အားလုံးက သူတို့သားသမီးတွေကို မြေဆီသြဇာတွေ ကျွေးပြီး ပိုးဖဲကတ္တီပါတွေ ဆင်မြန်းပေးကြတာ။ ကျွန်မကတော့ ကျွန်မ ကလေးတွေ ပတ်တီးစည်းထားတာပဲ မြင်ရတယ်။ (သူမ၏ကလေး ဆိုသည်မှာ ဒဏ်ရာရ စစ်သားများကို ရည်ညွှန်းခြင်း ဖြစ်သည်။) ညစ်ပေ နေတဲ့ စောင်စုတ်တွေခြုံ၊ စစ်ဘောင်းဘီ အဟောင်းတွေကို ဝတ်နေရ တယ်။ ဆားနယ် သားအစိမ်းကို စားနေတာ မြင်ရတယ်။ ကျွန်မ ကလေး ကိုးထောင်က ကာကွယ်တားဆီးရမယ့် ဝေဒနာ အမျိုးမျိုးနဲ့ မေ့လျော့ခံ အုတ်ဂူထဲမှာ လဲလျောင်းနေကြရတယ်။ ဒါပေမဲ့ ကျွန်မကတော့ မမေ့ နိုင်ဘူး။ ရှည်လျားပြီး ကြောက်စရာကောင်းတဲ့ ဆောင်းရာသီဆိုတာ ဘယ်လိုမျိုးလဲ ဆိုတာ လူတွေ သိအောင် ကြည့်ရမှာပေါ့။

ကျဆုံးသွားသော စစ်သား ၄၆၀၀ နှင့် ပတ်သက်သည့် သူမ၏ အမြင်ကို အားဖြည့်ပေးမည့် အချက်အလက်များကို ရှာဖွေတူးဆွ မွှေနှောက် ပြီးနောက် တွေ့ရှိလေတော့သည်။ သင့်လျော်သော ကိုရိယာ တန်ဆာပလာ နှင့် ပြုစုစောင့်ရှောက်မှုကိုသာ ရခဲ့လျှင် သူတို့ အများစုမှာ နာလန်ထူလာ နိုင်မည် ဖြစ်သည်။ စစ်သားတွေထဲမှာ ရောဂါဘယကြောင့် သေတာက ၆၀ ရာခိုင်နှုန်း ရှိပြီး မိလ္လာရေဆိုးထုတ်စနစ်၊ အစားအစာနှင့် ဆေးရုံများ၌

သူနာပြုလုပ်ငန်းတွေကိုသာ တိုးတက်ထိရောက်စွာ ဆောင်ရွက်နိုင်ခဲ့လျှင် သေနှုန်းကို သိသိသာသာ လျှော့ချနိုင်ကြောင်း သူမက ပြသခဲ့သည်။

သူမ ပြန်ရောက်လာပြီး ပထမ သီတင်းပတ် အနည်းငယ်အတွင်း စာတွေ၊ လက်ဆောင်တွေ၊ မိန့်ခွန်းပြောရန် ပန်ကြားချက်တွေ၊ အခြား ဆက်သွယ်မှုတွေ ထောင်ချီ လက်ခံရရှိခဲ့သည်။ 'စာတွေက မိုးသီးမုန်တိုင်း ကျသလိုပဲ' ဟု သူမ၏ အစ်မက အိပ်တန်းတက်သည့် ခိုတွေလို ရောက်လာသည့် တပုံတပင် စာသဝဏ်လွှာတွေနှင့် ပတ်သက်၍ ဤကဲ့သို့ ပြောပြသည်။ ၂၃ ဩဂုတ် ၁၈၅၆ နေ့တွင် ဝိတိုရိယ ဘုရင်မကြီး၏ သမားတော် ဆာဂျိမ်းစ်ကလပ်[၁] လက်မှတ်ရေးထိုးထားသည့် အရေးတကြီး အကြောင်းကြားစာ တစ်စောင် ရောက်လာသည်။ စာထဲတွင် သူမကို ဘာ့ခ်ဟောလ်[၂] ရှိ သူ၏နေအိမ်သို့ ကြွရောက်ပါရန် ဖိတ်ကြားထားသည်။ စကော့လေထု က သူမ၏ ကျန်းမာရေးအတွက် အကျိုးရှိမည်ဖြစ်ကြောင်း၊ မကြာမီ ဘာလ်မိုရယ်[၃] ၌ ဘုရင်မကြီး လာရောက်နေထိုင်မည် ဖြစ်ကြောင်းနှင့် ဘုရင်မ ကြီးက ဖလောရင့်ကို သူမထံ အလည်လာရန် ဖိတ်ကြားမည်ဖြစ်ကြောင်း ရေးသားထားသည်။ ဘုရင်မကြီးက ယခု ဖိတ်ကြားချက်ကို သဘောတူ လက်ခံသည်။ ဘာလ်မိုရယ်သို့ နိုင်ငံတော်အကြီးအကဲ ကိုယ်တိုင် ကြွရောက် ခြင်း ဖြစ်သည့်အပြင် ဘာ့ခ်ဟောလ်၌ အေးအေးဆေးဆေး ရင်းရင်းနှီးနှီး လွတ်လွတ်လပ်လပ် စကားပြောဖို့ အခွင့်အရေး ရကောင်းရမည် ဖြစ်သည်။

ဖလောရင့်က နိုင်ငံတော်ကို စိန်ခေါ်လိုက်သည်။ တကယ်တကယ် ကြွ ကြွ မာန်ပါပါ စိန်ခေါ်မှုပင်။

'တိုင်းပြည်တာဝန် ထမ်းဆောင်ရင်း ကျဆုံးသွားသူတွေ၊ ဝေဒနာ ခံစားရသူတွေအတွက် သင်တို့ ဘာမှ ပိုလုပ်ပေးနိုင်မည် မဟုတ်ပါ' ဟု သူမက ပြောသည်။

"သူတို့က ကျွန်မတို့ အကူအညီကို နောက်ထပ် မလိုအပ်တော့ပါ။ သူတို့ဝိညာဉ်တွေက ဘုရားသခင်နှင့်အတူ ရှိနေပါပြီ။ ကျွန်မတို့အနေဖြင့် သူတို့၏ ခံစားချက်များ အချည်းနှီး ကြုံကြွခံ မနေရအောင် ကြိုးပမ်းရန် သာ ကျန်ပါတော့သည်။ ဤအတွေ့အကြုံကို သင်ခန်းစာယူ၍ အနာဂတ် တွင် ဤကဲ့သို့ ခံစားရမှုများ လျော့နည်းအောင် ကြိုတင်တွေးခေါ် စဉ်းစား မှု၊ အမြော်အမြင်ရှိသော စီမံအုပ်ချုပ်မှုဖြင့် ကြိုးပမ်းရန်သာ ရှိပါသည်။"

---

၁။ Sir James Clark ၂။ Birk Hall ၃။ Balmoral

သူမ ခန္ဓာကိုယ်၏ အနားယူရန် တောင်းဆိုမှုကို မေ့ထားလျက် ဤ ရည်မှန်းချက် တစ်ခုကို ရရှိအောင်မြင်ရန် သူမကိုယ်တိုင် စစ်ပွဲအတွင်းသို့ ခြေစုံပစ် ဝင်သွားခြင်း ဖြစ်သည်။

"စတေးခံရသူများရဲ့ ယဇ်ပလ္လင်ပေါ်မှာ ကျွန်မ ရပ်တည်နေပါတယ်။ ကျွန်မ အသက်ရှင်နေသမျှ ကာလပတ်လုံး သူတို့ အရေးကိစ္စအတွက် တိုက်ပွဲ ဝင်နေမှာပါ" ဟု ၁၈၅၆ ခုနှ သူမ၏ ကိုယ်ပိုင်မှတ်စုထဲတွင် ရေးထားသည်။

ဤစကားများ ဘုရင်မကြီး၏ နားအထိ ပေါက်သွားသဖြင့် အရေးယူ ဆောင်ရွက်ရန် တောင်းဆိုနေတော့သည်။ ဘုရားသခင်က ဖလောရင့်ကို အပ်နှင်းထားသော ကြိုတင်စီစဉ်နိုင်သည့် ဉာဏ်ကို သူမ မြင်တွေ့လိုက်ပြီ ဖြစ်သည်။ စိတ်ကူးအိပ်မက်တွေကို ဖန်တီးသည့် မခိုင်လုံသော အရာထက် ပို၍ သေချာလာသည့်တိုင်အောင် သူမ မကျေနပ်နိုင်သေးပေ။

ဘုရင်မကြီး၏ စကော့တလန် စံအိမ်သို့ မသွားမီ စစ်သားများ၏ အသေအပျောက်ကို လျှော့ချနိုင်မည့် ဆေးဝါးကုသမှု တိုးတက်စေသော သူမ၏ အမြင်၊ သဘောထားကို သက်သေပြရန် လိုအပ်သော စာရင်းဇယား များကို ဖလောရင့် စုဆောင်းသည်။ ရဲရင့်ပြောင်မြောက်သော ပြုပြင်ပြောင်းလဲ ရေး သမားက အစီရင်ခံစာ တစ်ခုကို စီစဉ်ရေးသားထားသည်။ ထိုအစီရင် ခံစာတွင် သူမ၏ တွေ့ရှိချက်များကို အကျဉ်းချုပ် ရေးသားထားပြီး ပြုပြင် ပြောင်းလဲရေး စီမံကိန်းတစ်ခုကို အကြံပြုထားသည်။ ပထမဦးစွာ ပြုပြင် ပြောင်းလဲရေး ကော်မရှင်ကို ဖွဲ့စည်းရမည်။ ထို့နောက် စစ်တန်းလျားများ၊ ဆေးရုံများနှင့် စစ်ဘက်ဆေးဝါးကုသရေးဌာန၏ ရှုပ်ထွေးနေသော ပြဿနာ များကို စုံစမ်းဖို့ တော်ဝင်ကော်မရှင်ထံ တောင်းဆိုရန် သူမ ဆုံးဖြတ်လိုက် သည်။ သူမက ဒုတိယကိစ္စကို အထူးသဖြင့် စိတ်ဝင်စားသည်။ အဘယ့် ကြောင့်ဆိုသော် ဝန်တိုစိတ်ရှိသော ဆေးဘက်ဆိုင်ရာ အရာရှိများ၏ ခေါင်းမာ မိုက်မဲမှု အကျိုးဆက်ကို သူမ အပြင်းအထန် ခံစားခဲ့ရသောကြောင့် ဖြစ်သည်။

'စစ်မြေပြင်မှာ ဆေးဝါးကုသရေးကိစ္စ မပြည့်စုံရင် စစ်တပ်တစ်တပ် ရဲ့ မိလ္လာရေဆိုး သန့်ရှင်းရေး ဆောင်ရွက်မှု တိုးတက်အောင် လုပ်နိုင်မှာ မဟုတ်ဘူး' ဟု သူမက ထုတ်ဖော်ပြောသည်။ 'မိလ္လာရေဆိုးသန့်ရှင်းရေး သိပ္ပံပညာကို ဆေးရုံတွေမှာ လျစ်လျူရှုထားရင် အိမ်တွေမှာလည်း အဲဒီလို ချို့ယွင်းချက်တွေ ရှိနေမယ်ဆိုတာ ပိုဖြစ်နိုင်တယ်'

အနံ့ခံကောင်းသော အင်းခွေးတစ်ကောင်၏ မဆုတ်မနစ် လှုပ်ရှားမှုမျိုးဖြင့် ဤအတွေးလမ်းကြောင်းနောက် လိုက်သောအခါ စစ်တပ်ထဲက အသက် (၂၀) နှင့် (၃၅) နှစ်ကြား စစ်သားများ၏ အသေအပျောက်နှုန်းသည် ထိုအသက်အရွယ် သာမန်အရပ်သား သေနှုန်းထက် နှစ်ဆဖြစ်နေသည်ကို စိတ်ပျက်ဖွယ်ရာ တွေ့ရှိရသည်။ ၎င်းမှာ လက်ရွေးစင် စစ်သားများကို လေ့လာခြင်းဖြင့် သက်သေပြခြင်း ဖြစ်သည်။

'ဒါဟာ ရာဇဝတ်မှုပဲ' ဟု သူမက ထုတ်ဖော်ကြေညာသည်။ 'ဘာ့ကြောင့်လဲ ဆိုတော့ ဒါဟာ ဆယ်လစ်ဘာရီ လွင်ပြင်[၁] မှာ လူတစ်ထောင်ကို နှစ်စဉ်ထုတ်ပြီး ပစ်သတ်တာနဲ့ တူနေလို့ပဲ'

ဤထုတ်ဖော် ပြောဆိုချက်များက စစ်တပ်၏ ဒေါသကို နှိုးဆွပေးနေသည်။ ဘုရင်မ၏ တပ်မတော်ထဲမှာ အေးအေးလူလူ ထိုင်နေရသည့် ရာထူးကြီး ဆေးဘက်ဆိုင်ရာ ပုဂ္ဂိုလ်များမှာ သူမ၏ တရစပ် ထိုးနှက်ဝေဖန်မှုအောက်၌ အမြီးကုပ်သွားကြသည်။ သူမ၏ ဆန္ဒနှင့် အလျှော့မပေးသော ဆုံးဖြတ်ချက်တစ်ခုမှာ တိုက်ပွဲဝင် ပုဂ္ဂိုလ်များအတွက် တရားမျှတမှုကို ပြသပေးရန် ဖြစ်သည်။ စကူတာရီရှိ အုတ်ဂူတွေဘေးမှာ ရပ်လျက်၊ အချို့အုတ်ဂူတွေကို ကူညီတူးဖော်ပေးရင်း သူမ၏ တောင်းဆိုသံကို မြှင့်တင်လိုက်သည်။ ဘုရင်မကြီးလည်း ကြားသိသည်။

စကော့တလန်သို့ အလည်အပတ် ခရီးက တစ်လကြာသည်။ ဘာ့ခ်ဟောလ်သို့ သူမ ရောက်ရှိပြီး နှစ်ရက်အကြာတွင် ဘုရင်မကြီးနှင့် ကွန်းဆော့မင်းသားတို့ကို ဘယ်လ်မိုရယ်၌ တွေ့ဆုံသည်။ ဤအကြောင်းကို မင်းသားက ဒိုင်ယာရီထဲတွင် ရေးမှတ်ထားသည်။ "သူမက ကျွန်ုပ်တို့၏ လက်ရှိစစ်ဆေးရုံစနစ်၏ အပြစ်အနာအဆာ အားလုံးနှင့် ပြုပြင်ရန် လိုအပ်ချက်များကို ကျွန်ုပ်တို့ ရှေ့မှောက်၌ တင်ပြသည်။ သူမသည် အလွန် ဝင့်ဝါပလွှားမှု မရှိသူ ဖြစ်သည်။" ရက်အနည်းငယ် ကြာပြီးနောက် ဘုရင်မကြီးက ဘာ့ခ်ဟောလ်သို့ ရောက်လာပြီး ပြုပြင်ပြောင်းလဲရန် စိန်ခေါ်မှုကို ဘုရားသခင် အပ်နှင်းခံရသည့် သူနာပြုဆရာမလေးနှင့် အတူ လက်ဖက်ရည်သောက်သည်။ သူမနှင့် ဖလောရင့်တို့ (မစ္စ နိုက်တင်ဂေးလ်၏ စကားအတိုင်း ပြောရမည်ဆိုလျှင်) "ကြီးမြတ်သော ဆွေးနွေးပွဲ" အပြီး၌ ဘုရင်မကြီးက 'ကျွန်ုပ်တို့ သူမကို စစ်ရုံးမှာ ရှိစေချင်လိုက်တာ' ဟု ပြောကြားသည်။

၁။ Salisbury Plain

ထိပ်ပိုင်း အရာရှိများနှင့် အစိုးရအဖွဲ့ဝင်များ၊ အထူးသဖြင့် လော့ဒ်ပန်းမျူးရ်[၁] တို့နှင့် အင်တာဗျူးလုပ်ရန်၊ စကော့တလန်၌ ဆက်နေရန် ဘုရင်မကြီးက သူမကို တောင်းဆိုသည်။ တွေ့ဆုံဆွေးနွေးပွဲများက ကျေနပ်ဖွယ် ကောင်းသည်။ ဆွေးနွေးသူတိုင်းက ပြုပြင်ပြောင်းလဲရေး ကော်မရှင်တစ်ခု ဖွဲ့စည်းရန် သူမ၏ မေတ္တာရပ်ခံချက်ကို ထောက်ခံအားပေးသည်။ လန်ဒန်သို့ ပြန်ရောက်သောအခါ ဖလောရင့်က ဘာလင်တန်[၂] ဟိုတယ်၌ တည်းခိုရင်း သူမနှင့် နေ့စဉ် ဆွေးနွေးခဲ့သူများနှင့်အတူ သူမ၏ "ပြုပြင်ပြောင်းလဲရေး ကက်ဘိနက်" ဟု အမည်ပေးထားသော အဖွဲ့ကို ဖွဲ့စည်းသည်။ "အငယ်တန်း စစ်ရုံး" ဟု ခေါ်သည့် ဤအဖွဲ့က တော်ဝင်ကော်မရှင်ဆောင်ရွက်ရမည့် ဥပဒေများကို ရေးဆွဲပေးသည်။ ညွှန်ကြားချက်မူကြမ်း ရေးဆွဲပြီး "နွားရိုင်း" ဟု လူသိများသော လော့ဒ်ပန်မျူးရ်ထံ တင်ပြသည်။

နောက်ဆုံးတွင် ဤကော်မရှင် ဖွဲ့စည်းခြင်းကို အထနှေးသည့် "နွားရိုင်း" နှင့် ဖလောရင့်၏ ရှည်ကြာသော မိတ်ဆွေ ဆာဟားဘတ် ဆစ်ဒနီတို့က သဘောတူ လက်ခံလိုက်သည်။ ဤကော်မရှင်သည် ၁၆ နိုဝင်ဘာ ၁၈၅၆ တွင် စတင်လှုပ်ရှားသည်။ သို့ရာတွင် နောက်နှစ်မေလအထိ ဘုရင်မကြီး၏ အမိန့်စာ လက်မှတ်မထိုးရသေးပေ။ ဤနှောင့်နှေးမှုကြောင့် ဖလောရင့်နှင့် ဆာဟားဘတ်တို့အတွက် စိတ်အနှောင့်အယှက် ဖြစ်ရသည်။ အဘယ့်ကြောင့်ဆိုသော် သူတို့က စိတ်အားထက်သန်စွာ တွန်းအားပေး လုပ်ဆောင်ရန် ကြိုးစားနေစဉ်မှာပင် စစ်ရုံးနှင့် စစ်ဘက်ဆေးကုသရေးဌာနမှ ရန်သူတော်တွေက သူတို့၏ ကြိုးပမ်းအားထုတ်မှုကို ကဖျက်ယဖျက် လုပ်နေကြသောကြောင့် ဖြစ်သည်။

ဤသို့သော ကြိုးစားအားထုတ်မှု ကာလအတွင်း ဖလောရင့်က လူထုမေတ္တာရပ်ခံချက် လက်နက်ကို လိုအပ်သည့်အချိန်၌ ထုတ်သုံးရန် ကိုင်စွဲထားသည်။ သူမက "ဗိုလ်ကျ အနိုင်ကျင့်တတ်" သူအဖြစ် ဖွင့်ချထားသော "နွားရိုင်း" ၏ တိုက်ခိုက်မှု ခံရမည်ကို သိထားသောကြောင့်ပင်။ လူထုက သူမကို ထောက်ခံနေကြောင်း သူမ သိသည်။ ဘယ်လ်မိုရယ်၌ အရေးယူဆောင်ရွက်ရေး အကြံပြု အစီရင်ခံစာကို ရေးသားရန် ဆုံးဖြတ်ထားပြီး ဖြစ်သည်။ ဤကိစ္စ ပြီးမြောက်အောင်မြင်ခဲ့လျှင် တွေ့ရှိချက်များကို လူထုကြား၌ ဖွင့်ချမည့် လိုအပ်ချက်ကို ဖယ်ရှားလိုက်မည် ဖြစ်သည်။

၁။ Lord Panmure ၂။ Burlington

သို့ရာတွင် ဆာဟားဘာတ်ထံ စာရေးရာ၌ သူမက ခပ်ပြတ်ပြတ်ပင် ပြောထားသည်။ "ပြုပြင်ပြောင်းလဲရေးအတွက် တရားမျှတတဲ့၊ သေချာတဲ့ ကတိကဝတ်ကို မရရင်တော့ ဒီစာရေးတဲ့ ရက်စွဲကနေ သုံးလအကြာမှာ ခရိုင်းမီးယန်း တိုက်ပွဲစဥ်နဲ့ ပတ်သက်တဲ့ ကျွန်မရဲ့ အတွေ့အကြုံနဲ့ တိုးမြှင့် လုပ်ဆောင်ဖို့အတွက် ကျွန်မရဲ့ အကြံပြုချက်တွေကို ထုတ်ပြန်ကြေညာ လိုက်တော့မယ်။"

သူမ၏ တွေ့ရှိချက်များကို ကြိုးစားပမ်းစား စုဆောင်းထားပြီး "ဗြိတိသျှစစ်တပ်၏ ကျန်းမာရေး ကြိုးပမ်းဆောင်ရွက်မှုနှင့် ဆေးရုံ စီမံ အုပ်ချုပ်မှုကို ထိခိုက်စေသော မှတ်တမ်းများ" ဟု ခေါင်းစဉ်တပ်ထားသည်။ ခြောက်လကြာကြာ သူမ၏ကျန်းမာရေး ညံ့ဖျင်း၍ အားအင်ဆုတ်ယုတ် နေသော်လည်း စာမျက်နှာ ရာပေါင်းများစွာပါသော အစီရင်ခံစာကို သူမ ကိုယ်တိုင် လက်ရေးဖြင့် ခက်ခက်ခဲခဲ ကြိုးပမ်းရေးသားပြီး၊ ကိုယ်တိုင် အကုန် အကျခံ ပုံနှိပ်ကာ သူငယ်ချင်း၊ မိတ်ဆွေများကြား၌ ဖြန့်ဝေပေးသည်။ ဤ အစီရင်ခံစာကို ချီးမွမ်းထောမနာ ပြုကြသည်။

"ဒီအစီရင်ခံစာဟာ ဖြစ်ရပ်မှန်တွေနဲ့ ကောက်နုတ် သုံးသပ်ချက် တွေရဲ့ မိုင်းဖိုးတစ်လုံးပဲ" ဟု ၁၈၅၅ ခုတွင် အစိုးရအမိန့်ဖြင့် "အရှေ့" သို့ စေလွှတ်ခြင်းခံရသူ ဆာဂျွန် မက္ကနီးလ်[၁] က ရေးထားသည်။ "ဒီအစီရင်ခံစာ က နောက်မျိုးဆက်တွေအတွက် တည်ဆောက်ပေးနိုင်မယ့် စီမံချက်တိုင်း အတွက် အချက်အလက်တွေ ပံ့ပိုးပေးလိမ့်မယ်။ အဲဒီမှာ တခြားဘယ်သူ တွေမှ အလားတူ အကြောင်းအရာကို ခေါင်းခံပြီး ဆောင်ရွက်မပေးခဲ့ဖူးတဲ့ သတင်းအချက်အလက်နဲ့ လမ်းညွှန်ချက်တွေ တစုတဝေးတည်း ပါဝင် တယ်။ အဲဒါကို ကျွန်တော်က စစ်တပ်အတွက်ရော၊ တိုင်းပြည်အတွက်ပါ အဖိုးမဖြတ်နိုင်တဲ့ လက်ဆောင်တစ်ခုလို့ ယူဆပါတယ်။"

မိတ်ဆက်အမှာစကားမှ အစပြု၍ ပြီးခဲ့သည့် စစ်ဆင်ရေးများတွင် ဗြိတိသျှစစ်တပ်၏ ကျန်းမာရေးမှတ်တမ်း တစ်ခုကို တင်ပြထားသည်။ မကြာမီက ပြီးဆုံးသွားသည့် ခရိုင်းမီးယားစစ်ပွဲတွင် စစ်သားများ၏ ဆေး ကုသမှုဆိုင်ရာ အခြေအနေကို ဖော်ပြထားသည်။ ထို့နောက် ဆေးရုံများ ဖွဲ့စည်းမှု၊ တပ်ရင်းနှင့် စစ်ဗိုလ်ချုပ်၊ တပ်ထဲတွင် မိလ္လာရေအိုး သန့်စင်ရေး၊

၁။ Sir John McNeill

အရာရှိများ လိုအပ်ပုံ၊ စာရင်းအင်းဌာန တိုးမြှင့်ဆောင်ရွက်ရေး၊ ဆေးဘက်ဆိုင်ရာ အရာရှိများ၏ အသိပညာနှင့် တိုးတက်မှု၊ စစ်သားများ၏ လစာနှင့် ရပ်နားခြင်း၊ အစားအစာနှင့် အချက်အပြုတ်၊ လျှော်ဖွပ်ခြင်းနှင့် စားသောက်ဆိုင် တည်ထောင်ရေး၊ စစ်သားများ၏ ဇနီးများ၊ စစ်ဆေးရုံများ ဆောက်လုပ်ခြင်း၊ စစ်ပွဲနှင့် ငြိမ်းချမ်းရေးအတွင်း စစ်တပ်များ၏ သိသာမြင်သာသော အသေအပျောက် ... စသော အကြောင်းအရာများကို တင်ပြ ဆွေးနွေးထားသည်။ သူမက စာအုပ်ကို အချပ်ပို မှတ်ချက်များ၊ ပုံပြဇယားများ၊ သရုပ်ဖော်ပုံများဖြင့် နောက်ဆက်တွဲ ဖော်ပြထားသည်။

သတ္တိပြောင်မြောက်သော အမျိုးသမီးက စစ်ဆေးရုံများ၏ အခြေအနေသည် လူများစု၏ ကျန်းမာရေး တစ်စိတ်တစ်ဒေသလည်း ဖြစ်သည်ဟု ထောက်ပြထားသည်။ ခရိုင်းမီးယန်း စစ်ပွဲအတွင်း တိုက်ပွဲမှာ ကျသည့် အရေအတွက်ထက် ငြိမ်းချမ်းရေးကာလတွင် ရောဂါကြောင့် သေဆုံးသည့် အရေအတွက်က (၇) ဆ ရှိသည် ဆိုသော အချက်က စစ်တပ်၏ ညံ့ဖျင်းသော ကျန်းမာရေး အခြေအနေကို ညွှန်ပြနေသည်။

ဤအခြေအနေကြောင့် မိလ္လာရေဆိုး သန့်စင်ရေး နည်းစနစ်ကို စစ်တပ်အားလုံး၌ ပြန်လည်ပြုပြင် ဖွဲ့စည်းခြင်း၊ အသုံးချခြင်းဖြင့် လုံးဝ ပြောင်းလဲပစ်ရမည်ဟု ဖလောရင့်က ပြောသည်။

စစ်ရေးဆိုင်ရာ သိပ္ပံပညာနှင့် နီးနွယ်နေသော မဟာဗျူဟာကျသည့် နယ်ပယ်များတွင် ကျွမ်းကျင်သူများ၏ စွမ်းရည်ကို သူမက မရမနေ တောင်းဆိုလိုက်သောအခါ သူမ၏ ဂုဏ်သတင်းက အလျင်အမြန် ပျံ့နှံ့သွားသည်။ ရေတပ်က သူမကို "သင်္ဘောသားများအား လက်ခံရန်နှင့် ရေတပ်ဆေးရုံများတွင် အမျိုးသမီး သူနာပြုများ စတင်အသုံးပြုရန်" တောင်းဆိုသည်။ ရေတပ် ဆေးရုံတစ်ခုနှင့် ပတ်သက်သော စီမံကိန်းများကိုလည်း သူမက ဝူးလ်ဝစ်ချ်[၁] ၌ ညှိနှိုင်းဆွေးနွေးသည်။ ရေတပ် ညွှန်ကြားရေးမှူးချုပ် ဆာဂျွန်လစ်ဒဲလ်[၂] က "ဆေးရုံဆောက်လုပ်ရေးနဲ့ ပတ်သက်တဲ့ သင့်ရဲ့ ကျွမ်းကျင်လိမ္မာတဲ့ အစီရင်ခံစာကနေ ကျွန်တော်တို့ရဲ့ အဆောက်အဦ အဟောင်းတွေရော အသစ်တွေမှာပါ အကျိုးအမြတ် ရှိမယ်လို့ ကျွန်တော် သဘောပေါက်ပါတယ်" ဟု ရေးထားသည်။

၁။ Woolwich ၂။ Sir John Liddell

ဆာ ရောဘတ် ရောလင်ဆန်[၁] က ပြောသည်။ 'သူမက အပြည့်အဝ ရိတ်သိမ်းနိုင်မယ့် မျိုးစေ့ကို စိုက်ပျိုးခဲ့တာပါ။ သူမရဲ့ လက်တွေ့ကျကျ လုပ်ရပ်များကြောင့် လူ့ဘဝ နောက်ဆုံးအချိန်အထိ ပိုပြီး ကောင်းမွန်မှာပါ။ သူမရဲ့ အမြော်အမြင်ရှိတဲ့ အစီအစဉ်များအတိုင်း ဆေးရုံတွေ တည်ဆောက်မှာပါ။ သူမရဲ့ လူသားဆန်တဲ့ စည်းမျဉ်းစည်းကမ်းများနဲ့ လိုက်လျောညီထွေမှုရှိစွာ စီမံအုပ်ချုပ်နိုင်မှာပါ။ စစ်တပ်ထဲက လူတစ်ယောက်ဟာ အရင်က လူနှစ်ယောက်ထက် ပိုအသုံးဝင်မှာပါ။ ဆင်ခြင်တုံတရားက သက်သောင့်သက်သာ ရှိမှုနဲ့ ကျန်းမာရေးကို ဦးဆောင်သွားမှာပါ'

ဖလောရင့်က လန်ဒန် စစ်ဆေးရုံများနှင့် အရပ်ဘက် ဆေးရုံများကို သေသေချာချာ လေ့လာပြီးနောက် ဆေးရုံများ တိုးတက်ရေးအတွက် စေတနာဖြင့် အကြံပေးသည်။ ခရိုင်းမီးယား၌ စတင်လုပ်ဆောင်ခဲ့သော စာဖတ်ခန်းများသည် အောင်မြင်ကြောင်း တွေ့ရှိရသဖြင့် အင်္ဂလန်၌ မွမ်းမံပြုပြင်၍ စတင်ဖွင့်လှစ်ပေးသည်။ ဤပရောဂျက်ကို အယ်လ်ဒါရှော့[၂] စစ်စခန်း၌ ဆောင်ရွက်ရာ သူမက ရန်ပုံငွေ ထောက်ပံ့ပေးသည်။ သူမ၏ အစီရင်ခံစာကို အသေးစိတ် အချက်အလက်ကလေးက အစ အမှန်အကန် ဖြစ်စေချင်သည်။ သို့ဖြစ်၍ ကျွမ်းကျင်သူများနှင့် ညှိနှိုင်းတိုင်ပင်သည်။ ၎င်းတို့အထဲတွင် ဂရိတ်ဗြိတိန်မှာသာမက ဥရောပတွင်ပါ အကောင်းဆုံး ဆေးရုံစီမံကိန်းများနှင့် ပတ်သက်၍ သူမကို ကူညီပေးသည့် အထင်ကရ ဗိသုကာပညာရှင်များ ပါဝင်သည်။ နိုင်ငံ့ထိပ်ပိုင်း အာဏာပိုင် ပုဂ္ဂိုလ်များထံမှ အာဟာရဗေဒဆိုင်ရာ အချက်အလက်များ ရှာဖွေသည်။ စစ်တပ် ခွဲစိတ်ကုဆရာဝန်များ၊ သာသနာပြုအဖွဲ့များ၊ ခရစ်ယာန် ဘုန်းတော်ကြီးများနှင့် တွေ့ဆုံဆွေးနွေးသည်။

ဖလောရင့်၏ "ဗိုလ်ကျမှု" က အကျိုးသက်ရောက်မှုရှိကြောင်း ပြသလိုက်သည်။ ၂၇ ဧပြီ ၁၈၅၇ တွင် လော့ဒ်ပန်မျူးရ်က ဖလောရင့်ကို ပန်ကြား၍ ကော်မရှင် ဖွဲ့စည်းရေးအတွက် တရားဝင် ညွှန်ကြားချက်မူကြမ်းကို သူမထံ တင်ပြသည်။ စီမံချက်ကို ပြုပြင်လေ့လာပြီးနောက် ဘုရင်မကြီး၏ ထောက်ခံချက် ရယူရန် တင်ပြသည်။ ဤစီမံကိန်းမှာ ဘုရင်မကြီး၏ ချီးကျူးခံရပြီး မေလတွင် လုပ်ငန်း စတင် ဆောင်ရွက်သည်။

---

၁။ **Sir Robert Rawlinson** ၂။ **Aldershot**

ဖလောရင့်က ကော်မရှင်နှင့်အတူ စိတ်ရှည်သည်းခံစွာ အလုပ်လုပ်သည်။ သူမက ထိုအဖွဲ့နှင့် ကိုယ်တိုင်ကိုယ်ကျ ဖြစ်စေ၊ စာဖြင့်ဖြစ်စေ နေ့စဉ်တွေ့ဆုံပြီး စစ်ဝန်ကြီး သို့မဟုတ် အခြားသော အရေးပါသည့် ကော်မရှင်အဖွဲ့ဝင်တို့နှင့် အမြဲမပြတ် ဆက်သွယ်ဆောင်ရွက်သည်။ မျှမျှတတနှင့် ပြည့်စုံသော သက်သေသာဓကများကို တင်ပြနိုင်စေရန် သက်သေ အထောက်အထားများကို အကြံပြုပြီး စစ်ဆေးမေးမြန်းမှုများ၊ ပြန်လှန် မေးခွန်းများအတွက် အနှစ်ချုပ် ပြင်ဆင်ထားသည်။

ဩဂုတ်လ ရောက်သောအခါ ကော်မရှင်၏ လုပ်ငန်းများ အပြီးသတ်သွားသည်။ ၁၈၅၈ ခု ဇန်နဝါရီလတွင် တွေ့ရှိချက်များကို လူထုထံ ချပြသည်။ ထိုအဖွဲ့က ဖလောရင့်၏ သဘောထားကို အတည်ပြု၍ အင်္ဂလန် စစ်တပ်၏ အသေအပျောက်များခြင်းသည် လျစ်လျူရှုမှုနှင့် အရည်အချင်းမပြည့်မှု၏ အကျိုးဆက်ဖြစ်ကြောင်း ပြသလိုက်သည်။ ဥပမာအားဖြင့် လန်ဒန်မြို့ စီရင်စုတစ်ခု အတွင်းရှိ အရပ်သား သေဆုံးမှုနှုန်းမှာ ၂.၂ ရှိပြီး ထိုဒေသအတွင်းရှိ စစ်တန်းလျားများ၌ သေဆုံးမှုနှုန်းမှာ ၁၀.၄ အထိ မြင့်တက်နေသည်။ အင်္ဂလန်နိုင်ငံ၏ အခြားဒေသ တစ်ခုတွင် စစ်သားများ သေနှုန်းမှာ ၁၇.၅ နီးပါး ရှိပြီး အရပ်သား သေနှုန်းမှာ ၃.၃ ရှိသည်ဟု ကော်မရှင်က ထောက်ပြထားသည်။

အကယ်၍သာ စိတ်ပျက်ဖွယ် ဆိုးဝါးလှသော အခြေအနေကို ပြုပြင်ရန် အရေးယူဆောင်ရွက်မှု မလုပ်မီ တွေ့ရှိချက်များကို လူသိရှင်ကြား ထုတ်ဖော်ကြေညာခဲ့လျှင် အထွေထွေ တုံ့ပြန်မှုက ဆိုးဆိုးဝါးဝါး မနှစ်မြို့ဖွယ် ဖြစ်လိမ့်မည်ဆိုသော ယုံကြည်မှုတွေ လူထုအကြား ပျံ့နှံ့နေသည်။ သို့ဖြစ်၍ အများသိစေရန် အစီရင်ခံစာ ထုတ်ပြန်ကြေညာမှုကို လပေါင်းများစွာ ဆိုင်းငံ့ထားခြင်း ဖြစ်သည်။ ထိုအတောအတွင်း ပြုပြင်ပြောင်းလဲထားသော စနစ်ကို စတင်ကျင့်သုံးခဲ့သည်။ သို့ဖြစ်၍ ဆေးရုံစည်းကမ်းထိန်းသိမ်းရေးကို ပြင်ဆင်ရန်နှင့် ဆေးဘက်ဆိုင်ရာ အရာရှိများ၏ ရာထူးတိုးမြှင့်ရေးအတွက် ခွင့်ပြုမိန့်ကို ရေးဆွဲရန် အလို့ငှာ စစ်တန်းလျားများ စီစဉ်ဖွဲ့စည်းရေး၊ စာရင်းအင်းဌာနတစ်ခု စတင်ဖွင့်လှစ်ရေး၊ ဆေးကုသရေးဆိုင်ရာ ကျောင်းတစ်ကျောင်း တည်ဆောက်ရေးနှင့် စစ်တပ် ဆေးဘက်

ဆိုင်ရာဌာန ပြန်လည်ပြုပြင် တည်ဆောက်ရေးအတွက် ကော်မရှင်အဖွဲ့ခွဲ လေးခုကို ထူထောင်ပေးလိုက်သည်။

ဤအဆိုပြုချက်များကို "နွားရိုင်း" (လော့ဒ် ပန်မျူးရ်) ထံ ဩဂုတ်လ (၇) ရက်နေ့တွင် ပို့လိုက်သည်။ သို့ရာတွင် ထုံးစံအတိုင်း သူ၏ အချိန်ဆွဲမှုကြောင့် လုပ်ငန်းစတင်ရန် လပေါင်းများစွာ ကြာသည်။ အကယ်၍ အရေးယူဆောင်ရွက်မှု မလုပ်လျှင် ၁၈၅၈ ခုနှစ် ဇန်နဝါရီလတွင် လူထုလှုပ်ရှားမှုတစ်ရပ် ကျင်းပရန် ဖလောရင့် ကြိုတင်ပြင်ဆင်ထားသည်။ သူမက ဆာဂျွန် မက္ကနီးလ်ထံ စာရေးသည်။

လွန်ခဲ့တဲ့ သုံးနှစ်အတွင်းမှာ ကျွန်မတို့တစ်တွေ အင်မတန် ထိတ်လန့်ဖွယ်ရာ တွေ့ကြုံခဲ့ရပြီ။ ဒါပေမဲ့ အခုအချိန်မှာ ပန်မျူးရ်ရဲ့ ယောက်ျားမပီသတဲ့၊ စဉ်းစားဉာဏ်ကင်းမဲ့တဲ့ ဥပေက္ခာပြုတာမျိုးလောက် ကြောက်စရာ ကောင်းတာ ကျွန်မ စိတ်ထဲ ဘယ်အရာမှ မရှိဘူး။ ကျွန်မ စစ်ရေးဌာနမှာ သုံးနှစ် တာဝန်ထမ်းခဲ့ပြီးပြီ။ ကျွန်မ စတင် ထမ်းဆောင်ချိန်မှာ စွမ်းဆောင်ရည် မရှိတာကလွဲလို့၊ ဂရုမစိုက် လျစ်လျူရှုခံရတာမျိုး မရှိခဲ့ဘူး။ အဲဒီ အိန္ဒိယကို ဗြိတိသျှက သိမ်းပိုက်ရလိမ့်မယ်လို့ ကျွန်မ ထင်တယ်။ အငြင်းပွားစရာ မရှိဘူး။ ခုချိန်ထိ အိန္ဒိယနဲ့ ပတ်သက်တဲ့ အကြောင်းအရာကိုသာ အားလုံး အာရုံစိုက် စိတ်ဝင်စားနေတဲ့အတွက် ကျွန်မတို့ ကော်မရှင်က အကြံပြုထားတဲ့ ပြန်လည်ပြုပြင်ရေး ချက်ချင်းဆောင်ရွက်ဖို့ လိုအပ်ချက်ကို သေးသိမ်အောင် လုပ်နေတယ်။ အဲဒီ အကြံပြုချက်တွေက စစ်တပ်ရဲ့ တည်မြဲမှုအတွက် ယခုအခါ ပဓာနကျတဲ့၊ ပိုအရေးကြီးတဲ့ ကိစ္စဆိုတာ ရှင် သဘောတူမယ်လို့ ကျွန်မ အသေအချာ သိပါတယ်။

စိုးရိမ်သောကနှင့် စိတ်ပင်ပန်းမှု ဒဏ်ကြောင့် ဖလောရင့်၏ ကျန်းမာရေးသည် ပို၍ပို၍ ဆိုးရွားလာပြီး လုံးဝ လဲပြိုတော့မတတ် ဖြစ်လာသည်။ သူမ၏ သမားတော်က လူသူကင်းဝေးရာမှာ အနားယူ နေထိုင်ရန် မဲလ်ဘာန်း[၁] သို့ စေလွှတ်လိုက်သည်။ သို့ရာတွင် သူမ၏ လုပ်ငန်းကိုတော့ မရပ်နားနိုင်ပေ။ သူမက ရေးထားသည်။ "ကျွန်မ ရောက်ရောက်ချင်း အဲဒီလူက ဆိုဖာပေါ် တင်ပေးပြီး သွေးခုန်နှုန်း လျော့သွားတဲ့ အချိန်အထိ မလှုပ်ရှားဖို့၊

၁။ Malvern

မာတဲ့ အစားအစာတွေ မစားဖို့ ပြောတယ်။ ကျွန်မရဲ့မိတ်ဆွေ ခွေးကလေး ကို သတိရမိတယ်။ ခွေးကလေးက သူ မကြိုက်တာကို တိရစ္ဆာန်ဆရာဝန်က ဆန့်ကျင်ဘက် လုပ်တယ်လို့ထင်ရင် ယမ်းပုံမီးကျ ပောင်နေတော့တာ။ ခုတော့ ကျွန်မ တဆတ်ဆတ်တုန်ရင်း ဒီစာကို ရေးလိုက်တာပါ။"

ဖလောရင့်၏ အခြေအနေက အလွန်စိုးရိမ်ရသဖြင့် သူမ၏ အစ်မက "သူမက ညဘက်မှာ နှစ်နာရီတောင် မအိပ်ဘူး။ အဖျားတွေ ဆက်တိုက် တက်ပြီး အားနည်းချည့်နဲ့နေတယ်" ဟု ရေးထားသည်။ သူမ၏ လုပ်ငန်း အတွက် ဘုရားသခင် တာဝန်အပ်နှင်းထားသည့် ရဲရင့်ထက်မြက်သော သူနာပြုကတော့ သူမ၏ ခန္ဓာကိုယ် အားနည်းမှုကို စဉ်းစားဖို့၊ ခန္ဓာကိုယ် ကို ဂရုစိုက်ဖို့ကို ယခုအထိ ငြင်းဆန်နေဆဲပင်။ စစ်တပ် ဆေးဘက်ဆိုင်ရာ ပြုပြင်ရေးကို ဟန့်တားနေသောကြောင့်ပင် ဖြစ်သည်။

ပါသီက ဆက်ရေးထားသည်။

> သူမက ကော်မရှင်အဖွဲ့ဝင် တစ်ယောက်နဲ့အတူ အလုပ်လုပ်ဖို့ ဧည့်ခန်းကို နာရီဝက်လောက် ဆင်းလာတယ်။ အဲဒါက သူမက တစ်နေ့ နည်းနည်းစီ အလုပ်လုပ်ဖို့ထက် သူမ ရှင်သန်ရပ်တည်နေတဲ့ 'အကြောင်း ရင်း' အတွက် အလုပ်လုပ်တာကို နှောင့်ယှက်ဖို့ သူ့ကျောကို ထိုးနှက် လိုက်သလိုပဲ။ သူမက အလုပ်တွေနဲ့ သူ့ကိုယ်သူ သတ်နေတာ။ ဒါက သူမ ဦးတည်နေတဲ့ သည်းမခံနိုင်စရာ ဘဝပဲ။ သူမရဲ့ အနီးဆုံးလူ၊ အချစ်ဆုံး လူတွေကိုတောင် မမြင်နိုင်ဘဲ အလုပ်ကို ဆက်လုပ်နိုင်စေဖို့ ကာလနှစ်ခုကြားမှာ လဲလျောင်းနေရတယ်။ ဘာ့ကြောင့်လဲဆိုတော့ အသက်ကို အမောတကော ရှူနေရလို့ လိုအပ်တဲ့ ကိစ္စကလွဲပြီး စကား ပြောတာ မှန်သမျှ ရှောင်ရှားရမှာပေါ့။ အလုပ်မှာ အင်အားမှန်သမျှ မြှုပ်နှံထားနိုင်ဖို့ စိတ်လှုပ်ရှားမှု မှန်သမျှ ရှောင်ရမှာပေါ့။

ဤစိတ်ဓာတ်သည် အာဇာနည်တို့၏ စိတ်ဓာတ်ပင် ဖြစ်သည်။ ဖလောရင့်က ခရိုင်းမီးယား၏ မမှားသင့်သော အမှားတွေ ထပ်မဖြစ်ရအောင် သူမ၏အသက်ကို ပုံချထားချင်သည်။ ၁၈၅၇ ခု နှစ်ကုန်၌ စစ်ဝန်ကြီးထံ စာရေးရာတွင်- "ကျွန်မ သေသောအခါ ..." တိုက်ပွဲကို ဘယ်လို ဦးဆောင် သင့်သည် ဆိုသည်နှင့် ပတ်သက်၍ လမ်းညွှန်မှုများ ပေးခဲ့သည်။ "ကျွန်မ

ကို သတိရသင့်တဲ့ အရာတွေနဲ့ ပတ်သက်လို့ ရှင့်မှာ ကျွန်မအပေါ် အားနဲ့သူအဖြစ် ညွှာတာတဲ့အတွေးမျိုး မရှိဘူးလို့ မျှော်လင့်ပါတယ်၊ ကျွန်မနဲ့ ပတ်သက်လို့ သတ်မှတ်သင့်တဲ့ အရာက စစ်သားတွေအပေါ် ကောင်းခဲ့တယ်ဆိုတဲ့ အချက်ပါပဲ။ ကျွန်မ အသက်ရှင်နေစဉ်မှာ အမြဲတမ်း အဲဒီလိုပဲ တွေးမိပါတယ်။ ဒါမှမဟုတ်ရင် အခုအချိန်မှာ ကျွန်မ သေပြီလို့ တွေးမိပုံ မရပါဘူး"

အမှန်အားဖြင့် ဤလမ်းညွှန်ချက်များကို သူမ ကွယ်လွန်သည့် အချိန်ကျမှသာ ဆောင်ရွက်လိမ့်မည်ဖြစ်ကြောင်း ရည်ညွှန်းပြောဆိုခြင်း ဖြစ်သည်။

သူမ၏ အသည်းနှလုံးကို ခရိုင်းမီးယားထံ ပေးအပ်ခဲ့ပြီး ဖြစ်သည်။ ထိုနေရာမှာ ပြန်လည်ကျန်းမာလာအောင် အသည်းအသန် ပြုစုခဲ့ရသည့် ကောင်လေးတွေ (စစ်သည်တွေ) ၏ အုတ်ဂူတွေ အများကြီး ရှိသည်။ သူမ၏ နောက်ဆုံးဆန္ဒနှင့် ပတ်သက်၍ အစ်မဖြစ်သူကို ပြောပြသည်။ 'ကျွန်မရဲ့ စစ်သားတွေနဲ့ ခင်မင်ရင်းနှီးမှုဟာ ကျွန်မ ဘယ်တုန်းကမှ ခံစားရမယ်လို့ မမျှော်လင့်တဲ့ အရာပဲ။ ကျွန်မကို ခရိုင်းမီးယားမှာ မြှုပ်နှံစေချင်လောက်အောင် အစွဲအလမ်း ကြီးမိတယ်။ မဖြစ်နိုင်တဲ့ အရာမှန်း ကျွန်မ သိပါတယ်။ သူတို့က အဲဒီမှာ ရှိမှ မရှိတော့ဘဲ'

သို့ရာတွင် ခရိုင်းမီးယား၌ အထီးကျန် အုတ်ဂူတစ်ခု ထားရှိရေးသည် ဘုရားသခင်၏ အစီအမံ မဟုတ်ပေ။ လူသား၏ ခံစားချက် ဝေဒနာများ သက်သာပြေပျောက်စေခြင်း၊ သူနာပြုများအား လေ့ကျင့်သင်ကြားပေးခြင်း၊ ရဲစွမ်းသတ္တိ စိတ်ဓာတ်ကို အခြားနိုင်ငံများမှာ နမူနာအဖြစ် ပြသခြင်းဖြင့် မြင့်မြတ်သော အလုပ်ကို ပြီးမြောက်အောင် လုပ်ဆောင်ရန် ဘုရားသခင်က ဆန္ဒရှိသည်။

၁၁ မေ ၁၈၅၈ တွင် ဖလောရင့်၏ ပြုပြင်ပြောင်းလဲရေး သဘောထားနှင့် ပတ်သက်၍ ဗြိတိသျှပါလီမန် အောက်လွှတ်တော်၌ ဆွေးနွေးသည်။ သူမ၏ စီမံကိန်းများကို ကန့်ကွက်သူမရှိ သဘောတူကြသည်။ ဤအောင်ပွဲနှင့် ပတ်သက်၍ ဆာဂျွန် မက္ကနီးလ်က ပြောသည်။ 'ခင်ဗျားရဲ့ လုပ်ဆောင်ချက်တွေက အချည်းနှီး မဖြစ်ပါဘူး။ ခင်ဗျားရဲ့ စွမ်းရည်ထက် ဆယ်ဆသာတဲ့ စွမ်းရည်ကို ပြလိုက်တာပဲ။ အဲဒီစွမ်းဆောင်ချက်က ခင်ဗျားအတွက်ရော အခြား သက်ရှိထင်ရှား အမျိုးသား၊ အမျိုးသမီးတွေ အတွက်ရော

ခုချိန်ကစပြီး နောင်အစဉ်သဖြင့် ဗြိတိသျှစစ်တပ်ရဲ့ ကောင်းကျိုးချမ်းသာနဲ့ စွမ်းဆောင်ရည်ရှိမှုကို ဖြစ်စေလိမ့်မယ်'

ဤအောင်မြင်မှု၏ ဈေးဆော်မှုကြောင့် သူမ၏ ခွန်အားတွေကို စစ်ပွဲကိစ္စ၌ ထပ်မံ၍ အင်တိုက်အားတိုက် အသုံးချပြန်သည်။ 'ကျွန်မတို့ စစ်သားတွေက စစ်တန်းလျားမှာ သေဖို့ စာရင်းသွင်းထားကြတာ' ဟု ကြွေးကြော်လျက် နိုင်ငံတွင်းမှာရော စစ်မြေပြင်မှာပါ စစ်သားတို့၏ ကျန်းမာရေးအတွက် ကြိုးပမ်းဆောင်ရွက်ရန် ဆက်လက်လုပ်ကိုင်ခဲ့သည်။

ကော်မရှင်၏ တွေ့ရှိချက်များကို လူထုထံ ချပြသောအခါ ဖလောရင့်က သတင်းစာနှင့် ပုဂ္ဂလိက ထောက်ခံမှုများဖြင့် သက်သေထူ၍ အရိုးသားဆုံးနှင့် အပြည့်စုံဆုံး တင်ပြသည်။ သို့ရာတွင် အမှန်တကယ်အားဖြင့် ဤစီမံကိန်းများကို အပြည့်အဝ ဖော်ထုတ်ခြင်းနှင့် စတင်လှုပ်ရှားခြင်းကြားတွင် စမ်းသပ်လေ့လာမှုတွေက စိတ်ပျက်ငြီးငွေ့ဖွယ် ကောင်းလောက်အောင် နှေးကွေး ကြာရှည်လွန်းလှသည်။ နောက်ဆုံး စစ်တပ်၏ ခေါင်းဆောင်မှုကို ဆန့်ကျင်သည့် တိုက်ပွဲတွင် ဖလောရင့် အနိုင်ရရှိပြီး သူမ၏ ကြိုးပမ်းမှုရလဒ်အဖြစ် ပြုပြင်ပြောင်းလဲရေးအတွက် ပြဋ္ဌာန်းချက်တွေ ချမှတ်နိုင်ခဲ့သည်။ ပဋိပက္ခက အချိန်ရှည်ကြာ၍ ခက်ခဲကြမ်းတမ်းသည်။ သို့ရာတွင် ပြောင်းလဲမှု မြောက်မြားစွာကို ဖလောရင့် ဝမ်းသာစွာ တွေ့မြင်ခံစားရသည်။

စစ်တန်းလျားများမှာ လေဝင်လေထွက် ကောင်းပြီး နွေးနွေး ထွေးထွေး ရှိအောင် လုပ်ပေးသည်။ ရေနုတ်မြောင်းများ အသစ်ဖောက်လုပ်ခြင်း၊ တိုးမြှင့်လုပ်ဆောင်ခြင်းများ ဆောင်ရွက်ပေးသည်။ ရေပေးဝေရေးကို တိုးချဲ့လိုက်သည်။ စားဖိုဆောင်များကို ပုံစံသစ်ဖြင့် ပြုပြင်ဆောက်လုပ်သည်။ ဖယောင်းတိုင်အစား ဓာတ်ငွေ့သုံး မီးတိုင်များ အသုံးပြုသည်။ အသုံးပြုရန် မသင့်သည့် အဆောက်အဦများ ပြန်လည်ဆောက်လုပ်သည်။ အောလ်ဒါရှော့၌ လက်တွေ့ အချက်အပြုတ် သင်တန်းကျောင်းတစ်ခု တည်ဆောက်ပြီး ဆေးရုံ၌ ချက်ပြုတ်သူများအား ဒဏ်ရာရ စစ်သားများအတွက် အာဟာရပြည့်ဝ၍ ခွန်အားဖြစ်စေသော အစားအစာများ ပြင်ဆင် ချက်ပြုတ်ခြင်း သင်တန်း ပေးသည်။

ကြိုးနီစနစ်ကြောင့် ရှုပ်ထွေးနေသည့် ကော်မရှင်အဖွဲ့ခွဲ တစ်ခုက

စစ်တပ် ဆေးဘက်ဆိုင်ရာကျောင်း တည်ဆောက်ရေးဟု ဆိုသော တာဝန်ကို ယူရသည်။

'အရင်တုန်းက နာမကျန်းသူတွေကို ပြုစုဖို့ လူငယ်တွေကို စေလွှတ်တယ်' ဟု သူမက မခံမရပ်နိုင်စွာ ပြောပြသည်။ 'ပြီးတော့ ဒဏ်ရာပြင်းပြင်းထန်ထန် ရတဲ့ သူတွေကို ပတ်တီးစည်းပေးဖို့၊ ဒါမှမဟုတ် အိပ်ရာဘေးမှာ ပြုစုဖို့ ဆိုတာ ထူးချွန်တဲ့ သင်တန်းပို့ချသူ ဆရာအချို့နောက်က လိုက်ရတဲ့ ကျောင်းသားတွေကလွဲလို့ တခြားသူ မရှိဘူး။ အဲဒီ သင်တန်းပို့ချတဲ့ ဆရာတွေကို အရိုးရှင်းဆုံး မိလ္လာရေဆိုး ထုတ်လွှတ်တဲ့ အသိပညာတွေသင်ဖို့ လုံးဝ ညွှန်ကြားမထားတာ အသေအချာပဲ။ ဒါပေမဲ့ အခုက စပြီးတော့ သူတို့ရဲ့ အရေးအကြီးဆုံး လုပ်ဆောင်ချက်တစ်ခုက ရာသီအလိုက်ဖြစ်တဲ့ ရောဂါတွေ ကာကွယ်ဖို့နဲ့ လက်ရှိအခြေအနေမှာ ဆေးဝါးကုသမှု နည်းနည်းပါးပါး လုပ်သည် ဖြစ်စေ၊ လုံးဝ မလုပ်သည် ဖြစ်စေ ကြိုတင်ကာကွယ်ရေးက သူတို့အတွက် အဓိကပဲ'

အခြားသော ပြုပြင်ပြောင်းလဲရေးများကို တဖြည်းဖြည်း ဆက်လုပ်လာသည်။ ထိုအချိန်က ထူးခြားဆန်းသစ်သော မူဝါဒအရ စစ်တပ် ဆေးဘက်ဆိုင်ရာ ဌာနသည် စစ်သားတစ်ယောက်၏ ကျန်းမာရေးအတွက်ရော ၎င်း၏ နာမကျန်းမှုများ အတွက်ပါ ပြုစုစောင့်ရှောက်ရမည် ဖြစ်သည်။ ၎င်းမူဝါဒသည် ဤလုပ်ငန်း၏ အခြေခံမှု ဖြစ်လာသည်။ စစ်သားတစ်ယောက်၏ ကျန်းမာရေးနှင့် ပတ်သက်နေသော အဆင့်မြင့် အရာရှိများနှင့် ဆေးဘက်ဆိုင်ရာ အရာရှိများ၏ တာဝန်များကို သတ်မှတ်ပေးသော ဥပဒေတစ်ခုကို ဤမူဝါဒ၏ အကျိုးဆက်အဖြစ် ကြိုတင်ရေးဆွဲထားသည်။

စစ်သားများ၏ စိတ်ပိုင်းဆိုင်ရာ ကျန်းမာရေးကို ကာကွယ်ပေးရန် စာဖတ်ခန်း၊ အပန်းဖြေစခန်းများ၊ ကော်ဖီဆိုင်များနှင့် ဟောပြောပွဲ ခန်းမများ ပံ့ပိုးပေးထားသည်။ မိုးလုံလေလုံ အပန်းဖြေစရာများ၊ ပြင်ပ အပန်းဖြေစရာများကိုလည်း ပြုလုပ်ပေးထားသည်။

ရှည်ကြာ၍ သည်းခံရခက်သော တိုက်ပွဲကို အနိုင်ရခဲ့ပြီ။ ဖလောရင့်အနေဖြင့် စိတ်ဓာတ်ရေးရာ အောင်ပွဲခံခဲ့ရပြီ ဖြစ်သည်။ သို့ရာတွင် စူးစမ်းဖော်ထုတ်ရန် နယ်ပယ်များ ရှိနေပါသေးသည်။ စိတ်ကူးပုံရိပ်က လက်ယပ်ခေါ်နေပြီ။ ဖလောရင့်က ထိုအလင်းရောင်နောက်ကို လိုက်ခဲ့ပေတော့သည်။

## အခန်း [ ၉ ]
## ခေတ်သစ် သူနာပြုလုပ်ငန်း၏ မိခင်

နာမကျန်းသူ၊ ဒဏ်ရာရသူတွေကို ပြုစုစောင့်ရှောက်ခြင်းသည် တိကျသော သိပ္ပံပညာရပ်တစ်ခု မဖြစ်ဖူးခဲ့ပေ။ သို့ရာတွင် သူနာပြုလုပ်ငန်းကို လေးစားထိုက်သော အသက်မွေးဝမ်းကျောင်း ပညာအဖြစ် တည်ဆောက်ရန် ဖလောရင့် နိုက်တင်ဂေးလ် ဆုံးဖြတ်ချက် ချထားသည်။

ခေတ်သစ် သူနာပြုလုပ်ငန်း၏ မိခင်ဖြစ်လိုသော ဖလောရင့် နိုက်တင်ဂေးလ်၏ဆန္ဒ ပြည့်မြောက်ခဲ့သည်။ သူမ၏ ထူးချွန်ထက်မြက်သော စရိုက်၊ ထက်သန်သော စိတ်ဓာတ်၊ မြင့်မြတ်သော စိတ်နေစိတ်ထား၊ ဤအရာတို့ဖြင့် သူမ၏လုပ်ငန်းကို သွန်းလောင်းပေးလိုက်သည်။

ဤအချိန်အတောအတွင်း သူမ၏ကျန်းမာရေး အလျှင်အမြန် ဆုတ်ယုတ်လာနေသော်လည်း လော့ဒ် ပန်မျူးရ်၏ အကြံပြုချက်အရ နက်တလီ[၁] ၌ တည်ဆောက်မည့် ပထမဦးဆုံး အထွေထွေရောဂါကု စစ်ဆေးရုံ စီမံကိန်းများကို စစ်ဆေးရန် အချိန်ရသည်။ စီမံကိန်းများကို ဖလောရင့်ထံ တင်ပြချိန်တွင် အခြေခံ အဆောက်အဦ ပုံစံများ ရေးဆွဲပြီးခါနီး ဖြစ်နေပြီ။ သို့ရာတွင် ၎င်းတို့သည် နာမကျန်းနှင့် ဒဏ်ရာရ လူနာများအား စောင့်ရှောက်ပြုစုသည့် ပြဿနာများနှင့် အကျွမ်းတဝင် မဖြစ်သော အမျိုးသားများက ရေးဆွဲထားသော လက်ရာဖြစ်ကြောင်း သူမ ချက်ချင်း သိမြင်သည်။ သို့ဖြစ်၍ ခရိုင်းမီးယားမှာ သူမ တွေ့ကြုံခဲ့ရသည့် လိုအပ်ချက်များနှင့် ကိုက်ညီစေရန်အတွက် ၎င်းပုံစံများအား ပြောင်းလဲပေးရန် ရဲရဲဝံ့ဝံ့ တောင်းဆိုသည်။

---

၁။ Netley

ဖလောရင့်က သူမ၏ သဘောထားကို အတည်ပြု လက်ခံစေရန် အချက်အလက်များ စုဆောင်းပြီး အထူးကျွမ်းကျင်သူများနှင့် ညှိနှိုင်းတိုင်ပင်သည်။ သို့ရာတွင် လော့ဒ်ပန်မျူးရ်က သူ၏ ခေါင်းမာမှုအတိုင်း ဆက်လုပ်သည်။ ဤသို့ အခက်အခဲ ဖြစ်ရသည်မှာ လက်ကြောမတင်းသော ပန်မျူးရ်၏ ကြောင့်သာမက လူထုထံမှ သတင်းအချက်အလက်များ မရသောကြောင့် ဖြစ်သည်ဟု ဖလောရင့် ယုံကြည်သည်။ သို့ဖြစ်၍ လူထု အသိဉာဏ်ပွင့်စေသော လှုပ်ရှားမှုအတွက် အစီအစဉ်များ ချမှတ်ပြီး သူနာပြုလုပ်ငန်း၏ ပြဿနာကို နိုင်ငံတွင်းရှိ အနိမ့်ကျဆုံး လူတန်းစားများ၏ နေအိမ်များသို့ ရောက်အောင် တင်ပြမည် ဖြစ်သည်။ ၁၈၅၈ ခုနှစ် အောက်တိုဘာလတွင် လူမှုသိပ္ပံ ကွန်ဂရက်၌ ဆေးရုံတည်ဆောက်ရေး အကြောင်းအရာနှင့် ပတ်သက်သော စာတမ်းနှစ်စောင် ရေးသားတင်ပြသည်။ ထိုအချိန်မှ စ၍ သူမ၏ အယူအဆ အမြင်များသည် ခေတ်သစ်ဆေးရုံ တည်ဆောက်ရေးလုပ်ငန်း၌ အခိုင်အမာ ဖြစ်လာသည်။

ဤကာလအတွင်း၌ သူနာပြု သင်တန်းကျောင်းတစ်ခု တည်ဆောက်ရေးကို ပို၍ လုံ့လဝီရိယရှိစွာ အားပေးမြှင့်တင်ရန် ဆန္ဒပြင်းပြနေသည်။ ဒေါ်လာ နှစ်သိန်းခွဲကျော် ထည့်ဝင်လှူဒါန်း ရရှိပြီးဖြစ်၍ ရန်ပုံငွေရှာဖွေရေး ဥက္ကဋ္ဌ ဆစ်ဒနီဟားဘတ်အား ဤရန်ပုံငွေကို အကျိုးရှိစွာ ရင်းနှီးမြှုပ်နှံရန် ဖလောရင့်က လမ်းညွှန်သည်။ အဘယ့်ကြောင့်ဆိုသော် ထိုအချိန်မှာ သူမ၏ ကျန်းမာရေးက ကြီးလေးသောလုပ်ငန်း၌ တာဝန်ယူလုပ်ဆောင်ရန် အာမ မခံနိုင်သောကြောင့် ဖြစ်သည်။

အားပြန်ဖြည့်နေသည့် ဤအချိန်အတွင်း၌ ဆရာဝန်နှင့် သူနာပြုများ ထိုဘာသာရပ်နှင့် ပတ်သက်၍ လက်ကိုင်ထားရမည့် သူနာပြုလုပ်ငန်းဆိုင်ရာ လက်တွေ့လက်စွဲ စာအုပ် တစ်အုပ် ပြင်ဆင်ရေးကို တက်ကြွသော သူမ၏ စိတ်ထဲမှာ အမြဲ နေရာယူ စဉ်းစားနေသည်။ ထိုစာအုပ်သည် နောင်တွင် "အိမ်တွင်းစွယ်စုံကျမ်း" ဖြစ်လာသည်။ ၁၈၅၉ ခု နှစ်ကုန်တွင် သူမ၏ "သူနာပြုလုပ်ငန်းနှင့် ပတ်သက်သော မှတ်စုများ" စာအုပ် အပြီးသတ်သွားသည်။ ယင်းစာအုပ်သည် ဥရောပတိုက်၏ ဘာသာစကား အတားအဆီးကို ချိုးဖျက်ပစ်လိုက်ပြီး၊ အမေရိကန် စာဖတ်ပရိသတ်တို့ ဝယ်ယူအားပေးသည့် နိုင်ငံတကာ "ဘက်ဆဲလား" စာရင်းဝင်သွားလေသည်။

အဖိုးတန်စာအုပ်ကို ရေးသား ထုတ်ဝေပြီးသောအခါ ဖလောရင့်က လေ့ကျင့်ရေးကျောင်း တည်ထောင်ရေးကို အာရုံစိုက် ဆောင်ရွက်သည်။ ကျောင်းတည်ထောင်ရေးကို အခြေခိုင်သော အဖွဲ့အစည်းတစ်ခုနှင့် ဆက်သွယ်၍ ဦးဆောင်လုပ်သင့်သည်ဟု သူမက ဆုံးဖြတ်ထားသည်။ လျင်လျင်မြန်မြန်နှင့် လုပ်ငန်းကို ထိထိမိမိ ဆောင်ရွက်သည့်အဖွဲ့မှာ လန်ဒန်မြို့ရှိ စိန့်သောမတ်ဆေးရုံ[၁] ဖြစ်သည်။ သို့ဖြစ်၍ ၎င်းအဖွဲ့အား နိုက်တင်ဂေးလ် သူနာပြုလုပ်ငန်း ရန်ပုံငွေ၏ သုံးပုံ နှစ်ပုံကို ခွဲဝေ သတ်မှတ်ပေးလိုက်သည်။ ကျန်ရှိသော ရန်ပုံငွေကို ဝမ်းဆွဲသူနာပြု ဆရာမများ လေ့ကျင့်ရေးနှင့် ပြုပြင်ထိန်းသိမ်းရေးအတွက် ဘုရင့်ကောလိပ် ဆေးရုံသို့ လှူဒါန်းလိုက်သည်။ အင်္ဂလန် ကျေးလက်များအတွက် ဝမ်းဆွဲဆရာမများ အဆောတလျင် လိုအပ်နေသောကြောင့် ဖြစ်သည်။ စိန့်သောမတ်ဆေးရုံသို့ ငွေကြေး ထည့်ဝင်လှူဒါန်းရာ၌ ထိုကျောင်းမှ သင်တန်းဆင်းသော သူနာပြုများသည် အများပြည်သူနှင့်ဆိုင်သော ဆေးရုံများ၊ ကျောင်း၊ ကောလိပ်၊ ထောင် စသည့်နေရာများ၌ ရှိသော လူနာဆောင်များ၌ တာဝန်ထမ်းဆောင်ရန် သဘောတူလက်ခံရမည်ဆိုသော ပြဋ္ဌာန်းချက်တစ်ခု ပါဝင်သည်။

၁၈၆၀ ပြည့်နှစ် မေလတွင် အထင်ကရ သတင်းစာကြီးများ၌ ကြေညာ၍ ဇွန်လ (၂၄) ရက်နေ့တွင် လျှောက်ထားသူများထဲမှ အစမ်းခန့် (၁၅) ယောက်ကို ရွေးချယ် ခွင့်ပြုလိုက်သည်။

ဇွန်လ (၂၄) ရက်နေ့သည် ခေတ်သစ်သူနာပြုလုပ်ငန်း စတင်ပေါ်ပေါက်သောနေ့ ဖြစ်ပြီး ဖလောရင့် နိုက်တင်ဂေးလ်သည် သူနာပြုလုပ်ငန်း၏ မိခင် ဖြစ်ပေသည်။ သူမမှာ တာဝန်တွေ များစွာ ပိနေသော်လည်း အင်အားများစွာကို လုပ်ငန်း၌ မြှုပ်နှံထားသည်။ ဘုရားသခင်၏ အသံတော်ကို နာခံနေသောကြောင့်ပင်။

ဘေးတောင်ပံ အဆောင်၏ အပေါ်ထပ်ကို အစမ်းခန့် သူနာပြုများအတွက် ပေးထားသည်။ တစ်ယောက်လျှင် အိပ်ခန်းတစ်ခန်းစီ ပေးထားပြီး ဧည့်ခန်းကို အတူတကွ မျှဝေသုံးရသည်။ ပထမနှစ်မှာ သင်တန်းသားတစ်ယောက်စီအား အခန်းနှင့် စားသောက်စရိတ်အပြင် ဒေါ်လာ (၅၀) ပေးထားသည်။ သင်တန်းသူ မိန်းကလေးများက ဆေးရုံစည်းမျဉ်းစည်းကမ်း

၁။ St. Thomas' Hospital

များကို လိုက်နာ၍ လူနာဆောင်များတွင် လက်ထောက်သူနာပြုများအဖြစ် ထမ်းဆောင်ပါမည်ဟု သဘောတူ လက်ခံရသည်။ သူတို့၏ သင်တန်းကို ဆရာဝန်များနှင့် သင်တန်းဆင်းပြီး သူနာပြုများ သို့မဟုတ် ပင်တိုင် သူနာပြုများက ကြီးကြပ်လမ်းညွှန်ပေးသည်။ ယနေ့ခေတ်တွင် နေရာအနှံ့ အသုံးပြုနေသော အစဉ်အလာပင်။

ဖလောရင့်က မစ္စစ် ဝါ့ဒရောပါ[၁] အမည်ရှိ စွမ်းဆောင်ရည်ရှိသော လက်ထောက်တစ်ယောက်ကို ရရှိလိုက်သည်။ သူမက ဆေးရုံသူနာပြုအုပ်ဖြစ်ပြီး နိုက်တင်ဂေးလ်ကျောင်း၌ ကြီးကြပ်သူအဖြစ် (၂၇) နှစ်တိုင်တိုင် ထမ်းဆောင်ခဲ့သည်။ ဖလောရင့်က သူမ မိတ်ဆွေတစ်ယောက်ကို ပြောပြသည်။ 'သူမရဲ့ စည်းရုံးရေးစွမ်းအင် သို့မဟုတ် အုပ်ချုပ်ရေးစွမ်းအင်၊ သူမရဲ့ သတ္တိနဲ့ စရိုက်ကို ခွဲခြားသိမြင်နိုင်တဲ့ စွမ်းအင်တွေဟာ သတိပြုစရာ ကောင်းလောက်အောင် ထူးခြားတယ်။ သူမက ဖြောင့်မတ်တယ်။ မှန်ကန်တယ်။ တည်ကြည်တယ်။ တိကျပြတ်သားတယ်။ စရိုက်ကို အကဲဖြတ်နိုင်တဲ့ စွမ်းရည်က သူမရဲ့ နဂိုဗီဇကကို ပါလာတာ။ လျှပ်တစ်ပြက် ပေါ်လာတာ။ ဒါပေမဲ့ အမှားဖြစ်ခဲတယ်'

၁၈၆၁ ခုနှစ်၌ ပထမအကြိမ် သင်တန်းပြီးဆုံးသည်။ လုပ်ရှားဆောင်ရွက်မှုတွေ မြင့်တက်လာသောအခါ အခြားဆေးရုံတွေက သင်တန်းဆင်း သူနာပြုတွေကို သူတို့ဌာနများ၌ တာဝန်ထမ်းရန်၊ ကြီးကြပ်ရေးမှူးများ အဖြစ် ဆောင်ရွက်ရန် ဖိတ်ခေါ် လက်ခံလာကြသည်။ သူနာပြုလုပ်ငန်းဖြင့် အသက်မွေးဝမ်းကျောင်းမှုသည် အများပြည်သူ အထင်ကြီး လေးစားစရာ အဖြစ် တစ်ဟုန်ထိုး မြင့်တက်လာသည်။ ဗြိတိသျှ ကိုလိုနီနိုင်ငံများ၊ အမေရိကန် ပြည်ထောင်စု၊ ဂျာမနီ၊ ပြင်သစ်၊ ဩစတြီးယားနှင့် အခြားနိုင်ငံများ၌ "နိုက်တင်ဂေးလ် အတွေးအခေါ်" ကို အလေးမူရန် ကျယ်ကျယ်လောင်လောင် တောင်းဆိုနေကြသည်။ အမေရိကန် ပြည်တွင်းစစ် ဖြစ်သောအခါ သူမ၏ နာမည်ကို ဖော်ကျူးရုံမျှဖြင့် လေးစားကြည်ညိုစရာ စကားတွေကို သတိတရ ဖြစ်ကြသည်။ အမေရိကန်သူတွေက သူမ၏ စံနမူနာကို လိုက်နာပြီး နာမကျန်းသူနှင့် ဒဏ်ရာရသူတွေကို ပြုစုရန် လမ်းညွှန်သည့် သူမ၏ စီမံချက်များကို လေ့လာကြသည်။

---

၁။ Mrs. Wardroper

အမေရိကန် ပြည်ထောင်စုက ဖလောရင့် နိုက်တင်ဂေးလ် ပုံဖော်ပေးသည့် မိလ္လာရေဆိုး နုတ်ပယ်ရေး ကော်မရှင်ကို ဖွဲ့စည်းသည်။ သူမနာမည်သည် အိမ်ထောင်စုတိုင်း၌ ပြောစမှတ် ဖြစ်လာသည်။ အမေရိကန်စစ်သားများက သူမကို ကြည်ညိုလေးစားသည်။ လူများစွာတို့က သူမနှင့် "နိုက်တင်ဂေးလ် သင်တန်းကျောင်း" ကို ဂုဏ်ပြုချီးကျူးကြသည်။

ဤကမ္ဘာမြေကို ကျွမ်းကျင်သော သူနာပြုများ ပေးအပ်ခြင်း၊ အခြားနိုင်ငံများအား ဆေးရုံများနှင့် ဆက်နွယ်၍ သူနာပြုသင်တန်းကျောင်းများဆက်လက်တည်ထောင်ရန် ပုံစံချပေးခြင်းတို့အပြင် ဖလောရင့်က သူနာပြုလုပ်ငန်းကို ကျွမ်းကျင်ပညာရှင်အဆင့် ရောက်အောင် မြှင့်တင်ပေးပြီး အမျိုးသမီးများအား အကဲစမ်းသော စွမ်းဆောင်မှု နယ်ပယ်တစ်ခုကို ဖွင့်လှစ်ပေးခဲ့သည်။ ဤလုပ်ငန်းသည် အင်္ဂလန်တွင် အမေရိကန်ထက် ပို၍ ခက်ခဲသောလုပ်ငန်း ဖြစ်သည်။ အဘယ့်ကြောင့်ဆိုသော် ဗြိတိသျှတွင် ရာစုနှစ်ပေါင်းများစွာ တည်ရှိနေသည့် ဓလေ့ထုံးစံတွေက ရေပန်းစား လူကြိုက်များသောခေတ်ပေါ်အယူအဆတွေကို အဟန့်အတား ပြုနေသောကြောင့် ဖြစ်သည်။ သို့ရာတွင် အမေရိကန် ပြည်ထောင်စုက နိုက်တင်ဂေးလ် စီမံကိန်းကိုအားတက်သရော လက်ခံလိုက်လေသည်။

သူမမှာ တာဝန်တွေ များစွာရှိသော်လည်း ၂ ဩဂုတ် ၁၈၆၁ တွင် ဆာ ဆစ်ဒနီဟားဘတ် ကွယ်လွန်သောအခါ သူမ၏ သဘောထားကြီးသော မိတ်ဆွေလည်းဖြစ်၊ မဟာမိတ်လည်းဖြစ်သူ တစ်ယောက် ဆုံးရှုံးမှုအတွက် ဝမ်းနည်းငိုကြွေးခဲ့ရသည်။ စစ်ဝန်ကြီးတစ်ယောက် အနေဖြင့် ဆစ်ဒနီဟားဘတ်က သူမ၏ ပြုပြင်ပြောင်းလဲရေးများကို စတင်ဆောင်ရွက်ရန်နှင့် အပြီးသတ် လုပ်ဆောင်ရန်အတွက် မဆုတ်မနစ် ဆောင်ရွက်ပေးခဲ့သည်။ သူမက အိမ်ထောင်ရှင်မ မဖြစ်ခဲ့သော်လည်း သူမ၏ပန်းတိုင်ကို ရောက်ရှိအောင် အကူအညီပေးသည့် မြင့်မြတ်သော ယောကျ်ားသား များစွာ၏ ခွန်အားကို မှီခိုအားထား ပြုခဲ့သည်။

သူမက ဖခင်ဖြစ်သူထံ စာရေးထားသည်။

ကျွန်မ သူ့ဆီက ဘာတွေ လက်လွတ်ဆုံးရှုံးသွားတယ် ဆိုတာ သိတဲ့သူ နည်းနည်းလေးပဲ ရှိလိမ့်မယ်။ သူက သူနဲ့အတူ ကျွန်မ အသက်ကိုပါ ယူသွားတယ်။ ကျွန်မရဲ့အလုပ်၊ ကျွန်မဘဝရဲ့ ရည်မှန်းချက်၊

ရည်မှန်းချက်ရောက်အောင် ဆောင်ရွက်ဖို့နည်းလမ်း။ အဲဒါတွေအားလုံး တပေါင်းတည်း သူနဲ့အတူ ခွဲခွာသွားပါပြီ။

စစ်ရုံး၌ ဟားဘတ်၏ လုပ်ဆောင်ချက်ကို ဝေဖန်သူတွေက တိုက်ခိုက်သောအခါ ဂလက်စတုန်းက ဤတိုက်ခိုက်မှုကို တုံ့ပြန်ချေပခြင်း၌ အကူအညီပေးရန် ဖလောရင့်အား မေတ္တာရပ်ခံသည်။ သူမက ချက်ချင်းပင် "စစ်တပ်ပြုပြင်ပြောင်းလဲရေးသမားတစ်ယောက် အနေဖြင့် ဆစ်ဒနီဟားဘတ်၏ လုပ်ဆောင်ချက်နှင့် ပတ်သက်သော မှတ်တမ်းလွှာ" ကို ရေးသားသည်။ ဤစာတမ်းကို ရေးပြီးသောအခါ သူမ၏ "အငယ်တန်းစစ်ရုံး" ကို အစပျိုးခဲ့သော ဘာလင်တန်ဟိုတယ်မှ ထွက်ခွာ၍ ဟမ့်စတက်[၁] ၌ သွားရောက်နေထိုင်သည်။ ဤနေရာတွင် ခင်မင်ရင်းနှီးမှု အသစ်များ စတင်တည်ဆောက်ရန် မျှော်လင့်ထားသည့်အပြင် ခွဲခွာသွားသော သူမ၏မိတ်ဆွေကို မေ့ပျောက်နိုင်ရန် ကြိုးစားမည်ဟု မျှော်လင့်ထားသည်။

သို့ရာတွင် ဖလောရင့်သည် သူ့ကို သတိရသည့်စိတ် ပြေပျောက်အောင် မလုပ်နိုင်ခဲ့ပေ။ နိုဝင်ဘာ (၂) ရက်တွင် သူ့မိသားစုထံ သူမ ဝမ်းနည်းကြောင်း စာရေးလိုက်သည်။

ကျွန်မ ချစ်ခင်ရတဲ့မိတ်ဆွေ ကွယ်လွန်တာ (၃) လ ရှိပါပြီ။ သနားစရာကောင်းတဲ့ လေဒီဟားဘတ်က ဒီတစ်ပတ် နိုင်ငံခြားကို ထွက်သွားပြီး ဝီလ်တန်[၂] ရဲ့ ပါးစပ်ပေါက်ကို ပိတ်ပစ်လိုက်တယ်။ အဲဒီ လုပ်ဆောင်ချက်က ကမ္ဘာမြေကြီးကို ဖွင့်လှစ်ပြီး ကျွန်မဘဝ တစ်ခုလုံးကို ဖြည့်စွမ်းပေးတဲ့ နာမည်တစ်ခုကို လေးစားစွာ လက်ခံလိုက်သလိုပါပဲ။

အလုပ်က သူမ၏ ဝမ်းနည်းကြေကွဲမှုကို သက်သာစေသည်။ အိန္ဒိယ၌ ဗြိတိသျှ စစ်သားများ၏ အသေအပျောက်နှုန်း ကြောက်ခမန်းလိလိ မြင့်တက်နေသည်ကို တုန်လှုပ်သွားသောကြောင့် အိန္ဒိယ အရေးကိစ္စ၌ ပြုပြင်ပြောင်းလဲရေးကို ရည်ညွှန်းသည့် အစီရင်ခံစာ တစ်စောင်ကို ဖလောရင့် ရေးသည်။

လတ်တလော အခြေအနေရဲ့ အငြင်းပွားဖွယ်ရာနဲ့ ပတ်သက်လို့ ဒါဟာ လူသားရဲ့ ဖြစ်နိုင်ချေရှိတဲ့ အခွင့်အလမ်း အတွင်းမှာ၊ အများဆုံး ဖြစ်စဉ်ဖြစ်ရပ်တွေ အတွင်းမှာ အမှန်တကယ် ရှိနေပါတယ်။ ဒါ့ကြောင့်

---

၁။ Hampstead ၂။ Wilton

အန္တရာယ်ရှိတဲ့ ဒေသတွေကို သိမ်းပိုက်ဖို့ စစ်သားတွေကို တောင်းဆိုတယ်ဆိုရင် ရထားလမ်းတွေနဲ့ ဘူတာရုံတွေ စီစဉ်ပေးရမယ်။ စစ်သားတွေကို ဆက်သွယ်ဖို့ ကြေးနန်းဆက်သွယ်ရေးတွေ လုပ်ဆောင်ပေးရမယ်။ အိန္ဒိယမှာ စစ်တပ်က တပ်စွဲထားသည် ဖြစ်စေ၊ အရပ်သား အစိုးရက အုပ်ချုပ်သည် ဖြစ်စေ မိလ္လာရေဆိုး သန့်စင်ရေး ဥပဒေကို လိုက်နာစောင့်ထိန်းခြင်းဟာ အနာဂတ် အိန္ဒိယ အစိုးရရဲ့ အစိတ်အပိုင်းတစ်ခု ဖြစ်သင့်ပါတယ်။

ဖလောရင့် ဆေးရုံအလုပ်တွေမှ အချိန်ပေးနိုင်သောအခါ အတားအဆီးတွေ၊ အစိုးရ အတိုက်အခံတွေ ရှိသော်လည်း အိန္ဒိယစစ်တပ် ပြုပြင်ပြောင်းလဲရေးအတွက် စည်းရုံးလှုပ်ရှားမှု စတင်လုပ်ဆောင်သည်။ ပြဿနာအခက်အခဲကို လေ့လာရန် တော်ဝင်ကော်မရှင်ကို ဖွဲ့စည်းသည်။ ဖလောရင့်က အိန္ဒိယ စစ်တပ်နှင့် ပတ်သက်သော သက်သေအထောက်အထားတွေ၊ အချက်အလက်တွေ စုဆောင်းသည်။ ဤသက်သေအထောက်အထားက ခိုင်မာ မှန်ကန်သည်။ ကော်မရှင်က အိန္ဒိယမှ ပြန်ကြားချက်များ ရသောအခါ တွဲတစ်တွဲစာ အပြည့်လောက်ရှိသော စာတွေကို စိစစ်လေ့လာရန် ဖလောရင့်ထံ ပို့ပေးသည်။

ဖလောရင့် အများဆုံး လုပ်ကိုင်ဆောင်ရွက်ပေးရသည့် အစီရင်ခံစာ ထွက်လာသောအခါ ၎င်းမှာ စာလုံးအရွယ်အစား သေးသေးနှင့် ရိုက်နှိပ်ထားသည့် စာမျက်နှာ ၂၀၀၀ ပါ စာတွဲတစ်ခု ဖြစ်လာသည်။ ဤအစီရင်ခံစာကြောင့် ဖလောရင့်မှာ စစ်ဗိုလ်ချုပ်ကြီး ရာထူးအဆင့်မျိုး ရောက်ရှိသွားပြီး စစ်ရုံးမှ အရာရှိများ၊ အတွင်းဝန်များ၊ ဝန်ကြီးများ ဖလောရင့်ထံ လာရောက်၍ အကြံဉာဏ် တောင်းကြသည်။ အိန္ဒိယစစ်တပ်၏ ပြဿနာများကို ဖြေရှင်းပြီးသောအခါ ဖလောရင့်က ဆင်းရဲသား လူတန်းစားများထဲမှ နာမကျန်းသူများ၏ အခြေအနေ တိုးတက်ကောင်းမွန်ရေး၊ သူနာပြု စောင့်ရှောက်မှုအား ထောက်ပံ့ကူညီရေးအတွက် ပြန်၍ အာရုံစိုက်လာသည်။

၂၆ စက်တင်ဘာ ၁၈၆၄ တွင် မိမိနိုင်ငံ အရေးကို အလေးအနက် စိတ်ဝင်စားသည့် အိန္ဒိယဘုရင်ခံ ဆာဂျွန်လောရင့်[၁]ထံ သူမ စာရေးသည်။

ကျွန်မရဲ့ ဘဝတစ်သက်တာ ဆန္ဒတွေထဲက တစ်ခု ...။ ဆိုလိုတာ

---

၁။ Sir John Lawrence

က ... ဆင်းရဲသားဂေဟာ ဆေးရုံတွေကို သင့်လျော်တဲ့ သူနာပြုတွေနဲ့ ပြုစု စောင့်ရှောက်ချင်တဲ့ ဆန္ဒ ပြည့်ဝတော့မယ် ဆိုတဲ့သတင်း ကြားရရင် ရှင် ဝမ်းသာနေမယ်ဆိုတာ သေချာပါတယ်။ ... နောက်လမှာ လီဗာပူးလ်[၁] ဆင်းရဲသားဂေဟာ ဆေးရုံ (ခုတင် ၁၀၀၀ ဆံ့) ကို ကျွန်မတို့ တာဝန်ယူ လက်ခံဆောင်ရွက်နေတယ်။ ပထမဆုံး တည်ထောင်တဲ့ ဆင်းရဲသား ဂေဟာပါ။ သူနာပြုခေါင်းဆောင် (၁၅) ယောက် ပါတယ်။ ကျွန်မတို့ ကိုယ်တိုင် လေ့ကျင့်သင်ကြားပေးတယ်။ စိန့်သောမတ်ဆေးရုံက ကျွန်မ တို့ရဲ့ သူနာပြုသင်တန်းကျောင်းမှာ အရေးအကြီးဆုံး သင်တန်းသင်ရိုး တွေကို အတွေ့အကြုံ ရှိခဲ့တဲ့ အမျိုးသမီး သူနာပြုအုပ် တစ်ယောက်၊ လက်ထောက်သူနာပြု (၁၅) ယောက်နဲ့ ကျွန်မတို့ လေ့ကျင့်သင်ကြား ပေးမယ့် ဆင်းရဲသား အမျိုးသမီး (၅၂) ယောက်တို့ ပါဝင်တယ်။ လူမှု ဖွံ့ဖြိုး တိုးတက်မှုနဲ့ ပတ်သက်လို့ ကျွန်မတို့အနေနဲ့ ပြောစရာ မလိုတာ သေချာပါတယ်။

ဘာ့ကြောင့်လဲဆိုတော့ ကျွန်မတို့ရဲ့ အင်္ဂလိပ် ဆင်းရဲသားဂေဟာ ဆေးရုံတွေမှာ ဥပေက္ခာပြုမှု၊ ရက်စက်မှု၊ အာဟာရချို့တဲ့မှုတွေ ကျွန်မ မြင်တွေ့ထားလို့ပါ။ ယဉ်ကျေးမှု နိမ့်ကျတဲ့ တိုင်းပြည်တွေကိုတောင် မကျော်လွှန်နိုင်သေးဘူး။ ဒါနဲ့ပဲ ဆင်းရဲသား ဂေဟာအတွက် သူနာပြု ကျောင်းတွေ တည်ထောင်ဖို့ ဆန္ဒဖြစ်လာတယ်။

ဤဆေးရုံများ၏ အခြေအနေသည် စစ်တပ်ထဲမှာ သူမ တွေ့ခဲ့သည့် ဆေးရုံတွေကဲ့သို့ပင် မိလ္လာရေဆိုး သန့်စင်ရေး မရှိ။ လူသားမဆန်မှုတွေ ရှိနေသည်။ လူနာပြည့်လျှံနေသော အဆောင်များ၊ ရေဆိုးထုတ်စနစ် မရှိ ခြင်း၊ အလွန်အမင်း ဖြစ်နေသော အညစ်အကြေးများကို သူမ လေ့လာ သည်။ လက်ဆေးဇလုံတွေ၊ မျက်နှာသုတ်ပဝါတွေ၊ ဘရွတ်တွေ၊ ဘီးတွေ မရှိ။ ညစ်ပတ်နေသော ပန်းကန်ခွက်ယောက်တွေမှာ လောက်တွေ တက်နေ သည်။ အရပ်သားတွေ သူနာပြုအဖြစ် လုပ်ဆောင်နေသည်။ အတော်များ များက လူနာတွေအတွက် ထားသည့် ဆေးဝါးတွေကို ခိုးကြသည်။ အိပ်ရာ တွေကို ခုနစ်ရက်လောက် မခင်းဘဲ ထားသည်။ လူနာတွေ တစ်နေ့လုံး

---

၁။ Liverpool

စားစရာသောက်စရာ မရှိဘဲ နေထိုင် သွားလာကြရသည်မှာလည်း ထူးမခြားနားပေ။

ဤစိတ်ပျက်ဖွယ်ရာ အခြေအနေများကို ပြုပြင်ရန် ဆုံးဖြတ်ပြီး ဖလောရင့်က အရေးယူဆောင်ရွက်ရန် တောင်းဆိုသည်။ စီမံမှု အလွဲအမှားများကို စူးစမ်းလေ့လာသည်။ သူမ၏ တွေ့ရှိချက်များကို လူအများ သိအောင် ဖွင့်ချပြောသည်။ တိုးတက်မှုရရှိရန် ပြည့်စုံကျယ်ပြန့်သော စီမံချက်မူကြမ်းများ ရေးဆွဲသည်။

ဆင်းရဲသားဂေဟာများ အတွင်း၌ သူနာပြုစုခြင်း ပြုပြင်ပြောင်းလဲရေး ဥပဒေမူကြမ်းကို ၂၉ မတ် ၁၈၆၇ တွင် အတည်ပြုပေးလိုက်သည်။ ဤဥပဒေအရ အသင်းအဖွဲ့များ အားလုံး၊ ခရစ်ယာန် ဘုရားကျောင်းရှိရာ ဒေသအားလုံး၊ ထိုအချိန်ကာလအထိ ဆင်းရဲသားဂေဟာ ဆေးရုံများသို့ နှင်ထုတ်ခံရသည့် စိတ္တဇ ဝေဒနာသည်များ၊ နာမကျန်းသူများနှင့် ကျောက်ရောဂါ ခံစားရသူများအား ပြုစုကုသရန်အတွက် စီရင်စုတစ်ခုအတွင်း ဖွဲ့စည်းရန် စီစဉ်ပေးထားသည်။ ကူးစက်ရောဂါ မဟုတ်သည့် နာမကျန်းသူများအတွက် သီးခြား ဆေးရုံဆေးခန်းများ ဖော်ဆောင်ပေးသည်။ ဆေးပေးဆေးကုခန်းများ တည်ဆောက်ပေးသည်။ စိတ္တဇဆေးရုံများ ပြုပြင်ထိန်းသိမ်းရေး၊ ဆေးဝါးယောက်ပံ့ရေး၊ လူမွဲကလေးများအတွက် သီးခြားကျောင်းများ၌ ပြုစုစောင့်ရှောက်ရေးတို့အတွက် ဆင်းရဲသား ရန်ပုံငွေတစ်ရပ် ထူထောင်ပေးသည်။ ဤရည်မှန်းချက်များ အောင်မြင်အောင် အကောင်အထည် ဖော်ရာတွင် ဖလောရင့်၏ လုပ်ဆောင်ချက်များက အလွန်အရေးပါသဖြင့် ပါလီမန်လွှတ်တော်နှစ်ရပ်လုံးက သူမကို ချီးကျူးကြသည်။

သို့စေကာမူ ဤလုပ်ဆောင်ချက် အတွင်းမှာပင် မပြီးဆုံးသေးသည့် အလွန်ကြီးမားသော လုပ်ငန်းတစ်ခုကို သူမ တွေ့မြင်နေသောကြောင့် ဟုန်းဟုန်းတောက်နေသော မီးကို ဖန်ပြွန်မှ ဆေးတစ်စက်ဖြင့် ငြိမ်းသတ်ရန် ကြိုးစားနေသကဲ့သို့ သူမ ခံစားနေရသည်။ သူမ၏ မှတ်စုစာအုပ်တွင် မှတ်တမ်းတင်ထားသည်မှာ–"ဆင်းရဲသားဂေဟာတွေက နာမကျန်းသူတွေသာမက အိမ်တွင်းက နာမကျန်းသူတွေကိုပါ ပြုစုတဲ့တိုင်အောင် လန်ဒန်မှာ ထိရောက်တဲ့ သူနာပြုလုပ်ငန်းအတွက် တစ်စုံတစ်ရာ လုပ်ဆောင်ပြီးပြီလို့ တစ်ခါမှ မတွေးမိဘူး။"

ပို၍ စိတ်အနှောင့်အယှက် ဖြစ်စရာ စိန်ခေါ်မှု အသစ်တစ်ခုကို သူမအားတက်သရော စဉ်းစားမိနေသည်။ သူမ၏ ကလေးဘဝ နေ့ရက်များက လီယာဟာ့စ်နှင့် အမ်ဘလီ နေအိမ်တို့၌ လက်မောင်းမှာ ဆွဲခြင်းတစ်ခုကို ချိတ်လျက် လူမမာများထံ သွား၍ ဆောင်ရွက်ခဲ့သည့် လုပ်ငန်းတစ်ခု။

ဤပဓာနကျသော ကိစ္စနှင့်ပတ်သက်၍ သူမက ရေးသားခဲ့သည်။

သူနာပြုလုပ်ငန်းဟာ အထူးသဖြင့် ယင်းလုပ်ငန်းရဲ့ အကိုင်းအခက် အားလုံးမှာ အရေးအကြီးဆုံးဖြစ်တဲ့ အိမ်တွင်းမှာ နာမကျန်းဖြစ်နေတဲ့ ဆင်းရဲချို့တဲ့သူများကို ပြုစုစောင့်ရှောက်ရေးဟာ အပျော်တမ်းလုပ်ငန်းတစ်ရပ် မဟုတ်ဘူး။ အဲဒီအတွက် လုပ်သင့်တဲ့အရာကို လုပ်ဆောင်ဖို့ အသိပညာ ဗဟုသုတ၊ အလေ့အကျင့်၊ ကိုယ့်ကိုယ်ကိုယ်စွန့်လွှတ်မှုနဲ့ ထိပ်ဆုံးက ဆရာသမားအားလုံးရဲ့ လက်အောက်မှာ ရည်မှန်းချက် အမြင့်ဆုံးထားပြီး တိုက်ရိုက်နာခံမှု လိုအပ်တယ်။

အဲဒါက ခရစ်ယာန် အသင်းတော်ရဲ့ နေ့စဉ် ဝတ်ပြုမှုဆိုင်ရာ မရှိမဖြစ် လိုအပ်တဲ့ အတတ်ပညာ တစ်ခုပဲ။ ဒါဟာ ဘုရားသခင်ရဲ့ ကောင်းချီးပေးမှုနဲ့ အခွင့်အလမ်း ဖွင့်ပေးထားတဲ့အရာ။ ဒီနှစ်အနည်းငယ် အတွင်း လူနေထူထပ် သိပ်သည်းတဲ့ တို့ရဲ့မြို့တွေမှာ ဘာ့ကြောင့်မှန်း မသိဘူး။ ထူးထူးခြားခြား သတိမမူ ကျော်လွှားသွားတဲ့ ကြီးမြတ်တဲ့ တန်ဖိုးတစ်ခုပဲ။

ဤလှုပ်ရှားမှုသည် ၁၈၆၈ တွင် "အရှေ့လန်ဒန် သူနာပြုအသင်း" တည်ထောင်ခြင်းဖြင့် အထွတ်အထိပ် ရောက်ရှိသွားသည်။ ထိုအသင်းက လှုပ်ရှားမှုများ တိုးမြှင့်ဆောင်ရွက်ရာ ဤအရှိန်အဟုန်ကြောင့် နောက် ခြောက်နှစ် အကြာတွင် "အမျိုးသား သူနာပြုအဖွဲ့ကြီး" ကို တည်ထောင်လိုက်သည်။ ထိုအဖွဲ့ကြီး၏ ရည်ရွယ်ချက်မှာ မိမိတို့အိမ်တွင် နာမကျန်းဖြစ်နေသော ဆင်းရဲသားများအား ပြုစုစောင့်ရှောက်ရန်အတွက် သင်တန်းဆင်း သူနာပြုများ ထောက်ပံ့ပေးရန်နှင့် လန်ဒန် ဆေးရုံတစ်ခုနှင့် ပူးပေါင်း၍ စီရင်စု တစ်ခုစီ၌ သူနာပြု လေ့ကျင့်ရေးကျောင်းတစ်ခု တည်ထောင်ပေးရန် ဖြစ်သည်။

ဖလောရင့်က ထိုအဖွဲ့ကြီး၏ ဂုဏ်ထူးဆောင် အတွင်းရေးမှူး ဖလောရင့် လီးစ်[၁] ထံ စာရေးသည်။

---

၁။ Florence Lees

ရှင့်ရဲ့ အောင်မြင်မှုနဲ့ ပတ်သက်လို့ ... ရှင့်ရဲ့ အောင်မြင်မှု မဟုတ်ပါဘူး ဆိုတဲ့ အရာက ဘယ်ဟာလဲ။ ရှင့်ရဲ့လူနာတွေ ပြန်ညစ်ပတ်ပေရေပြီး ရောဂါဘယတွေ မကျရောက်အောင် လူနာတွေအတွက် ဂေဟာတွေ ထူထောင်ပေးဖို့ ...။ အဲဒါက ရှင့်သူနာပြုတွေရဲ့ အရှိန်အဝါပဲပေါ့။ သေခြင်းနဲ့ ရှင်ခြင်း အကြားမှာ လွန်ဆွဲနေတဲ့ ရောဂါတွေကို ကျော်လွှား လွန်မြောက်နိုင်စေတာ၊ ဆေးရုံတွေ ဒါမှမဟုတ် နိုင်ငံအတွင်းက အချမ်းသာဆုံး လူတွေရဲ့ အသုံးအဆောင်ပစ္စည်း အားလုံးနဲ့ နာလန်ထူအောင် ဖေးမ ကူညီတာတွေဟာ ဂုဏ်သိက္ခာ တစ်ခုပဲပေါ့။ အိမ်ထောင်စု ပြိုကွဲသွားမှာကို ကာကွယ်ပေးခြင်း၊ အိမ်ထောင်စုအတွက် ငွေရှာတဲ့သူတွေကို ပြန်လည်ကျန်းမာအောင် ပြုစုစောင့်ရှောက်ပေးခြင်းဖြင့် မိသားစု တစ်ခုလုံးကို ဆင်းရဲမွဲတေမှုမှ ကာကွယ်ပေးတာတွေက ဂုဏ်သိက္ခာပဲပေါ့။

လူသားအားလုံးအား ပြုစုသည့် အကျိုးကျေးဇူးတွေ ဖြန့်ဝေရန် ဘုရားသခင်က သူမကို မွန်မြတ်စွာ တာဝန် အပ်နှင်းထားသည်ဟု ဖလောရင့် ယုံကြည်သည်။ နေ့စဉ် ဝတ်ပြုဆုတောင်းခြင်းကြောင့် မြင့်မြတ်သော ဝိညာဉ်တော်၏ စွမ်းအားဖြင့် လှုံ့ဆော်ပေးခံရသည့် လူသား အကျိုးတော်ဆောင် တစ်ယောက် ဖြစ်လာသည်။ ဘုရားသခင်၏ နိုင်ငံတော်၌ သူနာပြုအဖွဲ့သို့မဟုတ် အခြားသော အလုပ်ကြိုးစားသူ၏ လုပ်ငန်းကဲ့သို့ အရေးကြီးသော လုပ်ငန်းတစ်ခုကို တာဝန်ယူရန် သူမအား ဘုရားသခင်က နှိုးဆော်သည် ဟူသော ယုံကြည်မှုဖြင့် သူမ အလုပ်လုပ်သည်။ ကလေးဘဝ အရွယ်ကပင် ဘုရားသခင်၏ နှိုးဆော်သံကို သူမ ရရှိခဲ့သည်။ ယခု သက်လတ်ပိုင်း အရွယ်တွင် သူမက ဘုရားသခင်၏ ကတိကဝတ်များအပေါ်မှာ တည်ငြိမ်အေးဆေးစွာ အမှီပြုထားသည်။ ဘုရားသခင်၏ အမိန့်တော်အရ ဝေဒနာ ခံစားနေရသော ဆင်းရဲသူတစ်ယောက်အား ရေအေးအေးတစ်ခွက် တိုက်ကျွေးမည်ဆိုလျှင် ဘုရားသခင်က သူမအား ဘယ်တော့မျှ စွန့်လွှတ်စွန့်ခွာသွားမည် မဟုတ် ဆိုသော ကတိသစ္စာပင်။

၁၈၇၆ ခုနှစ်တွင် လန်ဒန်တိုင်းမ် သတင်းစာမှတစ်ဆင့် ရဲရဲဝံ့ဝံ့ မေတ္တာရပ်ခံလိုက်သည်။ "ဆင်းရဲနွမ်းပါးသူများထံ ကျွမ်းကျင်သော သူနာပြုများ ပံ့ပိုးပေးရေးအတွက် အမျိုးသားအသင်းကြီး" နှင့် စပ်လျဉ်း၍ သူနာပြုများ ဂေဟာတစ်ခု တည်ဆောက်ရန် ဖြစ်သည်။ များစွာသော သူနာပြုတွေမှာ

လစာနည်းပါးပြီး ဆင်းရဲချို့တဲ့စွာ နေထိုင်နေရသည့် အကြောင်းရင်းကို သူမက ရဲဝံ့စွာ ရပ်တည်ကာကွယ်ပေးသည်။

"သင်တို့ သူနာပြုများအား နိမ့်ကျဆိုးဝါးသော အိမ်များ ပေးအပ်မည် ဆိုလျှင်၊ သို့မဟုတ် နေစရာ လုံးဝမပေးလျှင် နိမ့်ကျဆိုးဝါးစွာ နေထိုင်ရသည့် သူနာပြုများ သို့မဟုတ် အိမ်ခြေရာမဲ့ သူနာပြုများကိုသာ သင်တို့ ရရှိမည် ဖြစ်ပါသည်။ စီရင်စုတစ်ခုရှိ သူနာပြု တစ်ယောက်သည် အိမ်ထောင်တစ်ခုကိုရော လူနာတစ်ယောက်ကိုပါ မည်သို့ ပြုစုရမည်ကို သိသင့်ပါသည်။ ထိုအကြောင်းကြောင့် သူနာပြုသည် သက်သောင့် သက်သာ ရှိသော နေရာတစ်ခုမှာ ကိုယ်တိုင် နေထိုင်သင့်ပါသည်။ ပုဂ္ဂလိက တည်းခိုခန်းတွေမှာ မသက်မသာ နေထိုင်ရခြင်းမှ ကင်းဝေးသင့်ပါသည်။"

ဆင်းရဲနိမ့်ကျသော သူနာပြုများအတွက် ဖလောရင့်၏ ပူပန်မှုရလဒ်အဖြစ် "သူနာပြုများအတွက် ဗဟိုရိပ်သာ" ကို တည်ထောင်ပေးလိုက်သည်။ ထိုပရောဂျက်က ကောင်းမွန်စွာ အောင်မြင်တိုးတက်လာသောကြောင့် ဝိတိုရိယ ဘုရင်မကြီး၏ နှစ်ပတ်လည်နေ့တွင် "အမျိုးသမီးများ၏ နှစ်ပတ်လည်နေ့ လက်ဆောင်" အဖြစ် ငွေကြေးအမြောက်အမြား လက်ဆောင်ပေးခဲ့သည်။ ဒေါ်လာ သုံးသိန်းခွဲနီးပါးကို ဆင်းရဲနွမ်းပါးသော လူမမာများအား သူတို့နေအိမ်၌ ပြုစုစောင့်ရှောက်ရန်အတွက် ဘုရင်မကြီးက ပေးအပ်မြှုပ်နှံခဲ့သည်။ ဤလုပ်ငန်းအတွက် ရိပ်သာခွဲများကို အင်ပါယာ နိုင်ငံအနှံ့ တည်ထောင်ပေးသည်။ ဖလောရင့်နိုက်တင်ဂေးလ်သည် ထိုအဖွဲ့၏ ဥက္ကဋ္ဌ ဖြစ်လာသည်။

ဖလောရင့်နိုက်တင်ဂေးလ်၏ ဆောင်ရွက်မှုကို လွှမ်းမိုးလာသည့် ပြဿနာများစွာ တိုးပွားလာသည်။ သို့ရာတွင် လူထုကျန်းမာရေးကို အကျိုးသက်ရောက်စေသည့် မည်သည့်ကိစ္စမျှ သူမ၏ နှီးဆော်ချက်ကို လွှဲရှောင်မသွားနိုင်ပေ။ ဂျီနီဗာ ကွန်ဗင်းရှင်းအတွက် အခြေခံလုပ်ငန်းအဖြစ် ချမှတ်ထားသည့် နိုင်ငံတကာညီလာခံ ကျင်းပသောအခါ အစိုးရက သူတို့၏ ညွှန်ကြားချက်များကို အကောင်အထည် ဖော်ရန်အတွက် မူကြမ်းရေးဆွဲဖို့ ဖလောရင့်အား တောင်းဆိုသည်။ ၎င်းသည် ဖလောရင့် လေးလေးနက်နက်

စိတ်ဝင်စားသော စီမံကိန်းဖြစ်ပြီး သူမ၏ ခရိုင်းမီးယန်းလုပ်ငန်း၏ တိုက်ရိုက် အကျိုးဆက် ဖြစ်သည်။ မကြာမီ ကြက်ခြေနီလက်အောက်ရှိ အသင်းအဖွဲ့ များကို ဥရောပတစ်ဝန်းနှင့် တိုးတက်သော ဤကမ္ဘာ့နိုင်ငံများ၌ ဖွဲ့စည်းကြ သည်။ ထိုလှုပ်ရှားမှုသည် စစ်ဖြစ်ချိန်၌ စေတနာ့ဝန်ထမ်း သူနာပြုလုပ်ငန်း အထိ တိုးတက်လာသည်။ နောက်ပိုင်းတွင် နိုင်ငံတော် အရေးပေါ်ကိစ္စများ၊ ရုတ်တရက် ကျရောက်လာသော ဘေးဒုက္ခများ၊ ကပ်ဘေးများတွင် ပရဟိတ လှုပ်ရှားမှုများကို တာဝန်ယူ ဆောင်ရွက်လာကြသည်။ ဤသို့ဖြင့် ဖလောရင့် နိုက်တင်ဂေးလ်သည် ကျွန်ုပ်တို့၏ ကြက်ခြေနီလုပ်ငန်းက ဆောင်ရွက်သည့် လူသားချင်း စာနာထောက်ထားမှုဆိုင်ရာ အခြေခံမှုများကို ရေးဆွဲရာတွင် လမ်းညွှန်သူ ဖြစ်ခဲ့ပေသည်။

နိုင်ငံတော်စည်းမျဉ်း ရေးဆွဲရေး ပြဿနာများနှင့် ဒုစရိုက်မှု ထိန်းချုပ် ရေးနှင့် ဒုစရိုက်မှု ဖယ်ရှားရှင်းလင်းရေး ဌာနများက ဖြေရှင်းရန် နည်းလမ်း များ တောင်းဆိုသောအချိန်၌ အကူအညီပေးရန် သူမ အလုပ် သိပ်မများ တော့ပေ။ ထိုအကြောင်းအရာများသည် ဖလောရင့်အတွက် စက်ဆုပ်ဖွယ် ဖြစ်သော်လည်း သူမ၏ စစ်ရေးအတွေ့အကြုံများနှင့် လေ့လာဆန်းစစ်မှု များကြောင့် အာဏာပိုင်များအား အကျိုးရှိသော အကြံဉာဏ်များ ပေးနိုင် ခဲ့သည်။

ဤကြီးလေးသော၊ စွမ်းအင်လျော့ပါးစေသော လုပ်ငန်းများသည် နာတာရှည် လူမမာတစ်ယောက်ကြောင့် ပြီးဆုံးသွားသည်။ ထိုအတွက် ဖလောရင့် မကြာခဏ အိပ်ရာထဲ လဲသည်။ အလုပ်တွေ ပုံနေသော ထိုရက် များအတွင်း ဖလောရင့် နောက်ထပ် ဆုံးရှုံးမှုတစ်ခုကို ခံစားရသည်။ ဆစ်ဒနီ ဟားဘတ် သေဆုံးခြင်း၏ ဆုံးရှုံးမှုနှင့် ထပ်တူနှိုင်းယှဉ်နိုင်သည့် ကဗျာ ဆရာ အာသာဟျူးကလော့ဖ်[၁] ကွယ်လွန်ခြင်းပင်။ သူက နှစ်ပေါင်းကြာရှည်စွာ ယုံကြည် အားထားရသူတစ်ယောက်၊ သူမကို အကူအညီပေးသူတစ်ယောက် ဖြစ်သည်။ သူက ဖလောရင့်၏ ညီမဝမ်းကွဲနှင့် လက်ထပ်ခဲ့သည်။ သို့ရာ တွင် သူ၏ စွဲလမ်း သံယောဇဉ်ကြီးမှု၊ အကူအညီ ပေးမှုတွေက မိသားစု နှောင်ကြိုးထက် ကျော်လွန်နေသည်။ သူ့တွေးခေါ်မှု စံတွေက မြင့်သည်။ သူ၏ နူးညံ့သိမ်မွေ့သော ပင်ကိုစရိုက်၊ ကဗျာဆန်သော အတွေးအမြင်၊

---

၁။ Arthur Hugh Clough

ဟာသဉာဏ်တွေက မကြာခဏ စိုးရိမ်ပူပန်တတ်သည့် သူမ၏စိတ်ကို ငြိမ်သက်စေသည့် ဆေးတစ်ခွက်ဖြစ်ကြောင်း ဖလောရင့် တွေ့ရှိသည်။

ကလာ့ဖ်၏ လက်တွေ့ကူညီမှုများက တန်ဖိုးမဖြတ်နိုင်ကြောင်း တွေ့ရှိရသည်။ အဘယ့်ကြောင့်ဆိုသော် သူက ကိုယ်ရေးအတွင်းရေးမှူး တစ်ယောက်ကဲ့သို့ ဆောင်ရွက်ပေးပြီး၊ သူမ၏ ခရီးရှည်များအတွက် မကြာခဏ စီစဉ်ပေးသည်။ ဖလောရင့်၏ ကိုယ်ရံတော်အဖြစ် မကြာခဏ ထမ်းဆောင် ပေးသည်။ သူမ၏ အလွှန်များပြားလှသော အစီရင်ခံစာတွေ၊ ဆောင်းပါးတွေ ပုံနှိပ်ရန်အတွက် သူ့ကို တာဝန်ပေး အပ်နှံသည်။ တာဝန်သိစွာဖြင့် စာမူကြမ်းကို ပရုဖတ်ပေးသည်။ ဘာကိစ္စ ဆောင်ရွက်စရာ ရှိရှိ၊ လုပ်ငန်းပြီးမြောက်အောင် သူ့ကို အားကိုးသည်။ ဤသို့ဖြင့် ပင်ပန်းငြီးငွေ့ဖွယ်ရာ အလုပ်ချိန်များစွာကို သူက သူမ သက်သာအောင် ဆောင်ရွက်ပေးသည်။ အရေးပေါ်ကိစ္စ ဖြစ်လာလျှင် လက်တစ်ကမ်းမှာ အမြဲ ရှိနေသည်။

သူ ကွယ်လွန်ပြီးနောက် သူမက ဤသို့ ရေးထားသည်။

> ကျွန်မက အာသာရဲ့ ကျန်းမာရေးနဲ့ စိတ်ဓာတ်အတွက် အကြီးအကျယ် အဟန့်အတား ဖြစ်နေပြီလို့ ကျွန်မ အမြဲ ခံစားရတယ်။ ကျွန်မသာ သူ မကြာခင် သေမှာပဲလို့ နိမိတ်မဖတ်ခဲ့ရင် ကျွန်မ နှစ်သက် သဘောကျတာထက် အများကြီး ကြီးမြတ်တဲ့ ပုဂ္ဂိုလ်တစ်ယောက် ဖြစ်မှာ။

ကလာ့ဖ် ကွယ်လွန်ခြင်းက ကြင်နာသနားတတ်သော သူမ၏စိတ်ကို ဝန်ထုပ်ဝန်ပိုးပမာ လပေါင်းများစွာ လေးလံ ဖိစီးနေသဖြင့် သူမ ချစ်ခင်ရသူ၏ နာမည်ကိုတွေ့လျှင် သတင်းစာကိုတောင် လှန်မကြည့်ဖြစ်ပေ။ သုံးလေးနှစ် ကြာပြီးနောက် ကဗျာဆရာ၏ ဇနီးက သူမထံ စာအုပ်တစ်အုပ် ပို့လိုက်သည်ကို ဖလောရင့်က ရေးထားသည်မှာ–

> ကျွန်မအနေနဲ့ ဒီစာအုပ်ကို ဖတ်ဖို့၊ ဒါမှမဟုတ် ကြည့်ဖို့ဆိုတာ ဖြစ်နိုင်မှာ မဟုတ်ဘူး။ အချိန်မပေးနိုင်လို့လည်း မဟုတ်ဘူး။ အားမရှိလို့လည်း မဟုတ်ဘူး။ ဒါပေမဲ့ အချိန်ရော ခွန်အားရော သူ့ကို အမှတ်ရစိတ်နဲ့ ကုန်ဆုံးနေလို့ပါ။ သူ့အကြောင်း နည်းနည်းလေး တွေးမိတာ မဟုတ်ဘူး။ အများကြီး ... အများကြီး တွေးမိနေတာ။ ကွယ်လွန်သူတွေရဲ့ ရုပ်ပုံတွေကြည့်ဖို့ ကျွန်မ ခံနိုင်ရည် မရှိဘူး။

ထိုနှစ်တွေအတွင်းမှာ သူမ မိတ်ဆွေတွေအပေါ် ချစ်ခင်စိတ်၊ ကရုဏာ

စိတ်ကြောင့် သူမ နှလုံးသားတွေ လှုပ်ရှားနေသည်။ သူမ၏ ခံစားချက်တွေကို ဖုံးကွယ် မထားနိုင်ခဲ့ပေ။ သူမက ပါရီက မဒမ်မိုးလ်ထံ စာရေးသည်။

မုဆိုးမ သုံးယောက်ရဲ့ ဦးထုပ်ကို ကျွန်မ ခေါင်းပေါ်မှာ အမှတ်သင်္ကေတအဖြစ် ဆောင်းထားရမယ်။ ပြီးတော့ ကျွန်မ ငိုမယ်။ 'ဒါက ဆစ်ဒနီ ဟားဘတ်အတွက်'၊ 'ဒါက အာသာကလော့ဖ်အတွက်'၊ 'ပြီးတော့ ဒါက ... မုဆိုးမရဲ့ အားလုံးထဲမှာ အကြီးဆုံးဦးထုပ်။ အဲဒါက ကျွန်မရဲ့ အချစ်ရဆုံးနဲ့ အနီးကပ်ဆုံးလူတွေ ခွဲခွာသွားတာနဲ့ ပတ်သက်လို့ သမစိတ္တ ဖြစ်မှု အားလုံး ဆုံးရှုံးရတဲ့အတွက်။

ဖလောရင့်သည် ရှုန်းစိုတောက်ပသော ဘဝတစ်ခုမှာ ရှင်သန် နေထိုင်သွားခဲ့ရသည်။ သူမ၏ လုပ်ငန်းကို ချစ်မြတ်နိုးစိတ်၊ သူမ၏ ဝန်ထုပ်ဝန်ပိုးကို ထမ်းပိုးပေးခဲ့သူတွေကို ချစ်ခင်တွယ်တာစိတ်၊ နာမကျန်းသူ၊ ဒဏ်ရာရသူတွေအတွက် သနားကရုဏာစိတ်၊ သူမကို ခွန်အားနှင့် အကြံဉာဏ် ပေးသည့် ထာဝရ "မိတ်ဆွေ" အဖြစ် လက်ပွန်းတတီး ဆက်ဆံရသည့် ဘုရားသခင်ကို အလုပ်အကျွေးပြုရန် ထက်သန်သော ဇောစိတ်တို့ဖြင့် ဝင်းလက် တောက်ပနေသည်။

ဤမြင့်မြတ်သော မိတ်ဆွေများ ဆုံးရှုံးမှုက ကြီးမားလှသော်လည်း "နောက်ထပ် ငတ်မွတ်ခေါင်းပါးမှု၊ ဆာလောင်မွတ်သိပ်မှု မရှိသည့် နိုင်ငံတော်၊ သူတို့ မျက်ဝန်းအိမ်မှ မျက်ရည်တွေကို သုတ်ပေးမည့် ဘုရားသခင် နိုင်ငံတော်" မှာ ပို၍ပျော်ရွှင်သော ကံကြမ္မာကို ကြုံတွေ့ရမည်ဟု ဖလောရင့် သဘောပေါက်သည်။

ကလော့ဖ် ကွယ်လွန်ခြင်းနှင့် ပတ်သက်၍ သူမက ပြောသည်။

'ဘယ်တော့မှ ပြန်မလာနိုင်တော့တဲ့ နေ့တစ်နေ့ ပြီးဆုံးသွားလို့ ကျွန်မ ဝမ်းသာတယ်။ ညတစ်ည အဆုံးသတ်သွားလို့ ပိုဝမ်းသာတယ်။ လတစ်လ ကုန်ဆုံးသွားလို့ ဝမ်းအသာဆုံးပဲ။ ကျွန်မရဲ့ ကလော့ဖ်အကြောင်း မစဉ်းစားဘဲနဲ့ နွေဦးရာသီကို ဘယ်တော့မှ ရင်ဆိုင်မှာ မဟုတ်ဘူး။ သူက သစ်ရွက်တွေ ဘယ်လိုထွက်လာတယ် ဆိုတာ ကျွန်မကို ပြောပြလေ့ရှိတယ်။ ကျေးဇူးတင်ပါတယ် ... အဖ ဘုရားသခင်။ ကျွန်မရဲ့ ဆုံးရှုံးသွားသူ နှစ်

ယောက်က ကျွန်မတို့ရဲ့ နွေဦးထက် ပိုပြီး ရွှန်းလက်တောက်ပတဲ့ နွေဦးရာသီမှာ ရောက်နေလို့ ...'

သူမသည် နိုင်ငံတော်၏ အကောင်းဆုံး၊ အမြင့်မားဆုံး အဖော်မွန်တစ်ယောက် ဖြစ်ခဲ့သည်။ ဘုရားသခင်၏ လက်က သူမ၏လက်ကို ထိတွေ့ခြင်းဖြင့် အားသွန်ခွန်စိုက် လုပ်ရသော သူမ၏ လုပ်ငန်းတွေမှာ အားဖြည့်ပေးခံခဲ့ရသည်။ ဒဏ်ရာရသူနှင့် နာမကျန်းသူများအား ပြုစုစောင့်ရှောက်မှုကို သူမ ပခုံးပေါ်မှ လွှဲပြောင်းရန် အချိန်ရောက်လာသောအခါ ဘုရားသခင် ရှိရာ နေရာသို့ ဝင်ရောက်ရန်၊ သူ၏ "ကောင်းစွာ ဆောင်ရွက်နိုင်ပါပေ့။ အသင် သစ္စာရှိသော အမှုတော်ထမ်းကောင်း တစ်ယောက်ပါပေ့" ဟု မိန့်မြွက်စကားကို ကြားနာရန် အသင့် ဖြစ်နေပေပြီ။

## အခန်း [ ၁၀ ]

## "ဇရောဒူဇွလ အရွယ်ကျသည့်တိုင်

ဖလောရင့်၏ အောင်မြင်ထွန်းတောက်သော နှစ်များ နိဂုံးချုပ်ရန် အလျင်အမြန် ရောက်ရှိလာပေပြီ။ ခရိုင်းမီးယား စစ်ပွဲကာလနှင့် နောက်ပိုင်း အင်္ဂလန်နိုင်ငံ ပြုပြင်ပြောင်းလဲရေး နှစ်ကာလများအတွင်း သူမက ခွန်တိုက် အားတိုက် အလုပ်လုပ်ခဲ့ရသဖြင့် နောက်ထပ် အသက်လေးဆယ်ကျော် ကာလတွင် ဖြစ်ပျက်သည့် အပြောင်းအလဲမြန်သော အလွမ်းအသော ဇာတ်လမ်းစုံ၌ ပါဝင်သရုပ်ဆောင်ရန် မတတ်နိုင်တော့ပေ။ ဤဆယ်စုနှစ် လေးစုကာလအတွင်း နာတာရှည် လူမမာ ဖြစ်နေသောကြောင့် လုံးဝ လူသူ ကင်းဝေးရာမှာ နေ့ရက်တွေကို ကုန်လွန်ရသည်။

ထိုကာလအတွင်း ကမ္ဘာကြီးက သူမ၏ အိမ်တံခါးဝ ရောက်လာခဲ့သော်လည်း သူမက ဝင်ခွင့်ကို ငြင်းပယ်လိုက်ရသည်။ ခရိုင်းမီးယားကို ဝိုင်းဝန်းတိုက်ခိုက် ခံရသည့် ကြောက်စရာ ဖြစ်ရပ်တွေကို မမေ့နိုင်။ စကူတာရီ၏ အမှတ်ရစရာ ကောက်ကြောင်းတွေက နက်ရှိုင်းလွန်းသည်။

သူမ၏ ဘဝနိဂုံးထိတိုင် ဝန်ဆောင်မှု၏ ပျော်ရွှင်ချမ်းမြေ့ သာယာမှုကို လေးလေးနက်နက် သောက်သုံးခဲ့သည်။ သူမမှာ တစ်ခုတည်းသော ဆောင်ပုဒ်သာ ရှိသည်။ "အလုပ် ... အလုပ် ... အလုပ်"။ သူမ၏ အသက်မွေးလုပ်ငန်းသည် အကောင်းဆုံး၊ အမွန်မြတ်ဆုံးဖြစ်သည် ဆိုသော ခိုင်မာသည့် ခံယူချက်၏ စေ့ဆော်မှုဖြင့် သူမ အလုပ်လုပ်သည်။

သဘာဝလွန် ဂမ္ဘီရလမ်းစဉ်ကို ယုံကြည်မှုက ဖလောရင့်အား အစဉ်

မပြတ် ဦးဆောင် လမ်းညွှန်ပေးသည်။ သူမက ဂရိဒဏ္ဍာရီ "ကာစန္ဒရာ[၁]" ကို သုံးသပ်သည်။ ကိုယ်ရေးအတ္ထုပ္ပတ္တိ ဆန်သည်ဟု ယုံကြည်သည်။ ဤ ထူးခြားသော စရိုက်လက္ခဏာဖြင့် 'ကျွန်မ ဘုရားသခင်ကို ယုံကြည်တယ်' ဟု ထုတ်ဖော်ပြောသည်။ လွတ်လပ်သော တွေးခေါ်ရှင် သူမက ရှုပ်ထွေး ပွေလီသော လုပ်နည်းလုပ်ဟန်နှင့် ဓလေ့ထုံးစံတွေ၊ ကြိုးနီစနစ်၏ စည်းမျဉ်း တွေကို ဖြတ်တောက်၍ သူမ၏လမ်းစဉ်ကို ချီတက်သည်။ သို့ရာတွင် ဘုရား သခင်ကို ယုံကြည်အားကိုးသည့် စိတ်ကတော့ လုံးဝ ပျောက်မသွားပေ။

သူမသည် အင်္ဂလီကန် အသင်းတော် အသင်းဝင်တစ်ယောက် ဖြစ် သော်လည်း မည်သည့် အယူဝါဒ၊ မည်သည့် ဘာသာရေး ဂိုဏ်းခွဲကမျှ သူမကို ၎င်းတို့၏ ကန့်သတ်ချက်အတွင်း၌ ဘောင်ခတ်၍ မရပေ။ အဘယ့် ကြောင့် ဆိုသော် သူမက ကောင်းကင်ဘုံ၏ အဖဘုရားသခင် အလိုတော် အတိုင်း ဆောင်ရွက်သည့် အသင်းတော်တော် အားလုံး၊ အုပ်စုအားလုံးနှင့် စိတ်ဓာတ်ရေးရာ တသားတည်း ဖြစ်နေသောကြောင့်ပင်။ သူမ၏ ဘာသာရေး ယုံကြည်မှု ဇာစ်မြစ်၊ သူမ၏ စွမ်းအင်များ ဆုတ်ယုတ် လာခြင်း အကြောင်း ပြောဆိုရာတွင် သူမက ဤသို့ ရေးထားသည်။

> ကျွန်မတို့ရဲ့ ကာယကံမှုအားလုံး၊ ဝစီကံမှုအားလုံး၊ မနောကံမှု အားလုံး၊ သူတို့ အသက်ရှင်နေထိုင်ဖို့၊ ဖြစ်တည်ရှင်သန်ဖို့ မှီခိုအားထား နေရတဲ့ အားလုံးဟာ အတွင်းစိတ်စွမ်းအားတွေ လမ်းညွှန်ပေးတဲ့ ဘုရား သခင် ရှိခြင်းကြောင့်ပဲ။ ဘုရားသခင်နဲ့ တစ်လုံးတစ်ဝတည်း ရှိခြင်း ကြောင့်ပါပဲ ...။

သူမ၏ အရေးအသား မှန်သမျှကို စူးစမ်းကြည့်လျှင် စိတ်ဓာတ် ရေးရာ တည်ကြည်ဖြောင့်မတ်မှုကို သူမ တောင့်တကြောင်း လေ့လာတွေ့ရှိ ရသည်။ သို့ရာတွင် ထပ်တူညီမျှ ပေါ်လွင်ထင်ရှားသည်မှာ စံသတ်မှတ် ချက်နှင့် ကွာလှမ်း ပြတ်တောက်လာခြင်း ဖြစ်သည်။

> "ဒါဟာ ကျွန်မ မြင်တွေ့ထားတဲ့ လူသားဘဝရဲ့ ဒုက္ခဝေဒနာနဲ့ တန်ဖိုးမဲ့မှုပဲ။ ... အညတရ လူတွေရဲ့ လက်ထဲကို ဘုရားသခင် ထည့် ပေးထားတဲ့ ထူးခြားတဲ့ စွမ်းအားတွေနဲ့အတူ လူသားတွေကို အဲဒီ ဒုက္ခ ဝေဒနာနဲ့ တန်ဖိုးမဲ့မှုတွေက လွတ်မြောက်အောင် မြှင့်တင်ဖို့အတွက် အဲဒီစွမ်းအားကို အသုံးပြုမယ်ဆိုရင် ... ကျွန်မတို့ တစ်ဦးချင်းစီအတွက်၊

---

၁။ *Cassandra*

အားလုံးအတွက် ပြီးပြည့်စုံမှုဆီ ဦးတည်နေတဲ့ ထာဝရအသက်တာနဲ့ ပတ်သက်တဲ့ အလွန်ပြင်းထန်တဲ့၊ အစဉ်တည်ရှိတဲ့ ခံစားချက်ကို ဘုရားသခင်ရဲ့ ပညတ်တော်တွေမှ တစ်ဆင့် အဲဒီစွမ်းအင်တွေ ကျွန်မကို ပေးအပ်ခဲ့တယ်။"

စိတ်မရှည်မှု၊ သည်းမခံမှု၊ တစ်ကိုယ်ကောင်းဆန်မှုနှင့် ဘုရားသခင်၏ လမ်းညွှန်မှုကို ယုံကြည်ခြင်း မရှိမှုတို့နှင့် ပတ်သက်၍လည်း သူမကိုယ်သူမ အပြင်းအထန် ဝေဖန်သည်။ သူမ၏ အားနည်းချက်၊ ချို့ယွင်းချက်တွေကို စဉ်းစားမိသောအခါ ဘာသာရေးနှင့် ပတ်သက်သော သူမ၏ တွေးခေါ်သုံးသပ်ချက်နှင့် အရေးအသားတွေက စာနာစိတ်နှင့် နောင်တရမှုကို ဖော်ပြနေသည်။ သူမ၏ မိတ်ဆွေတစ်ယောက်ထံ စာရေး၍ ပြောပြသည်။

ကျွန်မက ဘယ်လောက်တောင် အကျင့်သိက္ခာ မဲ့တဲ့သူလဲ။ ဘုရားသခင်ဆီ အမှန်တကယ် ကိုယ်တိုင် အပ်နှင်းထားတဲ့ ဝိညာဉ်တစ်ခုဟာ ပစ္စုပ္ပန်မှာ ဘုရားသခင်ရဲ့ အလိုတော်ကို ဆောင်ရွက်တယ်။ အနာဂတ်အတွက် အဖဘုရားသခင်ကို ယုံကြည်တယ်။ လူထုရဲ့ လက်တွေ့ဘဝထဲ ဝင်ရောက်လာတာ ဒီနေ့ဆို နှစ် (၂၀) ရှိပြီ။ ဒါပေမဲ့ အဲဒီသင်ခန်းစာကို ကျွန်မ ခုထိ မသင်ယူရသေးဘူး။

သူမက ထပ်၍ ပြောသည်။

"ဘုရားသခင် တစ်ဦးတည်းကိုသာ မှီခိုအောင် ကျွန်မကို မဖြစ်မနေ တိုက်တွန်းဖို့အတွက် ဘုရားသခင်က ကျွန်မကို လမ်းပြပါတယ်။ မမြင်ရတဲ့ ဒုက္ခဝေဒနာသည်တွေကို လူသားအားလုံးက ကူညီပေးတယ်။ အို ... အရှင် ... ယခုအချိန်မှာတောင် သင့်ကမ္ဘာအား စီမံဖန်တီးမှုကို သင့်လက်ထဲမှ လုယူဖို့ ကျွန်မ ကြိုးစားနေပါတယ်။ သင်၏ အထွတ်အထိပ် ဉာဏ်ပညာထက် ပိုကောင်းသော၊ ပို၍ မြင့်မားသော တစ်စုံတစ်ရာကို ကျွန်မ ရှာဖွေ မတွေ့ခဲ့ပါ။ အို ... အဖဘုရားသခင်၊ မည်သို့ ဖြစ်စေ ကျွန်မ၏ အတွေးအခေါ် အားလုံးသည် ကျွန်မ၏ ကိုယ်ပိုင် အတွေးအခေါ် မဟုတ်ပါ။ အသင်၏ ဂုဏ်ကျက်သရေသာ ဖြစ်ပါသည်။"

ဘုရားသခင်ကို အားပြုနေသည့် ဤယုံကြည်မှုကို လူသားကောင်းကျိုးဆောင်ရွက်ခြင်းသို့ ပြောင်းလဲခဲ့ခြင်း ဖြစ်မှာ အမှန်ပင်။ သူမ၏ ဘာသာရေး ယုံကြည်မှုက သူမ၏ လုပ်ဆောင်ချက်အတွက် အမြင့်မားဆုံး စေ့ဆော်

နေသော အကြောင်းရင်း ဖြစ်သည်။ သူမ လေ့ကျင့်သင်ကြားပေးနေသော သူနာပြုတို့၏ ဝန်ထုပ်ဝန်ပိုးကို သယ်ဆောင်နေသည့်ကာလ အတောအတွင်းမှာ သူမက အခိုင်အမာ ပြောဆိုသည်။

'သူတို့က ဘုရားသခင်နဲ့အတူ ရှင်သန်နေထိုင်ဖို့ ပြောကြတယ်။ စံနမူနာအဖြစ်သာ စဉ်းစားတာ မဟုတ်ဘူး။ သူတို့အတွက် လုပ်ကိုင်ပေးဖို့၊ ခံစားပေးဖို့ ပြောတာ'

သူနာပြုလုပ်ငန်းသည် အသက်မွေးဝမ်းကျောင်းလုပ်ငန်း တစ်ခုမျှသာ မဟုတ်ပေ။ ဘုရားသခင်၏ ဆင့်ခေါ်သံ ဖြစ်သည်။ ကမ္ဘာလောကကို "ဘုရားသခင်၏ အိမ်ဖော်ဖြစ်ရန် အမျိုးသမီးများအား လေ့ကျင့်ပေးနိုင်သည့် အဖွဲ့အစည်းတစ်ခု" ပေးအပ်ဖို့ ရည်ရွယ်ချက်ကို သူမ လုံးဝ မစွန့်လွှတ်ပေ။

သူမ ခရိုင်းမီးယားမှ ပြန်ရောက်လာသောအခါ ကြာရှည်စွာ အနားယူခဲ့လျှင်၊ အင်တိုက်အားတိုက် ဆောင်ရွက်ရမည့် ပြန်လည်ပြုပြင်ရေး ဝန်ထုပ်ဝန်ပိုးကြီးကို ဘေးဖယ်ထားခဲ့လျှင် သူမ၏ ကျန်းမာရေး ပြန်လည်ကောင်းလာနိုင်ချေ ရှိသည်။ သို့စေကာမူ ဤပြင်းပြင်းထန်ထန် မချိမဆံ့ ခံစားနေရသော နှစ်များအတွင်း သူမ လုံးဝ မအိပ်ရသော ညတွေကို ဖြတ်သန်းခဲ့သည်။ လေးမိုင်ကွာဝေးသည့် ဆေးရုံ အိပ်ရာများဆီသို့ တစ်နာရီပြီး တစ်နာရီ လျှောက်ခဲ့ရသည်။ သူမ ခန္ဓာကိုယ်၏ ခံနိုင်စွမ်း အခြေခံကို ဖြိုဖျက် ခဲ့သည်။ သူမ အင်္ဂလန် ပြန်ရောက်သောအခါ လူမမာ ဖြစ်နေပြီ။ သို့ရာတွင် ပြုပြင်ပြောင်းလဲရေး၌ သူမ ခံယူထားသည့်အမြင် ခိုင်မာလာသည်အထိ ဘုရားသခင် အပ်နှင်းထားသည့် တာဝန်ကို စွန့်လွှတ်ရန် ငြင်းပယ်ခဲ့သည်။

ဘာလင်တန်ဟိုတယ်၌ နေထိုင်စဉ် ဆစ်ဒနီဟားဘတ် ကွယ်လွန်ချိန်အထိ သူမက လူမမာဖြစ်နေပြီး လုပ်ငန်းကို အခြားသူများနှင့် ဆက်လက်ဆောင်ရွက်သည်။ ဟမ့်စတက်သို့ ပြောင်းရွှေ့စဉ် ခပ်ယွဲ့ယွဲ့သာရှိသော သူမ၏ ကျန်းမာရေး အခြေအနေက လုံးဝ လူသူကင်းဝေးရာသို့ သွားရောက်နေထိုင်ရန် တောင်းဆိုနေသည်။ လန်ဒန်နှင့် ဆင်ခြေဖုံးရှိ နေရာအသီးသီး၌ မကြာခဏ ပြောင်းရွှေ့နေထိုင်သည်။ သို့ရာတွင် သူမ ကွယ်လွန်ရန်

(၄၅) နှစ်အလို ၁၈၆၅ ခုနှစ်၌ ဖခင်ဖြစ်သူက "ဆောက်သ်"လမ်း[၁] ၌ အိမ်တစ်လုံးကို ရက်ရက်ရောရော ဝယ်ပေးလိုက်သည်။ သူမ၏ဘဝ နောက်ဆုံး အချိန်အထိ ထိုအိမ်မှာပင် နေထိုင်သွားသည်။ ထိုအိမ်သည် ယခုအခါ လေဒီဗားနေ[၂] ဖြစ်နေသည့် အစ်မဖြစ်သူ ပါသီ၏အိမ်နှင့် သိပ်မဝေးပေ။ ထိုနှစ်များအတွင်း လီယာဟာ့စ်နှင့် အမ်ဘလီသို့ အလည်သွားပြီး အစ်မဖြစ်သူ၏ အခန်း၌ မကြာခဏ နေထိုင်သည်။ သို့ရာတွင် လန်ဒန်သည် သူမ၏ ဌာနချုပ် ဖြစ်သည်။ လန်ဒန်၌နေလျှင် နိုင်ငံတော်၏ တက်ကြွလှုပ်ရှားသော ဘဝ၏ အချက်အချာနေရာ အနီးတွင် ရှိနေနိုင်သောကြောင့် ဖြစ်သည်။

၁၈၆၁ ခုနှစ် ဧပြီလတွင် အောင်မြင်ကျော်ကြားမှု လှိုင်းလုံးထိပ်၌ ရောက်ရှိနေစဉ် ဝိတိုရိယ ဘုရင်မကြီး၏ ခွင့်ပြုမိန့်ဖြင့် အောက်ပါ ဆက်သွယ်မှုကို လက်ခံရရှိသည်။

> ဘုရင်မကြီးမှ မစ္စနိုက်တင်ဂေးလ်သို့ နေထိုင်စရာတစ်ခု ပေးအပ်ရန် အမြင်ဖြင့် ကင်စင်တန်နန်းတော်[၃] ၌ ခန်းဆောင်တစ်ခုကို ပြင်ဆင်ရမည်ဟု အစီအစဉ် ချမှတ်ထားပါသည်။ ဘုရင်မကြီး၏ သဘောထားအား မည်မျှ ကျေးဇူးတင်ဖွယ် ကောင်းသည်ကို ကျွန်ုပ် သင့်အား ပြောပြဖို့ မလိုပါ။ အနည်းငယ်မျှသော ဤအဆင့်မျှပင်လျှင် တိုင်းသူပြည်သားတိုင်း ဂုဏ်ယူဝင့်ကြွားနေသည့် ထူးချွန်ထက်မြက်ဆုံး အမျိုးသမီးအတွက် ဘုရင်မကြီး၏ လေးစားမှုကို အသိအမှတ် ပြုနိုင်မည် ဖြစ်ပါသည်။

သို့စေကာမူ လူအများစု ဂုဏ်ယူဝင့်ကြွားစွာ လက်ခံမည့် ဘုရင်မကြီး၏ လှိုက်လှဲပျူငှာသော ချီးမြှင့်မှုကို ဝင့်ကြွားပလွှားမှု မရှိသော မစ္စနိုက်တင်ဂေးလ်က လေးလေးစားစား ယဉ်ယဉ်ကျေးကျေး ငြင်းပယ်လိုက်သည်။ နန်းတော်၏ လူမှုဝန်းကျင်သည် နှစ်သက်ကြည်နူးဖွယ် ဖြစ်သော်လည်း အလုပ်ရုံ ဖြစ်လာမည့် သူမ၏ နေအိမ်နှင့် လုံးဝ မတူနိုင်သည်ကို သူမ သိသည်။ ဖလောရင့်၏ လုပ်ငန်းသည် သူမ အဓိက စိတ်ဝင်စားသော အရာ ဖြစ်သည်။

"ညှော်ခန်း ... ဟုတ်လား၊ ကျွန်မမှာ ဘာညှော်ခန်းမှ မရှိပါဘူး" ဟု သူမ၏ဖခင်က ညှော်ခန်းအတွက် ပရိဘောဂတွေ ပို့ပေးမည်ဟု ပြောသော

---

၁။ South Street ၂။ Lady Verney ၃။ Kensington Palace

အခါ သူမက ဖခင်ထံ စိတ်ဆိုးမာန်ဆိုး စာရေးလိုက်သည်။ "ညှော်ခန်းဆိုတာ အမျိုးသမီး များစွာရဲ့ ဘဝကို ပျက်စီးစေတဲ့ အရာပါ။"

ရုပ်ပိုင်းဆိုင်ရာ ခန္ဓာကိုယ်က အလုပ်လုပ်နိုင်တုန်းမှာ သူမ မပျက်မကွက် အလုပ်လုပ်သည်။ သူမက ပန်းတွေကို ချစ်သည်။ သို့ရာတွင် သူမ၏ ခဲအိုဖြစ်သူ ဆာဟယ်ရီဗားနေ[၁] က ရုံဖန်ရုံခါ သူမကို အနီးအနား ပန်းခြံသို့ အလည်သွားရန် ဖျောင်းဖျသည့်အခါ သို့မဟုတ် နာမည်ကျော် တောင်ဇလပ်ပန်းများကို ကြည့်ရှုနိုင်ရန် ကားဖြင့် ခေါ်သွားသည့် အခါမှသာ သွားဖြစ်သည်။ "အလုပ် ... အလုပ် ... အလုပ် ..." ဟူသော သူမ၏ လမ်းညွှန်ပေါ်လစီအရ ဤကဲ့သို့ အပန်းဖြေမှုမျိုးကို သူမဘာသာ သူမ ခွင့်ပြုခဲ့ပေသည်။ သူမကို ညှော်ခန်း ဖိမ်ခံပစ္စည်းတွေက ဝန်းရံနေတာ မဟုတ်ဘဲ စာအုပ်ပုံတွေ၊ တပုံတပင်စာတွေ၊ လက်ကမ်းစာစောင်တွေ၊ မှတ်စုတွေက ဝန်းရံနေပေသည်။

နောက်ဆုံးတွင်မူ သူမ၏ အလုပ်စားပွဲခုံမှာ ကွပ်ပျစ်တစ်ခု ဖြစ်လာသည်။ ရုံဖန်ရုံခါ အရေးအကြီးဆုံး ညှော်သည်များကို ကိုယ်တိုင်ကိုယ်ကျ လက်ခံတွေ့ဆုံသည်။ ထိုအချိန်အတွက် ဝတ်စားပြင်ဆင်သည်။ သို့ရာတွင် ဤသို့ ကြိုးစားဝတ်ဆင်ရသဖြင့် မောကျန်ခဲ့သည်။ ဖြစ်နိုင်သည့် အခါတိုင်း ညှော်သည်တွေကို အခြားအခန်းမှာ လက်ခံပြီး မှတ်စုများဖြင့် ရှင်းလင်းအောင် ပြောပြသည်။ အခြား မိသားစုဝင်တွေထက် ဖခင်ထံသို့ မကြာခဏ အလည်သွားသည်။ တစ်ဦးချင်း အလည်လာရန် ခွင့်ပြုခံရသူများက သူမသည် သူတို့ မျှော်လင့်သည်ထက် ပို၍သန်မာကြောင်း တွေ့ရှိသည်။

ဖခင်ဖြစ်သူက သူမထံ အလည်တစ်ခေါက် လာပြီးနောက် ပြောပြသည်။

'ချက်ဒ်ဝစ်[၂] နဲ့ ဆူသာလန်း[၃] တို့ ညစာ လာစားကြတယ်။ ချက်ဒ်ဝစ်က "ဖလော်"ရဲ့ အသံတစ်ခုတည်း ကြားရရုံနဲ့ သူမှာ နှလုံးရောဂါ (ဆိုတဲ့) ဝေဒနာရှိကြောင်း ပြသနေတာ သေချာတယ်လို့ စောဒက တက်တယ်။ အမှန်အတိုင်း ပြောရရင် သူက အားနည်းပေမဲ့ ဟာကြူလီတစ်ယောက်လို အလုပ် လုပ်နေဆဲပဲ'

၁၈၇၄ ခုနှစ် ဖခင် မကွယ်လွန်မီကပင် ဤကဲ့သို့ အလည်လာခြင်း

---

၁။ Sir Harry Verney ၂။ Chadwick ၃။ Sutherland

များကြောင့် သူမမှာ အားနည်းတုန်လှုပ် ကျန်ခဲ့ရသည်။ နောက်ဆုံးတွင် သူမကို တွေ့ဆုံရန် ခွင့်ပြုခြင်းနှင့် ပတ်သက်၍ ပို၍ တင်းကျပ်လာသည်။ မိတ်ဆွေများထံမှ စာတွေက တစ်ခါတစ်ရံ ဤကိစ္စကို ရယ်ရွှင်ဖွယ်ကောင်းစွာ သွယ်ဝိုက်ညွှန်းဆိုနေသည်။ ကြာရှည်စွာ ရင်းနှီးလာသော မိတ်ဆွေဖြစ်သူ လေဒီ အက်ရှ်ဘူတန်[၁]က စာရေးထားသည်။

"ရှင် ညစာစားတဲ့အခါ ရှင်က ကျွန်မကို အခန်းထောင့်မှာ ကြွက်ကလေး တစ်ကောင်လို ထိုင်ခွင့်ပြုပါစေလို့ တောင့်တတယ်။ တစ်ယောက်တည်း မစားတာက အများကြီး အာဟာရ ပိုဖြစ်တာပေါ့။ ဒါပေမဲ့ ကျွန်မ အထဲဝင်လို့ မရဘူးဆိုတာ သိတယ်။ ဒါ့ကြောင့် ကျွန်မ အဲဒီပစ္စည်းကို တံခါးဝမှာပဲ ထားခဲ့ရတယ်။"

သမီးဖြစ်သူက စာတိုကလေးဖြင့် ဖြည့်စွက်ပြောထားသည်။ "အမေက စာကြွင်းအဖြစ်နဲ့ ဆက်ရေးခိုင်းတယ်။ ပြီးတော့ အမေ ချစ်ခင်ရတဲ့ သူကို အမေးခိုင်းတယ်။ ရှင် သူ့ကို ဒီနေ့ တစ်ချိန်ချိန်မှာ တွေ့နိုင်မလား တဲ့။ အမေက သော့ပေါက်ကနေပဲ စကားပြောမှာပါတဲ့။ ရှင့်ကို ငါးမိနစ်လောက် အချိန်ဆွဲမထားပါဘူး တဲ့။"

ဖလောရင့်က မိတ်ဆွေများကို တွေ့ဆုံမှု အလွန်နည်းသော်လည်း ပိတ်ဆွေအနည်းအပါး လာလျှင် သူမ၏ "ဆောက်သ်" လမ်း အိမ်မှာ သူတို့ကို မကြာခဏ ဧည့်ခံသည်။ သူမ၏ ကြီးကြပ်မှု၊ လမ်းညွှန်မှုအောက်မှာ အိမ်ဖော်တွေ၊ အစေခံတွေက ဧည့်သည် သက်သောင့်သက်သာဖြစ်အောင်၊ စိတ်ချမ်းသာအောင် ပံ့ပိုးပေးကြသည်။ ဧည့်သည်တစ်ယောက် ဓာတ်စာ စားရန် လိုအပ်လျှင် ဖလောရင့်က စားသောက်ဖွယ်ကို ကိုယ်တိုင် စီစဉ်ပေးသည်။ ဖွယ်ဖွယ်ရာရာ ဟင်းတစ်ခွက်အတွက် ချက်နည်းပြုတ်နည်းကိုပင် ရေးပေးသည်။ သူ့အစ်မ သို့မဟုတ် ရင်းနှီးသော မိတ်ဆွေတစ်ယောက်ယောက်ကို ခေါ်ယူပြီး ဧည့်သည်ကို ဧည့်ခံခိုင်းသည်။ ဤသို့ဖြင့် ငြီးငွေ့ဖွယ် အချိန်တာ မဖြစ်တော့ပေ။ သို့မဟုတ် ဧည့်သည်၏ ဆန္ဒအထူးကို ဖြည့်စွမ်းပေးနိုင်သည်။

ထင်ရှားကျော်ကြားသော ဧည့်သည်များစွာ သူမ၏အိမ်သို့ အလည်ရောက်လာသည်။ ထိုအထဲတွင် သူမ ချစ်ခင်လေးစားသော နာမည်ကျော်

၁။ Lady Ashbuton

အီတာလျံ အမျိုးသားရေးဝါဒီ ဂယ်ရီဘော်လ်ဒီ[၁] လည်း ပါဝင်သည်။ ကြိုးစား၍ ဆုံတွေ့ရတာ ဖြစ်သော်လည်း သူမက ပုဂ္ဂိုလ်ရေးအရ ဧည့်ခံသည်။ ဤတွေ့ဆုံပွဲနှင့် ပတ်သက်၍ ဗြိတိသျှ စာရေးဆရာမ ဟဲရီယက်မာတီနော[၂] ထံ စာရေးသည်။

ကျွန်မတို့ နှစ်ယောက်ချင်း အင်တာဗျူး လုပ်ကြတယ်။ အကြာကြီးပဲ။ သူ့ရဲ့ မြင့်မြတ်နှလုံးသား ရှိတယ် ဆိုတဲ့ ဂုဏ်သတင်းနဲ့ ...။ ပြီးတော့ အုပ်ချုပ်မှုစွမ်းရည် အသေးအဖွဲလေးနဲ့ ကျွန်မကို ထိုးနှက်လာတယ်။ (အုပ်ချုပ်မှုစွမ်းရည် ဆိုသည်မှာ ဖလောရင့် ထူးချွန်သော နယ်ပယ်ပင်။) သူက ကျွန်မကို ပလေတိုအကြောင်း သတိပေးတယ်။ ကောင်းမှုစံနဲ့ မကောင်းမှုစံ အကြောင်း ပြောတယ်။ သမ္မတစနစ် ဖြစ်ဖြစ်၊ သက်ဦးဆံပိုင် ဘုရင်စနစ်ဖြစ်ဖြစ် သူ ဂရုမစိုက်ကြောင်း ပြောတယ်။ သူ လိုချင်တာ အမှန်တရားပဲ တဲ့။ အလို ... အလို ... ဒီလို လက်တွေ့မကျဘဲ ပြောဆိုတာ သနားစရာ ကောင်းလိုက်ပါဘိ။

ဖလောရင့်ထံသို့ တော်ဝင် မင်းမျိုးမင်းနွယ်များ မကြာခဏ အလည်ရောက်လာကြသည်။ သို့ရာတွင် ထိုသူတွေမှာ ဆေးရုံနှင့် သူနာပြုလုပ်ငန်းတို့နှင့် ပတ်သက်၍ ကိုယ်တိုင် လက်တွေကျကျ စိတ်ဝင်စားမှု မရှိလျှင် သူတို့အတွက်တောင်မှ လူသူဝေးရာမှာ နေမည်ဆိုသော သူမ၏ စည်းမျဉ်းကို လျှော့ချမပစ်ပေ။ သို့မဟုတ်လျှင် သူတို့က အခမ်းအနားမပါဘဲ တစ်ဦးတည်း လာပါက သူမအနေဖြင့် "သူတို့ကို လက်ခံတွေ့ဆုံရန် အခြေအနေအပြည့်အဝ" မရှိပေ။ တော်ဝင်မျိုးနွယ် ဧည့်သည်တော်များထဲတွင် ပရပ်ရှားမိဖုရား[၃]၊ ဟော်လန်မိဖုရား[၄]၊ အဲလစ်မင်းသမီး[၅] နှင့် အိမ်ရှေ့မင်းသမီးဝိတိုရိယ[၆] တို့ ပါဝင်သည်။ ထိုပုဂ္ဂိုလ်များနှင့် တွေ့ဆုံရာတွင် ဆေးရုံနှင့် ဆက်စပ်နေသော အကြောင်းအရာများနှင့် ပတ်သက်၍ စိတ်ဝင်စားဖွယ်ကောင်းသော၊ အကျိုးရှိသော ကိစ္စများ ပြောဆိုဆွေးနွေးသည်။

သူမ၏ စာအဆက်အသွယ် လမ်းကြောင်းက လုံးဝ မပြတ်ပေ။ မိတ်ဆွေများနှင့် ဆွေမျိုးသားချင်းများက ဤဝန်ထုပ်ဝန်ပိုးကို သူမ၏ ပခုံးမှ လွှဲပြောင်းယူထားသည်။ အထူးသဖြင့် နာမည်ကျော် ခရိုင်းမီးယား ခရီးစဉ်

---

၁။ Garibaldi
၂။ Harriet Martineau
၃။ Queen of Prussia
၄။ Queen of Holland
၅။ Princess Alice
၆။ Crown Princess Victoria

တွင် မာဆေးအထိ သူမနှင့် အတူလိုက်ပါခဲ့သူ ဦးလေး ဆမ်စမစ်က တာဝန်ယူ ဆောင်ရွက်ပေးသည်။ ဖလောရင့်၏ အတွင်းရေးမှူးအဖြစ် ဆောင်ရွက်ရင်း သူ့အတွက် ညွှန်ကြားချက်များ ပေးထားသည့် စာရွက်၏ မာဂျင်မျဉ်းဘေး၌ ကြောင်ခြစ်သလို အသော့ရေးထားသည့် သူမ၏ မှတ်ချက်များ၊ ထင်မြင် သုံးသပ်ချက်များကို သူက သဘောကျသည်။ "သူမကို ချစ်ခင်သော၊ ဂုဏ်ပြုလိုသော၊ တစ်နေ့နေ့မှာ သူမနှင့် တွေ့ဆုံရန် မျှော်လင့်သော" အမျိုးသမီး တစ်ယောက်၏ စာကို ပြန်ကြားရန်အတွက် ဖလောရင့်က "အန်ကယ်ဆမ် ... အဲဒီအမျိုးသမီးကို ထားထားလိုက်ပါ။ ကျွန်မ သူ့ကို ဘယ်တော့မှ တွေ့ဖို့ အဆင်ပြေမှာ မဟုတ်ဘူး။ ဒီနေရာမှာ ဖြစ်စေ၊ အခြားနေရာမှာ ဖြစ်စေ အဆင်မပြေဘူးလို့ သူ့ကို ပြောပေးပါ။" ဟု ညွှန်ကြားထားသည်။

ဤညွှန်ကြားချက်များနှင့် ပတ်သက်၍ အန်ကယ်ဆမ် မကြာခဏ တခစ်ခစ်ရယ်ပြီး ပြောတတ်သည်။ "သူတို့တွေ နောက်ထပ် အသုံးမကျတဲ့ စာအုပ်တွေ မပို့ဘူးဆိုရင် ငါ ၂၁ သျှီလင် ပေးမယ်။ ပြီးတော့ အဲဒီ အလုပ်သဘော မဆန်တဲ့ မိန်းမက နောက်ထပ် အလုပ်သဘော မဆန်တဲ့စာတွေ မရေးပါစေနဲ့"၊ "သူ့ကို ဟန့်တားလိုက်ပါ။ သူက လက်ထပ်ဖို့ အခွင့်အရေးပဲ လိုချင်တယ်ဆိုတာ ကျွန်မ ယုံတယ်"

တောင်စဉ်ရေမရ မရေမရာ ရေးသားထားသော စာများနှင့် ပတ်သက်၍ သူမက ပြောသည်။ 'ထူးဆန်းတာက သူက မိဘ ဆုံးရှုံးတာလား၊ ကလေး ဆုံးရှုံးတာလား ဆိုတာတောင် မသိဘူး' လျှို့ဝှက်ကုသမှုနှင့် ပတ်သက်၍ စာရေးသူတစ်ယောက်ကို ဖလောရင့်က ထင်မြင်ချက်ပေးသည်။ "ဒီလို ရှာဖွေတွေ့ရှိမှုမျိုး ကျွန်မ လက်ထဲမှာ ရှိပြီး လျှို့ဝှက်ထားတယ် ဆိုရင် သူတို့က ကျွန်မကို ဘယ်လို ထင်မလဲ"

ထိုနှစ်များအတွင်း "ဆောက်သ်" လမ်း အိမ်၏ ဒုတိယထပ်ရှိ နောက်ဖေးဘက် အိပ်ခန်းနှင့် ဧည့်ခန်းတစ်ခုတွင် လုပ်ဆောင်လျှင် ဉာဏ်ပွင့်သည်ဟု ယူဆသဖြင့် သူမ၏ နေ့စဉ်လုပ်ငန်းနှင့် အင်တာဗျူးများကို ထိုအခန်းတွင် ပြီးမြောက်အောင် ဆောင်ရွက်သည်။ ထိုအခန်းက နှစ်လိုဖွယ်ကောင်းသည်။ အိပ်ခန်း၏ အပြင်ဘက်နံရံကို ထွင်း၍ ပြင်သစ် ပြတင်းပေါက်များ တပ်ဆင်ထားသည်။ စာအုပ်စင်များကို အဆင်ပြေပြေ နေရာချ

ထားသည်။ သူမ အလွန်နှစ်သက်သည့် ပန်းများက အခန်းကို လင်းလက်တောက်ပစေသည်။ နံရံတွေက အဖြူရောင်။ ကန့်လန့်ကာ ကာမထားသည့်အခန်းတွေမှာ အလင်းရောင်နှင့် ပန်းပွင့်တွေဖြင့် ပြည့်လျှမ်းနေသည်။

အခန်း၏ သိမ်မွေ့လှပမှု၊ နှစ်လိုဖွယ် ညှို့ငင်မှု၊ ကျက်သရေ ရှိမှုတွေက ဧည့်သည်ကို ဆွဲဆောင်နေသည်။ ဖလောရင့်က အိပ်ရာထဲ လှဲမနေလျှင် လက်တင်ကုလားထိုင်ကြီး တစ်ခုမှာ ထိုင်လေ့ရှိသည်။ လှလှပပထွင်းထုထားသည့် ရုပ်ပုံများနှင့် သူမ ငယ်စဉ်ကတည်းက အလည်ရောက်ခဲ့ဖူးသည့် ဆစ္စတင်းဘုရားကျောင်း မျက်နှာကြက် ဓာတ်ပုံများကြောင့်ရိုးရိုးစင်းစင်း ပရိဘောဂ ခင်းကျင်းထားသည့် ဧည့်ခန်းမှာ ဂုဏ်ကျက်သရေကို ဆောင်နေပေသည်။

သူမက နူးညံ့သော အနက်ရောင် ပိုးသားဝတ်စုံကို ဝတ်ဆင်လေ့ရှိသည်။ ရှောစောင်ကို ခြေထောက်အထိ လွှမ်းထားသည်။ အဖြူရောင်မှန်နိုင်လွန် လည်စည်းပဝါကို လည်မှာ ပတ်ထားပြီး မေးအောက်မှာ ချည်နှောင်ထားသည်။

အလုပ်ကို တက်တက်ကြွကြွ မလုပ်ဆောင်နိုင်သော်လည်း စိတ်ဓာတ်ရေးရာအရ ပျင်းရိလေးတွဲ့ခြင်း မရှိ။ စာတွေ အများကြီး ရေးသည်။ ဤချည့်ချည့်နဲ့နဲ့ အမျိုးသမီးက စာအုပ်ပေါင်း (၁၅၀) နီးပါး ရေးသား ထုတ်ဝေခဲ့သည်။ ဤရေးသားထုတ်ဝေမှု အချို့ကို မိတ်ဆွေများအကြား တစ်ဦးချင်းလှည့်လည်ဝေငှပြီး အများစုမှာ သူမ ကိုယ်ပိုင် အသုံးစရိတ်ဖြင့် ပုံနှိပ်ထုတ်ဝေခဲ့သည်။ သူမသာ စာရေးသားမှုဘက်သို့ အာရုံစိုက် ဦးလှည့်လည်လိုက်မည် ဆိုလျှင် သူမ၏ ထူးခြားပြောင်မြောက်သော စာပေရေးဟန်က သူမကိုအောင်မြင်မှုပန်းတိုင်သို့ ရောက်ရှိနိုင်ပေလိမ့်မည်ဟု သက်သေအထောက်အထား အားလုံးက ညွှန်ပြနေသည်။

၁၈၇၄ ခုနှစ်တွင် ပါသီ သူမ၏ ဖခင်ထံ အလည်သွားသည်။ သူမက ဖခင်ကို 'ဂွဒ်နိုက်' ဟု နှုတ်ဆက်အခါ အသက် (၈၀) အရွယ် ဖခင်အိုက '"ဂွဒ်နိုက်" လို့ မပြောနဲ့။ လင်းလက်တဲ့ ရာသီမှာ "ဂွဒ်မောနင်း" လို့ နှုတ်ဆက်ရမှာပေါ့' ဟု ပြောသည်။ နောက်နှစ်ရက် အကြာမှာ ဖခင် ကွယ်လွန်ပြီ ဆိုသော သတင်းက ဖလောရင့်ကို ထိတ်လန့်သွားစေသည်။ သူမကိုအကြီးအကျယ် သောကရောက်စေသည့် ဆုံးရှုံးမှုပင်။ ဖခင်က သူနာပြု

ဖြစ်ချင်သည့် သူမ၏ ပြင်းပြသော ဆန္ဒကို မိသားစုထဲမှာ ပထမဆုံး အားပေး တိုက်တွန်းခဲ့သူ ဖြစ်သည်။ ထို့ပြင် ဖခင်က သူမ၏ အခန်းမှ ဘယ်တော့မျှ မဖယ်ရှားသည့် တစ်ဦးတည်းသော ပုဂ္ဂိုလ် ဖြစ်သည်။ သူမက မကြာခဏ ဖခင်ထံ စာရေးသည်။

ကျွန်မက အဖေ့ကို တွေ့ဆုံဖို့ အမြဲတမ်း ကျန်းမာနေပါတယ်။ လူတိုင်း လူတိုင်းမှာ ဒီမရဏ ဒုက္ခ ရှိနေသမျှ ကာလပတ်လုံး တနင်္ဂနွေနေ့တိုင်းကို အဖေ့အတွက် အားလပ်ရက် ဖြစ်စေရပါမယ်။ ကျွန်မ အဖေ့ကို နောက်တစ်ကြိမ် ထပ်တွေ့ချင်ပါသေးတယ်။

ယဉ်ကျေးသိမ်မွေ့ ပျူငှာသော နာမည်ကျော် သမီးနှင့်အတူ ကုန်လွန်ခဲ့ရသော အချိန်နာရီများသည် ဝီလျံ နိုက်တင်ဂေးလ်၏ အမှတ်တရ ဖြစ်ရပ်များတွင် အတောက်ပဆုံး၊ အသာယာဆုံး အချိန်များ ဖြစ်သည်။ ဖခင် ကွယ်လွန်ချိန်ကထက် များစွာ ပို၍ အားနည်းလာသော ဖလောရင့်သည် နောက်ခြောက်နှစ်အကြာ ၂ ဖေဖော်ဝါရီ ၁၈၈၀ တွင် အသက် (၉၃) နှစ် အရွယ် မိခင်၏ "အိမ်အပြန်" ကြောင့် အကြီးအကျယ် ထိတ်လန့်တုန်လှုပ်ရပြန်သည်။

နောက်တစ်နေ့မှာ ဖလောရင့်က မိတ်ဆွေတစ်ယောက်ထံ စာရေးသည်။

၁၈၈၀ ခု၊ ဖေဖော်ဝါရီ ၂ ရက်။ ကျွန်မချစ်တဲ့ အမေ အလွန်ပင်ပန်းနွမ်းနယ်၊ အလွန်နာကျင် ခံစားရပြီးနောက် သန်းခေါင်ကျော်မှာ အိပ်ပျော်သွားတယ်။ နောက်ဆုံး သုံးနာရီက လုပငြိမ်းချမ်းနေတယ်။ အဲဒီတစ်ချိန်လုံး အမေ အနှစ်သက်ဆုံး ဓမ္မတေးတွေနဲ့ ဘုရားရှိခိုးတွေ အထပ်ထပ် ရွတ်ဆိုတာကို နားထောင်နိုင်၊ ပြုံးပြနိုင်တယ်။ အဲဒီအပြုံးက 'ငါ သေရတော့မှာပါ။ အားလုံး အဆင်ပြေတယ်' လို့ ပြောနေသလိုပါပဲ။ မနေ့ည ၉ နာရီတုန်းက လက်ကိုပိုက်၊ မျက်လုံးကိုမှိတ်၊ သူ့ဘာသာ လှဲချပြီး မရဏတရားကို သူမကိုယ်တိုင် ထိန်းချုပ်သွားတယ်။ သုံးနာရီအကြာမှာ ကျွန်မတို့ထက် ပိုချစ်ရတဲ့ 'မဟာမေတ္တာရှင်' ဆီ ထွက်ခွာသွားတော့တယ်။ အက်ဇီကီယယ်လ်[၁] ပြောတာ မင်း မှတ်မိသေးလား၊

---

၁။ Ezekiel

'ငါ့ဇနီး ကွယ်လွန်သွားတာတောင်မှ မနက်ကျတော့ ငါ့ကို အမိန့်ပေး ခံရသလို လုပ်ဆောင်နေမိတယ် ... တဲ့'။

မိဘများ ကွယ်လွန်ခြင်းအတွက် အမှတ်တရ ကတ်ပြားတစ်ခု ပြင်ဆင်ထားသည်။ ထိုကတ်ပြားပေါ်တွင် ဤစာသားများကို ရေးသားထားသည်။

ဘုရားသခင်အတွက် အသက်ရှင်ပါ၊ ထို့နောက် လူ့ဘဝကို ပြန်လာခဲ့ပါ။ သေဆုံးပါ။ ကျွန်မတို့က ဘုရားသခင်ရဲ့ လူတွေပါ။ ကျွန်မတို့ရဲ့ လုပ်ငန်းမှာ ဘုရားသခင်အတွက် ကိုယ့်ကိုယ်ကိုယ် လုံးဝ အသုံးချနိုင်ဖို့ ဘုရားသခင်က ကျွန်မတို့ကို အကူအညီ ပေးပါတယ်။

တစ်နေ့ထက်တစ်နေ့ ဖလောရင့်သည် နာတာရှည် လူမမာတစ်ယောက်အဖြစ် အသက်ရှင် နေထိုင်သွားသည်။ ဧည့်သည်အနည်းငယ်ကို ဆက်၍ လက်ခံတွေ့ဆုံသည်။ သူမ၏ စာအဆက်အသွယ်ကို စီမံပေးသူများအား လမ်းညွှန်သည့် အသိရခက်သော မှတ်ချက်များကို မာဂျင်မျဉ်းစောင်းတွင် ရေးသားသည်။ ၁၈၉၀ ပြည့် မေလတွင် သူမ၏အစ်မ မေရီဗားနေ ကွယ်လွန်သွားသည်။ ဖလောရင့်အတွက် သောကဝန်ထုပ်ကို ထပ်ထမ်းရပြန်သည်။

သူမ၏ ခင်ပွန်းက ဖလောရင့်ထံ စာရေးသည်။

ဘဝရဲ့ သာယာကြည်နူးမှုဆိုတာ ဘာလဲ ဆိုတာကို မင်းက သူများတွေထက် ပိုပြီး သူ့ကို အကြံပြုခဲ့ပါတယ်။ မင်းအတွက် သူ့အချစ်က အင်မတန် ကြီးမားတယ်။ မင်းအကြောင်း သူပြောတာ ကြားရတာ၊ သူ့မျက်နှာကို မြင်ရတာ ငါ့အတွက် ကျေနပ်စရာ သိပ်ကောင်းတယ်။ နာကျင်မှုကြောင့် ရှုံ့မဲ့နေတာ ဖြစ်ကောင်းဖြစ်မယ်။ ဒါပေမဲ့ မင်းအကြောင်း သူ တွေးနေတဲ့အခါ ပျော်ရွှင်နေပုံ ရတယ်။

သူမ၏စိတ်က မကြာခဏ အားလျော့နေသော်လည်း သူမအတွက် အသက်ရှင်နေထိုင်ရန် နှစ် (၂၀) ကျန်သေးသည်။ နာတာရှည် လူမမာဖြစ်နေသော်လည်း အသက် (၉၀) အထိ နေသွားရသည်။ ကျန်းမာရေး မကောင်းခြင်းကို ဆင်ခြေပေးပြီး အချည်းနှီး အလဟဿ နေထိုင်မသွားသော်လည်း ဤကျန်းမာရေးကပင် သူမ၏ အချိန်တွေကို မိုက်မိုက်မဲမဲ ဖြုန်းတီးခြင်း၊ အာရုံကြောစွမ်းအင်တွေ ဖြုန်းတီးခြင်းမှ ကာကွယ်ပေးခဲ့သည်။

ဘဝ၏ နှောင်းပိုင်းအချိန်တွင် ဖလောရင့်သည် အထူးဂုဏ်ပြုမှု နှစ်ခုဖြင့် ကောင်းချီးပေး ခံရသည်။ သူမသည် သတ္တမမြောက် အက်ဒွပ်ဘုရင်[၁] က ကောင်းစွာထိုက်တန်သည့် အရည်အသွေး ရှိသူများအား ချီးမြှင့်သော Order of Merit ဂုဏ်ထူးဆောင်ဘွဲ့ကို အပ်နှင်းခံရသည့် ပထမဆုံး အမျိုးသမီး ဖြစ်လာခဲ့သည်။ ဘုရင်က ဆာဒေါက်ဂလပ် ဒေါ်ဆင်[၂] ကို သူ၏ ကိုယ်စားလှယ်တော်အဖြစ် စေလွှတ်ပြီး ၁၉၀၅ ခုနှစ် ဒီဇင်ဘာလတွင် သူမ၏ နေအိမ်၌ ဂုဏ်ထူးဆောင်ဘွဲ့ကို ချီးမြှင့်သည်။ နောက်တစ်နှစ်တွင် လန်ဒန်မြို့တော်က နာမည်ကျော် ပုဂ္ဂိုလ်များအား အထူးလေးစား ချစ်ခင်မှုအဖြစ် သီးသန့် သတ်မှတ်ထားသော Freedom of the City ဟူသည့် ထူးခြားသော ဂုဏ်ထူးဆောင်ဘွဲ့ကို ချီးမြှင့်သည်။

"မီးအိမ်ရှင်" က စစ်မြေပြင်၊ စစ်စခန်း၊ တဲပုတ်နှင့် နန်းတော်တို့၌ သောကကို လျော့ပါးစေခြင်းဖြင့် မျှော်လင့်ချက် အလင်းရောင်ကို ဆောင်ကြဉ်းပေးခဲ့သည်။ ထိုမီးအိမ်ကို ကိုင်သည့်လက်က အားအင်ချည့်နဲ့နေသော်လည်း ဖလောရင့်က မီးအိမ်ကို ဆက်လက်သယ်ဆောင်ခဲ့သည်။ သူမ၏ ဘဝနိဂုံးချုပ်ရန် နီးကပ်လာသော နှစ်များတွင် ဧည့်သည်များအား တွေ့ခွင့်ပြုသော အချိန်၌ ဧည့်သည်တွေက သူနာပြုလုပ်ငန်းအကြောင်း ပြောလျှင် သူမ၏ မှတ်ဉာဏ်က မှုန်ဝါးဝါး ဖြစ်နေသည်။ သို့စေခါမူ စစ်သားတွေအကြောင်း ပြောသောအခါ အမှတ်ရ ပျော်ရွှင်စွာဖြင့် သူမ၏ မျက်နှာဝင်းလက်သွားသည်။ သူမ၏ နှလုံးသားကို ပေးအပ်ခဲ့သည်မှာ ထိုစစ်သားများ ဆီသို့ပင်။

၁၃ ဩဂုတ် ၁၉၁၀ တွင် ဖလောရင့် ငြိမ်းငြိမ်းချမ်းချမ်း အိပ်ပျော်သွားသည်။ ဗြိတိသျှ အုပ်ချုပ်ရေးအဖွဲ့က သူမအား ဝက်စ်မင်စတာ[၃] ကျောင်းတော်၌ သင်္ဂြိုဟ်ခွင့် ပေးသည်။ သို့ရာတွင် ဖလောရင့်၏ ဆွေမျိုးများက သူနာပြု တစ်ယောက်အဖြစ် သင်္ဂြိုဟ်စေလိုသည့် သူမ၏ ဆန္ဒကို သိသဖြင့် ဤဂုဏ်ပြုမှုကို ငြင်းပယ်လိုက်သည်။ အသုဘ အခမ်းအနားကို ရိုးရိုးစင်းစင်း ကျင်းပပြီးနောက် အရှေ့ဝယ်လို[၄] ဘုရားကျောင်းဝင်း၌ မိဘနှစ်ပါး၏ ဘေးတွင် မြှုပ်နှံပေးလိုက်သည်။ သူမ ဆန္ဒပြုခဲ့သည့်အတိုင်း

၁။ King Edward VII ၂။ Sir Douglas Dawson ၃။ Westminster
၄။ East Wellow

သူမ၏ ရုပ်အလောင်းကို သူမ၏ "တပ်သားကလေးငယ်" များက သယ်ဆောင် ရသည်။

အုတ်ဂူဘေး၌ သူမ အနှစ်သက်ဆုံး ဓမ္မတေးကို သီဆိုသည်။ သူမ၏ သူနာပြုများအား မငြီးမငွေ့ ဆိုပြလေ့ရှိသည့် ဓမ္မတေး တစ်ပုဒ်ပင်။

*ဘုရားသခင်ရဲ့ သားတော်*
*စစ်မြေပြင်သို့ ချီလေသော်*
*ဘုရင့်သရဖူ ပိုင်ဆိုင်ဖို့ပါနော်။*
*သွေးနီ အောင်လံတော် တလူလူ လွင့်*
*ဘုရားသခင့် ရထားထဲ*
*ဘယ်သူ လိုက်ပါသွားသလဲ။ ။*

နံရံလေးဖက်ရှိသော အထိမ်းအမှတ် အဆောက်အဦသည် မိသားစု သင်္ချိုင်းဂူကို ညွှန်ပြသည်။ နံရံသုံးဖက်တွင် ဖလောရင့်၏ အမေ၊ အဖေ၊ အစ်မတို့နှင့် ပတ်သက်သော ကျောက်စာများ ရေးထိုးသည်။ စတုတ္ထနံရံတွင် လက်ဝါးကားတိုင်ငယ်ပုံ ရှိပြီး *F. N., Born 1820. Died 1910.* ဟု ရေးထိုးထားသည်။

အင်္ဂလန်နှင့် ကမ္ဘာတစ်ဝန်းလုံးတွင် သူနာပြုလုပ်ငန်းကို ဂုဏ်သိက္ခာရှိသော အသက်မွေးဝမ်းကျောင်း လုပ်ငန်းအဖြစ် ဖန်တီးပေးခဲ့သည့် ဤအမျိုးသမီးကို ဂုဏ်ပြုရန်အတွက် အမှတ်တရ ဆုတောင်းပွဲများ ကျင်းပကြသည်။ မော်ကွန်းတိုင်များ စိုက်ထူကြသည်။ ဆေးရုံနံရံများတွင် သူမ၏ ရုပ်ပုံကို တွေ့ရသည်။ မေတ္တာ ကရုဏာတရား ကြီးမားသော နှလုံးသားများ ရှိသည့် မည်သည့်နေရာ မဆို၊ ဒဏ်ရာရသူနှင့် ဝေဒနာခံစားသူများအား ပြုစုစောင့်ရှောက်သော အကြင်နာလက်များ ရှိသည့် မည်သည့်နေရာ မဆို သူမကို ဂုဏ်ပြုကြသည်။

'ဘဝကို ရရှိတုန်း မင်းတို့ဘဝမှာ ရှင်သန်နေထိုင်ပါ' ဟု လုပ်ဖော်ကိုင်ဖက်များအား အကြံပြု တိုက်တွန်းသည်။

'ဘဝဆိုတာ အကောင်းဆုံး လက်ဆောင်မွန်ပါ။ ဘဝမှာ အသေးအဖွဲ ဆိုတဲ့အရာ ဘာမျှ မရှိပါ။ ဘုရားသခင်ရဲ့ ပညတ်တော်ကြောင့် အသေးအဖွဲတွေ ကင်းဝေးပြီး အကြီးမြတ်ဆုံး အရာတွေ ရှင်သန်လာတယ်။ ဒါပေမဲ့ ဘဝမှာ ရှင်သန်နေထိုင်ဖို့

မင်းတို့က ဘဝကို ထိန်းသိမ်း ကြပ်မတ်ပေးရမယ်။ တော်သင့်ရုံ ရည်ရွယ်ချက်တွေ၊ မှားယွင်းချွတ်ချော်တဲ့ လုပ်ဆောင်ချက်တွေ၊ မတည်တံ့တဲ့ ဆန္ဒတွေနဲ့ ဘဝကို ဖြုန်းတီး မပစ်နဲ့။ ဒါပေမဲ့ မင်းတို့ရဲ့ အတွေးအခေါ်၊ မင်းတို့ရဲ့ အလုပ်၊ မင်းတို့ရဲ့ အပြု အမူတွေ အားလုံး နိဂုံးပန်းတိုင် တစ်ခုတည်းဆီသို့ ဦးတည် စေရမယ်။ အဲဒီနိဂုံးဟာ မင်းတို့ကိုယ်တိုင်မှာ မရှိဘူး။ ဘုရား သခင်ထံမှာပဲ ရှိတယ်။ အဲဒါက တို့တွေ ပြောနေကြတဲ့ "စာရိတ္တ" ဆိုတဲ့ အရာပဲ'

**သစ်ဦးဝင်**

ည ၆ နာရီ ၃၀ မိနစ်
၂၀၁၈၊ ဩဂုတ် (၂၉) ရက်

# Florence Nightingale

(THE LADY OF THE LAMP)

Basil Miller



အလွန် ချမ်းသာ ကြွယ်ဝသော လူတန်းစားမှ ရွှေလင်ပန်းနှင့် အချင်းဆေးကာ ရွှေဇွန်းကိုက်၍ မွေးဖွားခဲ့သော်လည်း စွန့်လွှတ် အနစ်နာခံခြင်း ယဇ်ပလ္လင်ထက်တွင် ဘဝကို ပေးလှူသွားခဲ့သူ မဟာကရုဏာတော်သခင်၊ စွန့်ဦး ပရဟိတ ပွဲကိုင်ရှင် အမျိုးသမီးတစ်ဦး၏ အတ္ထုပ္ပတ္တိ။

**သစ်ဦးဇင်**

(မြန်မာပြန်)

မဟာကရုဏာသခင်၊ မီးအိမ်ရှင်

**ဖလောရင့် နိုက်တင်ဂေးလ်**

YP 479

9781995004792